အပ္ပမာဒစာစဉ်





# ဗုဒ္ဓဘာသာဝင်များနှင့် နတ်ကိုးကွယ်မှု ရှင်းတမ်း

(ဘာသာရေးဆိုင်ရာ သုတေသနစာတမ်း)

ဒေါက်တာ အရှင်ဓမ္မပိယ (ပါမောက္ခ)

အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်၊ ရန်ကုန်။

2008.GRAPHIC DESIGN : KYAW MINN MOUNG

လူသားကိုယ်တိုင်မွေးချယ်နိုင်၏။ လူသားတို့၏ စဉ်းစားတွေးခေါ်မှု၊ ကြိုးပမ်းအားထုတ်မှုများသည် အလွန်ပင်အစွမ်းထက်၍ လောကကြီးကိုပင် ဖန်တီးနိုင်စွမ်းရှိ၏။ လူသားများမှာ ပင်ကိုသဘာဝစွမ်းရည်များ၊ ဖန်တီးနိုင်သောစွမ်းအားများရှိ၏။ သို့ရာတွင် အကြောက်တရားနှင့် တွယ်တာစိတ်များက လူသားတို့၏ စဉ်းစားဉာဏ်ကို အားနည်းစေပြီး ကိုးကွယ်ရာရှာရေးသို့သာ တွန်းပို့ပေးခဲ့လေသည်။

လူသားတို့၏ ဘဝကို ဖန်တီးပေးနေသည့် စစ်မှန်သောအကြောင်းတရားများကို ကြီးမားထက်မြက်သော အသိဉာဏ်ဖြင့်သာ သိနိုင်မြင်နိုင်၏။ ထိုအသိဉာဏ်များ မရရှိခြင်း၊ ဆင်းရဲဒုက္ခကိုကြောက်၍ ချမ်းသာသုခကို တွယ်တာမက်မောခြင်းဟူသော အားနည်းချက်များက လူသားများကို နတ်ကိုးကွယ်မှုနယ်ပယ်မှ ရုန်းမထွက်နိုင်အောင် စွမ်းဆောင်ထားနိုင်ပေသည်။

သို့ရာတွင် ပါမောက္ခ ဒေါက်တာအရှင်ဓမ္မပိယ ရေးသားပြုစုအပ်သော ဤသုတေသနကျမ်းကို ဖတ်ရှုလေ့လာကြည့်ပါလျှင် အမှန်တရားကို ရှင်းလင်းပြတ်သားစွာမြင်နိုင်သော စဉ်းစားတွေးခေါ်ဉာဏ်ကို ရရှိနိုင်မည်ဖြစ်သည်။ ဤသုတေသနကျမ်းကို ဖတ်ရှုလေ့လာခြင်းဖြင့် ရရှိအပ်သော စဉ်းစားတွေးခေါ်ဉာဏ်သည် ဗုဒ္ဓဘာသာဝင်တို့အတွက် နတ်ကိုးကွယ်မှု၊ ရိုးရာယုံကြည်မှုအစွဲအလမ်းမှ ရုန်းထွက်နိုင်အောင် ကြီးမားသန်စွမ်းသော ခွန်အားတစ်ရပ်ကို ဖြစ်ပေါ်စေနိုင်လိမ့်မည်ဟု ယုံကြည်မျှော်လင့်မိပါသည်။

အမှန်တရား ထွန်းကားပါစေ။

အရှင်နန္ဒမာလာဘိဝံသ
ပါမောက္ခချုပ်
အပြည်ပြည်ဆိုင်ရာ ထေရဝါဒ
ဗုဒ္ဓသာသနာပြုတက္ကသိုလ်
မရမ်းကုန်းမြို့နယ်၊ ရန်ကုန် ။
၄-၅-၂၀၀၇



# မာတိကာ

| အကြောင်းအရာ | စာမျက်နှာ |
| --- | --- |

## နိဒါန်း စကားဦး

စာရေးသူငယ်စဉ်က မိခင်ကြီး နတ်တင်မည့်နေ့ဆိုလျှင် ပျော်ခဲ့ရသည်။ မိခင်ကြီးတစ်ယောက် အိမ်တွင်းနတ်မင်းကြီးကို ပူဇော်ပသရန် တစ်နှစ်တစ်ခါ ဆန်မှုန့်ဖြူ၊ ဆန်မှုန့်နီများကိုကြော်ပြီး ထိုမုန့်ဖြူ၊ ထိုမုန့်နီတို့နှင့် အိမ်တွင်းနတ်ကြီး (မင်းမဟာဂီရိ)အား ယုံယုံကြည်ကြည်ဖြင့် ပူဇော်ပသနေခဲ့သည်မှာ နှစ်ပေါင်းများစွာ ကြာခဲ့သည်။ မိခင်ကြီးတစ်ယောက် အိမ်တွင်း နတ်ကြီးထံမှ ဘာဆုတွေကို တောင်းယူခဲ့ပြီး၊ ဘာဆုတွေကို ရယူနိုင်ခဲ့သည်တော့ မသိ။ စာရေးသူတို့ မောင်နှမတစ်တွေမှာတော့ ဆန်မုန့်ဖြူ၊ ဆန်မုန့်နီကြော် လေးများကို အရသာရှိရှိ စားခဲ့ရ၍ မိခင်ကြီး နတ်တင်သည့်နေ့ဆိုလျှင် ကလေးပီပီ အပျော်ကြီး ပျော်ခဲ့ရသည်။

အသက်ရှည်ရှည် နေချင်ရှာသော မိခင်ကြီး၊ အနှစ်တစ်ရာ အသက်ရှည်၍ အနှစ်တစ်ရာတိုင်တိုင် နတ်တို့ကို ပူဇော်ပသချင်ရှာသော မိခင်ကြီး၊ စာရေးသူ၏ မိခင်ကြီးဆုံးပါးသွားခဲ့သည်မှာ ဆယ်စုနှစ်တွေပင် လေးခါကျော်လွန်သွားခဲ့ပြီ၊ ဘာသာတရားကို အလွန်ကိုင်းရှိုင်းပြီး၊ ဗုဒ္ဓရဲ့တရားတွေကို မြတ်မြတ်နိုးနိုး လေးလေးစားစား ကိုးကွယ်သော မိခင်ကြီးတစ်ယောက် ဘာကြောင့်များ

အိမ်တွင်းနတ်တွေကို ကိုးကွယ်ပူဇော်ပသ နေရသနည်း။ ကြောက်၍ပင်လော။ ခြောက်၍ပင်လော။ သို့မဟုတ် ဘာသာရေး အသိတရားများပဲ အားနည်းရှာ၍လော။

မိခင်ကြီးတစ်ယောက် မိသားစုဘဝလေးထဲမှ ပျောက်ကွယ်သွားခဲ့သည်မှာ ရက်တွေများစွာ၊ လတွေများစွာ၊ နှစ်တွေများစွာ ကြာသွားခဲ့ပြီ။ နှောင်းအတိတ်တို့သည်လည်း အရိပ်ပမာ ကျန်ရစ်ခဲ့ပြီ။ မိခင်ကြီးပူဇော်ပသခဲ့သော နတ်တွေနှင့်စပ်လျဉ်းသော အကြောင်းအရာတို့သည်လည်း နှစ်၊ လ၊ များစွာကြာခဲ့ပြီဖြစ်၍ စာရေးသူ၏ စိတ်ထဲမှာတော့ မေ့သလောက်ပင် ရှိနေခဲ့ပြီ။ သို့သော် ဗုဒ္ဓဘာသာဝင်တွေ ဘာ့ကြောင့်နတ်တွေကို ကိုးကွယ်ပူဇော်ပသ နေကြသနည်းဆိုသော နတ်တွေနှင့် စပ်လျဉ်းသောမေးခွန်းတစ်ခုကို အမေးခံရတော့မှ မိခင်ကြီးပူဇော်ပသခဲ့သော နတ်တွေအကြောင်းကို စာရေးသူ တစ်ဖန်ပြန်၍ စိတ်ဝင်စားလာခဲ့ပြန်သည်။ သိချင်တဲ့စိတ်တွေ၊ လေ့လာချင်တဲ့စိတ်တွေလည်း ပိုပြီးဖြစ်ပွားလာခဲ့သည်။ သည်တော့လည်း လွန်ခဲ့သော နှစ်မှစ၍ လက်လှမ်းမီသမျှ မိရိုးဖလာ နတ်ကိုးကွယ်မှုဆိုင်ရာ စာအုပ်စာပေများကို ရနိုင်သမျှစုဆောင်းပြီး ဖတ်ရှုလေ့လာခဲ့၏။ စာအုပ်စာပေများကို အတော်အတန် ဖတ်ရှုလေ့လာပြီးသောအခါ နတ်ကိုးကွယ်မှုဆိုင်ရာ သုတေသနစာတမ်းငယ် တစ်စောင်ကို ရေးရလျှင် ကောင်းမှာပဲဟု မျှော်လင့်မထားသော အကြံတစ်ခု စိတ်ထဲမှာ ဖြစ်ပေါ်လာခဲ့သည်။ သို့သော် ဤစာတမ်းမျိုးနှင့် ပတ်သက်ပြီး ရေးသားလိုသောဆန္ဒတွေ စိတ်ထဲမှာသာ ဖြစ်ပေါ်နေသော်လည်း ဤစာတမ်းမျိုးကိုရေးဖို့အတွက် လေးလေးနက်နက်စဉ်းစားရပြန်သည်။ အဓိကစဉ်းစားနေမိသောအချက်ကတော့ ရေးနိုင်၊မရေးနိုင်၊ရေးသင့်၊မရေးသင့်ပဲ ဖြစ်ပါသည်။

စာရေးချင်သည့်စိတ်တွေ မရှိသလောက်ဖြစ်နေသော စာရေးသူအတွက် ဤစာတမ်းမျိုးကို ရေးဖို့ဆိုလျှင်အားမသာသည့်ဘက်မှာ ရှိနေခဲ့သည်။ သင့်တော်သော အာဂမယုတ္တိ၊ သဘာဝယုတ္တိတို့ဖြင့် ရေးနိုင်၊ မရေးနိုင် ချိန်ဆကြည့်ရပြန်သည်။ သို့သော် စာရေးသူသည် ဤစာတမ်းကို ရေးသင့်၊ မရေးသင့် စဉ်းစားနေမိချိန်တွင် စာရေးသူ၏ ကျေးဇူးရှင်ဖြစ်သော မိခင်ကြီးကို အမှတ်





မထင် သတိရမိပြန်သည်။ သည်တော့လည်း စာတမ်းကို ရေးသင့်၊ မရေးသင့် အပြီးတိုင် မဆုံးဖြတ်မီ စာရေးသူ၏ မိခင်ကြီးမျက်နှာလေးကို စိတ်ကူးအာရုံမှာ မြင်နိုင်သမျှသော အစွမ်းဖြင့် ပုံဖော်ကြည့်မိပြန်သည်။ ထိုအခါ ဘာသာရေး ဗဟုသုတမရှိရှာ၍ ကြောက်ကြောက်လန့်လန့်နှင့် နတ်တွေကို ကိုးကွယ်ပူဇော်ပသနေခဲ့သော မိခင်ကြီး၏ မျက်နှာလေးကို မြင်ယောင်နေမိပါသည်။ မိခင်နှင့်တူသော သာသနာ့မိခင်တွေ၏ မျက်နှာလေးတွေသည်လည်း စာရေးသူ၏ စိတ်ကူးအာရုံမှာ တစ်ယောက်ပြီးတစ်ယောက် အစီအရီပေါ်လာခဲ့ပြန်သည်။ စာရေးသူ၏ မွေးမိခင်ကြီးသည် သက်ရှိထင်ရှားမရှိတော့သော်လည်း သာသနာ့ဝန်ထမ်း ရဟန်းတစ်ပါးအတွက် သဒ္ဓါတရားတွေ၊ စေတနာတရားတွေနှင့် တစ်နပ်စာ ဆွမ်းကအစ ဆွမ်းနပ်ပေါင်းများစွာကို လောင်းလှူခဲ့ကြပြီးဖြစ်ကြသော၊ လောင်းလှူနေဆဲဖြစ်ကြသော သာသနာ့မိခင်တွေကို အမိရင်းပမာ စိတ်မှာထားပြီး စာတမ်းရေးဖို့အတွက် စိတ်ကူးအာရုံမှာ ထည့်သွင်းစဉ်းစားကြည့်မိပြန်သည်။ ဤကဲ့သို့ စဉ်းစားကြည့်မိပြန်တော့လည်း ဤစာတမ်းကို ရေးသင့်သော အနေအထားဘက်က အားသာလာပြန်သည်။ နောက်ဆုံးမှာတော့ ဆုံးဖြတ်ချက်တစ်ခုကို ချနိုင်ခဲ့သည်။ မိခင်ရင်းပမာဖြစ်သော သာသနာ့မိခင်တွေအတွက်ရော၊ ဗုဒ္ဓမြတ်စာပေဆိုင်ရာ ဘာသာရေးဗဟုသုတများ နည်းပါးရှာကြသော ဗုဒ္ဓဘာသာဝင်တွေအတွက်ပါ တရားနှင့်လျော်ညီသော အသိဉာဏ်တွေကို မိမိမီသမျှ ပေးဝေနိုင်ရန် သတ္တိကိုလည်းမွေး၊ အချိန်ကိုလည်းပေးပြီး ဤသုတေသနစာတမ်းကို ကြိုးစားရေးတော့မည်ဟု ဆုံးဖြတ်ချက်ချနိုင်ခဲ့သည်။

''ဗုဒ္ဓဘာသာဝင်များနှင့် နတ်ကိုးကွယ်မှု ရှင်းတမ်း'' ဤစာတမ်းကို ရေးသားရာတွင် ဗုဒ္ဓစာပေဆိုင်ရာ ကျမ်းဂန်များကို မှီငြမ်းပြုရင်း၊ မြန်မာနိုင်ငံ၏ ထင်ပေါ်ကျော်ကြားလှသော နတ်နန်းများ တည်ရှိရာ ပုပ္ပါးတောင်နှင့် ပုပ္ပါးတောင်ခြေအနီးရှိ နတ်နန်းများသို့လည်းကောင်း၊ အိမ်တွင်းမင်းမဟာဂီရိ နတ်နန်းနှင့် မင်းမဟာဂီရိ၏ နှမတော် ဒေါ်မြတ်လှ နတ်နန်းသို့လည်းကောင်း၊ ညောင်ဦး ရွှေစည်းခုံဘုရားပရိဝုဏ်အတွင်းရှိ အတွင်း[illegible]

မင်း၊ ရွှေစည်းခုံဘုရားပရိဝုဏ် အရှေ့တောင်ထောင့်အရပ်ရှိ အပြင်'၃၇'မင်း နတ်ရုပ်များတည်ရှိရာ ဘိုးတော်သိကြားနှင့်'၃၇'မင်း နတ်နန်းများ၊ ရွှေစည်းခုံဘုရား၏ အနောက်တောင်ထောင့်အရပ်ရှိ အဖေ့ထက် သားတစ်လကြီးသော နတ်ရုပ်နှင့် အခြားနတ်ရုပ်များ တည်ရှိရာဖြစ်သော ဘုရားပရိဝုဏ်အတွင်းနှင့် အပြင်နေရာဌာနများသို့လည်းကောင်း၊ ပုဂံသဗ္ဗညုဘုရား၏ အနောက်ဘက် တစ်ဖာလုံခန့်ဝေးသော အရပ်၌တည်ရှိသော နတ်လှောင်ကျောင်းသို့လည်းကောင်း၊ မန္တလေးတိုင်း၊ အမရပူရမြို့အနီး၊ ရတနာ့ဂူဘုရားဝင်း အတွင်းမှာ တည်ရှိသော ပုပ္ပါးမယ်တော်ကြီး နတ်နန်းသို့လည်းကောင်း၊ မန္တလေးမြို့ မြောက်ဘက် တောင်ပြုံးရွာအနီး၌တည်ရှိသော တောင်ပြုံးမင်းနှစ်ပါး နတ်နန်းသို့လည်းကောင်း၊ ကိုယ်တိုင်သွားရောက်၍ လက်လှမ်းမီသမျှ လေ့လာသုတေသနပြုထားခြင်းကို အခြေခံ၍လည်းကောင်း ဤစာတမ်းကို ရေးသားပြုစုပါသည်။ ဤစာတမ်းကိုရေးသားပြုစုနေချိန်အတွင်း ဤစာတမ်းဖြစ်မြောက်ရေးအတွက် အကြံဉာဏ်ကောင်းများနှင့် သွားရေးလာရေးတို့ အကူအညီပေးခဲ့ကြသော ရဟန်းရှင်လူအပေါင်းတို့အား အထူးကျေးဇူးတင်ရှိပါကြောင်း ရေးဦးစွာပြောကြားလိုပါသည်။ ဗုဒ္ဓဘုရားတော်များအပေါ်မှာ အသိရှင်းပြီးမှ ဝိနယနှင့်အညီ တရားအလေ့အကျင့်ကောင်းများကို လိုက်နာကျင့်သုံးစေလိုသော စေတနာဖြင့် ဤစာတမ်းကို ရေးသားခဲ့ခြင်းဖြစ်၍ ဗုဒ္ဓစာပေကျမ်းဂန်များနှင့် မလျော်ညီသော အချက်အလက်များကို တွေ့ရှိနေပါလျှင် ''ဆိုရေးရှိက ဆိုအပ်လှ၏၊ ဆိုစများများ ထားပချေမိ ငါ့ဝန်ရှိခဲ့'' ဆိုသည့်အတိုင်း စာရေးသူအား မေတ္တာရှေ့ထား၍ အကြံဉာဏ်များ (သို့မဟုတ်) လိုအပ်ချက်များကို ရေးသားပေးပို့ကြပါရန် လေးလေးစားစား ဖိတ်မန်အပ်ပါသည်။ စေတနာဖြင့်ပေးပို့သော အကြံဉာဏ်ကောင်းများကို လေးစားစွာဖြင့် ခံယူနေလျက်ပါဟူ၍။





## အခန်း (၁)

### နတ်တို့အား ကိုးကွယ်ခြင်း အကြောင်းတရားများ

ဤသုတေသနစာတမ်းငယ်ကို ရေးသားသူသည် ဗုဒ္ဓဘာသာဝင် မိသားစုတစ်စုမှ ပေါက်ဖွားလာသော ဗုဒ္ဓဘာသာဝင်တစ်ဦးဖြစ်သည်။ သို့သော် မိရိုးဖလာ ဓလေ့ထုံးစံများကိုမူ လွယ်လွယ်နှင့် ခံယူတတ်သော ဗုဒ္ဓဘာသာဝင်မျိုးတော့ မဟုတ်ပါ။ စာရေးသူ ငယ်ရွယ်စဉ်က ဗုဒ္ဓဘာသာဝင်တွေ ပေါများလှသော မြန်မာနိုင်ငံမှာ အနေများခဲ့၍ ဗုဒ္ဓတရားတော်များ နက်ရှိုင်းပုံ၊ လေးနက်ပုံနှင့် သိမ်မွေ့လှပုံတို့ကို လေးလေးနက်နက် လေ့လာထားပြီး ဖြစ်သော်လည်း ဗုဒ္ဓဘာသာဝင်တို့၏ လူနေမှုစရိုက်၊ ဓလေ့ထုံးစံနှင့် နတ်ကိုးကွယ်မှုဆိုင်ရာတို့ကိုမူ လေးလေးနက်နက် မလေ့လာမိခဲ့ မစဉ်းစားမိခဲ့ဖူးပါ။ ပိုမိုတိကျအောင် ပြောရလျှင် ဗုဒ္ဓဘာသာဝင်တို့ ကိုးကွယ်မှုအပိုင်း၏ အုတ်အရောရော ကျောက်အရောရော ဖြစ်နေသော နတ်ကိုးကွယ်မှုဆိုင်ရာ ဓလေ့ထုံးစံများကို သတိမမူမိခဲ့ပါ။ စိတ်လည်း မဝင်စားခဲ့ပါ။

တာဝန်အရ နိုင်ငံရပ်ခြားတိုင်းပြည်များသို့ ခရီးများ သွားခွင့်ရပြီး၊ ဗုဒ္ဓဘာသာဝင်များနှင့် နတ်ကိုးကွယ်ခြင်းဆိုင်ရာမေးခွန်းများကို မမျှော်လင့်ဘဲ

အမေးခံရတော့မှ ဗုဒ္ဓဘာသာဝင်များနှင့် နတ်ကိုးကွယ်ခြင်းတို့သည် သူတို့အမြင်မှာတော့ ရောထွေးယှက်တင်နေသယောင် ရှိနေတာပဲဟု သတိပြုမိကာ ဤစာတမ်းကို ရေးသားရန် ဆန္ဒများ ဖြစ်ပေါ်လာခဲ့ခြင်းဖြစ်သည်။

တချို့နိုင်ငံခြားသားများသည် ထေရဝါဒတရားတော်၏ ဂုဏ်ကျေးဇူးများကြောင့် ဗုဒ္ဓဘာသာတရားတော်များကို မြတ်နိုးကြည်ညိုလာကြပြီး ထေရဝါဒသာသနာနှင့် ဆက်စပ်လာလျှင် စံထားလောက်သော မြန်မာနိုင်ငံတော်ကြီးဆီသို့ မရောက်ရောက်အောင် ယုံကြည်ချက်ဖြင့် ကြိုးစားပြီး လာခဲ့ကြသူတွေဖြစ်သည်။ ထိုအခါ ဗုဒ္ဓဘာသာဝင်များသည်ပင် သတိမမူဖြစ်နေခဲ့သော ဗုဒ္ဓဘာသာတရားနှင့် နတ်ကိုးကွယ်မှုဆိုင်ရာ ဓလေ့ထုံးစံများ ရောထွေးယှက်တင်နေသည်ကို သူတို့တွေ မြင်သွားကြတော့သည်၊ ဗုဒ္ဓဘာသာဝင်ဆိုသူတို့ ဘုရားပွဲအတွက် ပြင်ဆင်ထားသော အချို့ အဆိမ့်များ၊ ငှက်ပျောပွဲ အုန်းပွဲနှင့် နတ်တွေအတွက် ပြင်ဆင်ထားသောငှက်ပျော၊ အုန်းပွဲများအပြင် ချိတ်ဆွဲထားသော နတ်အုန်းသီးများကိုပါ တွေ့ကြရ၊ မြင်ကြရသောအခါ ထေရဝါဒဗုဒ္ဓဘာသာ တရားတော်များအပေါ်မှာ သံသယစိတ်တွေ ဝင်လာကြသည်။ သူတို့မှာ ဖြစ်နေသော သံသယစိတ်တွေကတော့ အများကြီးပင်၊ ၎င်းတို့အထဲမှ ထင်ရှားတာတစ်ခုကို ထုတ်ပြရလျှင် ဘုရား၊တရား၊သံဃာ ရတနာသုံးပါးကို ကိုးကွယ်နေကြသော ဗုဒ္ဓဘာသာဝင်တို့သည် နတ်တွေကို ဘုရားနှင့်တန်းတူ ရည်တူထား၍ အိမ်တွင်းမှာ ကိုးကွယ်ပူဇော်ပသနေကြခြင်းလော၊ သို့မဟုတ် ဘယ်လိုလဲ။ ဘုရားကို ကိုးကွယ်ပူဇော်ခြင်းမျိုးက တစ်ကဏ္ဍ၊ နတ်တွေကို ကိုးကွယ်၊ ပူဇော်ခြင်းမျိုးက တစ်ကဏ္ဍ၊ ဤကဏ္ဍနှစ်ခု ဘယ်လိုခြားနားနေပါသလဲ။ ဤကဲ့သို့သော သံသယစိတ်တွေ သူတို့မှာ ဖြစ်နေသည်။

နိုင်ငံခြားသားတွေက ဗုဒ္ဓဘာသာဝင်တွေရဲ့အပေါ်မှာ ဘာသာတရားကို ကိုးကွယ်မှု၊ ခံယူမှုတွေနှင့် ပတ်သက်ပြီး သံသယစိတ်တွေ ဖြစ်မည်ဆိုလျှင်လည်း ဖြစ်လောက်စရာပင်၊ အချို့ဗုဒ္ဓဘာသာဝင်ဆိုသူတို့သည် အိမ်မှာ ဘုရားအတွက် ပူဇော်ထားသော ငှက်ပျောပွဲ၊ အုန်းပွဲတွေကိုသာ အညိုးခံချင်ခံမည်။ နတ်တွေအတွက် ပူဇော်ပသထားသော ငှက်ပျောပွဲ အုန်းပွဲမျိုးတွေကိုတော့ ဘယ်





သောအခါမှ အညိုးမခံ၊ အမြဲတမ်းပဲ အသစ်အသစ်တွေနှင့် လဲလှယ်ပူဇော်ပေးနေကြသည်။ သေးကွေးလှသော ဘုရားရုပ်ပွားတော်လေးများသည် ခန့်ညားထည်ဝါလှသော နတ်ရုပ်တွေအနားမှာ မထင်မရှားအသွင်လေးနှင့် သီတင်းသုံးနေကြရသော အဖြစ်မျိုးတွေကလည်း အချို့အိမ်တွေမှာ ရှိနေဆဲဖြစ်သည်။ မြန်မာပြည်အနှံ့ ဟိုဟိုသည်သည် လှည့်လည်ကြည့်ရှုပြန်တော့လည်း နတ်ပွဲတွေ၊ ကနားပွဲတွေသည် ရပ်ကွက်တွေ၊ ရပ်ရွာတွေထဲမှာ ခြိမ့်ခြိမ့်ညံနေဆဲ။ ဤအခြေအနေတွေကို တွေ့နေရ၊ မြင်နေရတော့လည်း စူးစမ်းတတ်၊ ဆင်ခြင်တတ်၊ စဉ်းစားတတ်ကြသော နိုင်ငံခြားသားတွေ စဉ်းစားကြသည်မှာ ဆန်းတော့မဆန်းလှတော့ပါဟုသာ ဆိုရပေတော့မည်။

စာရေးသူသည် နတ်ကိုးကွယ်ခြင်းဆိုင်ရာ မေးခွန်းများကို အမေးခံရပြီးသည့်နောက်ပိုင်းမှာ ဗုဒ္ဓဘာသာဝင်များနှင့် နတ်ကိုးကွယ်မှုဆိုင်ရာ ဘာသာရေးပြဿနာတွေကို တော်တော်လေး စိတ်ဝင်စားလာသည်။ နတ်ကိုးကွယ်ခြင်းဆိုင်ရာကိစ္စတွေကိုလည်း မကြာမကြာစဉ်းစားကြည့်မိသည်။ နတ်ကိုးကွယ်မှုဆိုတာ အယူမှား၊ လမ်းမှားများသို့ လိုက်မှားတတ်ပြီး ပစ္စုပ္ပန်၊ သံသရာမှာ အကျိုးကျေးဇူးမဲ့များကို ဖြစ်စေနိုင်သည်ဆိုသည့် ပညာရှိ သူတော်မွန်တွေ ဆုံးမစကားများကိုလည်း အမှတ်ရနေမိပြန်သည်။ သည်လို အခြေအနေတွေ၊ အကြောင်းကြောင်းတွေကြောင့် စာရေးသူသည် နတ်ကိုးကွယ်မှုနှင့်ပတ်သက်ပြီး ဗုဒ္ဓစာပေကျမ်းဂန်များတွင် ဘယ်ပုံဘယ်နည်းဖြင့် ရှင်းလင်းဖော်ပြထားသည်ဆိုသည်ကို ပြန်၍လေ့လာရပြန်သည်။ တစ်ချိန်တည်းမှာပဲ ဆိုသလို နီးစပ်ရာ ဆရာတော်၊ သံဃာတော်များနှင့် နတ်ကိုးကွယ်မှုဆိုင်ရာ ဘာသာရေးပြဿနာတို့ကိုလည်း ဆွေးနွေးဖြစ်ခဲ့ကြသည်။

ဘာသာရေးနယ်ပယ်မှာ ယုံကြည်မှုဆိုင်ရာနှင့် ပတ်သက်ပြီး သိမ်မွေ့လှသော ဤစာတမ်းမျိုးကို ရေးရပြီဆိုလျှင် အချို့က ဤကဲ့သို့သော မေးခွန်းမျိုးများကိုလည်း မေးလာနိုင်ပါသည်။ မြန်မာနိုင်ငံမှာ ဗုဒ္ဓဘာသာဝင်ဦးရေ ဘယ်လောက်ရှိနေသလဲ။ နတ်ဘာသာဝင် ဦးရေကရော ဘယ်လောက်ရှိနေသလဲ စသော မေးခွန်းမျိုးတွေဖြစ်သည်။ အမေးရှိလျှင်တော့ အဖြေကလည်း ရှိစမြဲ

ပင်။ စာရေးသူအဖြေကတော့ "I don't know " ကျွန်ုပ်မသိပါဟူ၍သာ။ စာရေးသူ ဤစာတမ်းကို ရေးသားပြုစုရခြင်း၏ အဓိကရည်ရွယ်ချက်မှာ ဗုဒ္ဓဘာသာဝင် ဦးရေက ဘယ်လောက်၊ နတ်ဘာသာဝင်ဦးရေက ဘယ်လောက် ရှိသလဲဆိုတာကို စာရင်းကောက်ယူရန် မဟုတ်ပါ၊ အချိန်လည်း မပေးနိုင်ပါ။

သို့သော်နတ်ကိုးကွယ်မှုဆိုင်ရာနှင့်ပတ်သက်ပြီး အဖြူ အမည်း သဲကွဲအောင် စာရေးသူ အစီအစဉ်လေးတစ်ခုကိုတော့ ပြုထားတာရှိပါသည်။ ၎င်းအစီအစဉ်ကတော့ စာရေးသူရေးထားသော ဤသုတေသနစာတမ်းကို ဖတ်ရှုလေ့လာပြီးသောအခါ စာဖတ်သူကိုယ်တိုင်ပင် ငါသည် ဗုဒ္ဓဘာသာတရားကို လေးလေးစားစား၊ မြတ်မြတ်နိုးနိုး၊ နက်နက်ရှိုင်းရှိုင်းဖြင့် ကိုးကွယ်နေသူ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဟုတ်မဟုတ် ကိုယ်တိုင်ပဲ ထုတ်ဖော်ပြောကြားလာနိုင်မည့် အစီအစဉ်လေးတစ်ခုပင်ဖြစ်သည်။ ၎င်းအစီအစဉ်သည် စာရေးသူများ စာမေးပွဲဖြေဆိုခြင်းများကဲ့သို့ အမှတ်ပေးစနစ်ဖြင့် စီစဉ်ထားခြင်းမျိုးမဟုတ်၍ စာဖတ်သူနေလိုသောဘက်မှာ နေနိုင်အောင် စီစဉ်ထားခြင်းဖြစ်သည်။ အားနာစရာမရှိပါ။ ရိုးသားပွင့်လင်းစွာဖြင့် အရှိကို အရှိအတိုင်း၊ အမှန်ကို အမှန်အတိုင်း ထုတ်ဖော်ပြောကြားရန်သာဖြစ်သည်။ မှန်မှန်ကန်ကန် ပြောဆိုရဲသောသတ္တိမျိုးရှိဖို့ကတော့ လိုပါလိမ့်မည်။

မိမိကိုယ်ကိုမိမိ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဟုတ်မဟုတ် ကိုယ့်ကိုယ်ကို သိနိုင်ရန် စံထားပြီး လေ့လာရမည့် မှတ်ကျောက်တစ်ခုမှာ= (၁)သရဏဂုံသုံးပါး (ဘုရား, တရား, သံဃာ ရတနာသုံးပါး)ကို မိမိ၏ နှလုံးသားမှာတည်ထားပြီးသူ ဟုတ်မဟုတ်၊ (၂) ငါးပါးသီလမြဲမှု၊ ကံ, ကံ၏ အကျိုးတရားများကို လေးလေးစားစား မြတ်မြတ်နိုးနိုးဖြင့် လက်ခံထားသူ၊ သို့မဟုတ် ခံယူထားသူ ဟုတ်မဟုတ်၊ (၃) ရတနာသုံးပါးမှတစ်ပါး ကိုးကွယ်ရာ မရှိသူ သို့မဟုတ် ရတနာသုံးပါးမှတစ်ပါး နောက်ထပ်ကိုးကွယ်ရာကို ရှာနေသူ ဟုတ်မဟုတ်၊ ဤသုံးမျိုးကို အခြေခံထား၍ မိမိကိုယ်တိုင် ဗုဒ္ဓဘာသာဝင် ကောင်းတစ်ယောက် ဟုတ်မဟုတ် ဘာသာဝင် မှတ်ကျောက်ပေါ်မှာ တင်ကြည့်မည်ဆိုပါက စာရှုသူများကိုယ်တိုင်ပင် ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက်





ဟုတ်မဟုတ် အဖြေပေးလာနိုင်ပါလိမ့်မည်။[၁]

လူသားတစ်ယောက် ဖြစ်သင့်ဖြစ်ထိုက်သော အခြေအနေတစ်ခုမှာ မိမိနှစ်သက်ရာ ဘာသာတစ်ခုကို ရွေးချယ်ပိုင်ခွင့်ရှိသင့်ပါသည်။ လွတ်လပ်စွာ ကိုးကွယ်ခွင့်ကို ရရှိခြင်းသည် လူသားတိုင်း ရပိုင်ခွင့်ရှိသော မွေးရာပါအခွင့်ရေးမျိုးဟု ဆိုနိုင်သည်။ ဤကဲ့သို့ ရွေးချယ်ပိုင်ခွင့်ရှိအောင် စွမ်းနိုင်သောသူများမှ ကရုဏာနှလုံးသားဖြင့် ပြုလုပ်ပေးခြင်းသည် မဟာလူသားတို့၏ ကြီးမြတ်သော နှလုံးသားဟုဆိုနိုင်သည်။ သို့သော် လူသားတိုင်းသည် ဘာသာတရားကို လွတ်လပ်စွာ ကိုးကွယ်ခွင့်ရှိသည်ဆိုသော ခွင့်ပြုချက်ကို ခုတုံးလုပ်၍ ကိုယ်ကျိုးစီးပွားရှာနေတာမျိုး၊ အများ၏ ကိုးကွယ်မှုအခွင့်ရေးကို တစ်နည်းတစ်လမ်းဖြင့် ဖြားယောင်းသွေးဆောင်နေတာမျိုး၊ ဖျက်ဆီးနေတာမျိုး၊ ဘာသာ၊ သာသနာ ယဉ်ကျေးမှုကို အမည်းစက်ထင်အောင် ပြုမူ၊ပြောဆို၊ရေးသားနေခြင်းမျိုးကိုတော့ လုံးဝမလုပ်သင့်ပါ။ အဘယ့်ကြောင့်ဆိုသော် လူသားတိုင်း ရပိုင်ခွင့်ရှိသော အခွင့်အရေးကို လူသားအချင်းအချင်း အပြန်အလှန်စောင့်ရှောက်ပေးရမည့်အစား တစ်ပါးသူရဲ့ ယုံကြည်မှုကို နှောင့်ယှက်နေသော သဘောမျိုးတွေ သက်ရောက်နေခြင်းကြောင့်ဖြစ်သည်။ လူအနည်းစု၏ ဘာသာရေးခံယူချက် အတွက် လူအများစု၏ ဘာသာရေးယုံကြည်ချက်တွေကို အမည်းစက်တွေ ထင်စေခြင်းသည် ကောင်းသောလက္ခဏာ မဟုတ်ပါ။ အကယ်၍သာ လူသားတိုင်းသည် အထက်မှာဖော်ပြထားပြီးဖြစ်သော ပြုမူချက်တွေကို မပြုလုပ်ကြဘူးဆိုလျှင် ဘာသာကိုးကွယ်မှုဆိုတာ လူသားတိုင်းရပိုင်ခွင့်ရှိသော မွေးရာပါ ကိုယ်ပိုင်အခွင့်ရေးဖြစ်ကြောင်း မည်သူမျှငြင်းနိုင်မည်မဟုတ်ပါ။

---

၁။ အချို့ကလည်း သရဏဂုံတည်ထားပြီးသူတစ်ယောက်သည် ကြောက်၍ဖြစ်စေ၊ ခြောက်၍ဖြစ်စေ၊ လာဘ်လာဘကြောင့်ဖြစ်စေ၊ မိရိုးဖလာဓလေ့ထုံးစံကို မပယ်နိုင်သောကြောင့် ဖြစ်စေ၊ ဤအကြောင်းများအားလုံးကြောင့်ဖြစ်စေ၊ သို့မဟုတ် ဤအကြောင်းတစ်ခုခုကြောင့်ဖြစ်စေ နတ်ကို(နတ်များကို) ကိုးကွယ်နေလျှင် သရဏဂုံ မပျက်နိုင်ဟု ဆိုလိုချင်ကြသည်။သို့သော် အထက်မှာဖော်ပြပြီးဖြစ်သော ဘာသာဝင် မှတ်ကျောက်ပေါ်မှာတင်ပြီး မိမိကိုယ်ကို စစ်ဆေးရာတွင် ခြွင်းချက်ထား၍ စစ်ဆေးတာမျိုးကို စာရေးသူ၏ ဆန္ဒအရပြောရလျှင်တော့ မဖြစ်သင့်ပါဟူ၍။

ဖြူစင်သန့်ရှင်းပြီး စစ်မှန်သော ထေရဝါဒတရားတော်များကို အမည်းစက်တွေ စွန်းထင်းအောင် အများဆုံးပြုလုပ်နေကြသူများသည် နတ်တွေကို ခုတုံးလုပ်ပြီး ကိုယ်ကျိုး၊ ကိုယ့်စီးပွားရှာနေသောသူတွေ ဖြစ်သည်။ အများရဲ့ ကိုးကွယ်မှုအခွင့်အရေးကို တစ်နည်းတစ်လမ်းဖြင့် ဖြားယောင်းသွေးဆောင်ပြီး ကိုယ်ကျိုးကိုယ့်စီးပွားကို ရှာနေကြသောပုဂ္ဂိုလ်များထဲတွင် နတ်ဝင်သည်တွေနှင့် ဘိုးတော်ဘွားတော်ဆိုသူများသည် ရှေ့တန်းမှ ပါဝင်နေသည်။ ဤသူတွေအတွက် မေးခွန်းထုတ်စရာ အချက်အလက်တွေ၊ ဆွေးနွေးတင်ပြရန် အချက်အလက်တွေ များပြားလှသော်လည်း မေးခွန်းထုတ်၍ ဖြေကြားရန်၊ ဆွေးနွေးရန် ဤစာတမ်းတွင် အချိန်မပေးနိုင်သောကြောင့် ဤစာတမ်းအတွက် အဓိကဆွေးနွေးတင်ပြလိုသော မိရိုးဖလာနတ်ကိုးကွယ်မှုနှင့်စပ်လျဉ်းသော မေးခွန်းတစ်ခုကိုသာထုတ်၍ ဆွေးနွေးတင်ပြလိုပါသည်။ **အဘယ့်ကြောင့် လူသားတွေ (ဗုဒ္ဓဘာသာဝင်တွေ) နတ်တွေကို ကိုးကွယ်ရာအဖြစ် သတ်မှတ်၍ ကိုးကွယ်ပူဇော်ပသနေကြသနည်း။**

ဤမေးခွန်းသည် ဤသုတေသနစာတမ်းအတွက် အရေးကြီးသော အဓိကသော့ချက်ဖြစ်သည်။[၂] ဤနေရာ၌ အထူးပြုပြောကြားလိုသည်မှာ ဤစာတမ်းသည် နတ်ကိုးကွယ်မှုဆိုင်ရာနှင့်ဆက်စပ်သော အကြောင်းအရာများကိုသာ အခြေခံပြုထားသောစာတမ်းဖြစ်၍ နတ်ကိုးကွယ်မှုဆိုင်ရာနှင့် ဆက်နွယ်သော အကြောင်းတရားများကိုသာ ဤစာတမ်း၌ အထူးပြုဆွေးနွေးတင်ပြပါမည်။ အောက်ဖော်ပြပါအချက်အလက်များသည် နတ်များကိုကိုးကွယ်ခြင်း၏ အဓိကကျသော အခြေခံအကြောင်းတရားများဖြစ်ကြောင်း လေ့လာသိရှိရသည်။

နတ်ကိုးကွယ်ခြင်း၏ အခြေခံအကြောင်းတရား (၅)ပါး–

၁။ ကြောက်၍ ကိုးကွယ်ခြင်း၊

၂။ လာဘ်ကို ငဲ့၍ ကိုးကွယ်ခြင်း၊

၃။ အားကိုး၊ အားထားပြုလို၍ ကိုးကွယ်ခြင်း၊

၄။ မိရိုးဖလာ ဓလေ့ထုံးစံများကို မစွန့်ပယ်ဝံ့၍ကိုးကွယ်ခြင်း၊

၅။ မသိနားမလည်ခြင်း၊ အယူလွဲမှားခြင်းတို့ကြောင့် ကိုးကွယ်ခြင်း ဟူ၍ နတ်ကိုးကွယ်ခြင်းဆိုင်ရာ အခြေခံအကြောင်းတရားငါးပါးကို တွေ့ရပါသည်။

## ၁။ ကြောက်၍ ကိုးကွယ်ခြင်း

ကမ္ဘာဦးကာလမှစ၍ ယနေ့ထက်တိုင်အောင် လူသားများသည် ကိုးကွယ်ရာတစ်ခုခုကို ရှာကြပြီး ကိုးကွယ်နေကြခြင်းသည် အစဉ်အလာကြီးတစ်ခုဟု ဆိုနိုင်ပါသည်။ ဥပမာ– ပေါက်ကွဲတတ်သော မီးတောင်ကြီးနားမှာ နေကြသောလူတို့သည် သဘာဝအလျောက် မီးတောင်ကြီးပေါက်ကွဲပြီး လူတွေ၊ တိရစ္ဆာန်တွေ ဒဏ်ရာတွေ ရကြ၊ သေကြေပျက်စီးကြရတာမျိုးတွေကို တွေ့မြင်ကြရသောအခါ "မီးတောင်စောင့်နတ်မင်းကြီးသည် ငါတို့ကို စိတ်ဆိုးလေပြီ" ဟု အထင်ရောက်ကာ မီးနတ်ကြီးကို စတင်၍ ကိုးကွယ်ပူဇော်ပသခဲ့ကြသည်။ ထိုနည်းတူစွာပင် မိုးနတ်၊ လေနတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်၊ သစ်ပင်စောင့်နတ်တွေကိုလည်း အကြောက်တရားကို အခြေခံပြီး ကိုးကွယ်ပူဇော်ပသခဲ့ကြသည်။

အသိဉာဏ်နည်းပါးပြီး၊ အကြောက်တရားကြီးသူတို့သည် ဘယ်အရာမျိုးကိုမဆို လွယ်လွယ်နှင့်ကိုးကွယ်တတ်ကြခြင်းသည် လူသားများ၏မွေ့တာဟု ဆိုရပေမည်။ ကမ္ဘာဦးကာလမှစ၍ ယနေ့ထက်တိုင်အောင် လူသားတွေ

[၂] ဤနေရာ၌ အလျဉ်းသင့်၍ ပြောပြလိုသည်မှာ သုတေသနစာတမ်းတစ်စောင်ကို ရေးရတော့မည်ဆိုလျှင် စာတမ်းအတွက် အရေးကြီးသော သော့ချက်ကို ကြိုတင်၍ သိထားသင့်ပါသည်။ နားလည်သဘောပေါက်ထားသင့်ပါသည်။ ဤကဲ့သို့ နားလည်သဘောပေါက်ထားပြီးနောက် အာဂမယုတ္တိ, သဘာဝယုတ္တိတို့ကို အခြေခံလျက် ထိုပြဿနာ၏ အဖြေကို စနစ်တကျ ရှာဖွေရပါမည်။သုတေသနပြုရပါမည်။ ထို့အပြင် စာရေးသူ၏အမြင်၊ စာရေးသူ၏သဘောထားများကိုလည်း တင်ပြနိုင်စွမ်းရှိရပါမည်။ ဤစည်းကမ်းများကို လိုက်နာလျက် သုတေသနပြုမည်ဆိုလျှင် သင့်တင့်လျောက်ပတ်သော သုတေသနစာတမ်းတစ်စောင်ကို ရရှိနိုင်ကြောင်း တင်ပြလိုပါသည်။

ဤကဲ့သို့သော ဓမ္မတာသဘောတရားတွေကို မလွန်ဆန်နိုင်ကြခြင်းသည် အသိဉာဏ်နည်းပါးခြင်း၊ ဆင်ခြင်တုံ မြော်မြင်တုံတရားများ နည်းပါးခြင်းစသော အကြောင်းတရားများကြောင့် ဖြစ်နိုင်သည်။ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် အနေနှင့် ဖြစ်သင့်သည်မှာ တစ်စုံတစ်ခုကို ကိုးကွယ်မှုပြုတော့မည်ဆိုလျှင် ထိုအမှုကို မပြုမီ ထိုအရာသည် စစ်မှန်စွာကိုးကွယ်ထိုက်သော အရာဖြစ်မဖြစ် သတိတရားဖြင့် စဉ်းစား၍ ဆင်ခြင်ပြီးမှ ကိုးကွယ်သင့်ပါသည်။ အကြောက်တရားဖြင့် ကိုးကွယ်နေရခြင်းမျိုးသည် ပညာအားနည်းသူတို့၏ လောကဓမ္မတာ တစ်ခုသာဖြစ်ကြောင်း သိနိုင်သည်။ ထို့ကြောင့် အရာရာကို ဉာဏ်သတိယှဉ်လျက် စဉ်းစားနိုင်ကြခြင်းသည် ပညာရှိလက္ခဏာဟု ဆိုနိုင်သည်။

## ၂။ လာဘ်ကို ငဲ့၍ ကိုးကွယ်ခြင်း

လောကီဘုံ၌ ပျော်နေကြသော လူသားတို့သည် ကိုယ်ကျိုး၊ ကိုယ့်စီးပွားကိုသာ အလေးထားပြီး ကြည့်တတ်ကြသော အတ္တသမားတွေသာ များပါသည်။ ကိုယ်ကျိုး၊ ကိုယ့်စီးပွားသာ ဖြစ်မည်ဆိုလျှင် ဘာမဆိုလုပ်ရဲခြင်း၊ လုပ်နိုင်ခြင်းတို့သည် အတ္တ၏အစွန်းထွက်နေမှုကို မီးမောင်းထိုးပြနေသကဲ့သို့ ဖြစ်သည်။ ကိုယ့်ဘက်ကသာ အမြတ်အစွန်းရမည်ဆိုလျှင် စီးပွားရှိ ရှိသလို၊ ပညာရှိ ရှိသလို၊ အာဏာရှိ ရှိသလို၊ ကိုယ့်ပါဝါ၊ ကိုယ့်အာဏာတို့ကို အသုံးပြုလျက် မလုပ်သင့်သည်များကိုလည်း လုပ်မိတတ်ကြသည်။ ဥပမာ– ပုဏ္ဏားတို့၏ ယတြာ, ဗေဒင်နည်းအရ ဟောကြား၊ ပြောကြားသည့်အတိုင်း ရှင်ဘုရင်ဆိုသူတို့သည် သူတို့ အသက်၊ အိုးအိမ်၊ စည်းစိမ်တွေအတွက် လူတွေ၊ ကျွဲတွေ၊ နွားတွေ၊ ဆင်တွေ၊ မြင်းတွေကို သတ်ပြီး ယဇ်နတ်တွေကို ပူဇော်, ပသခဲ့ကြသည်။ ရှေးခေတ်၊ ရှေးအခါက ရှင်ဘုရင်ဆိုသူတွေ၏ အပြုအမူများကို ပြန်လည်သုံးသပ်ကြည့်ခြင်းအားဖြင့် သိနိုင်ပါသည်။

သံသရာဆိုသည့် ဝဲဃက်ထဲမှ မလွတ်နိုင်အောင် ရှိနေကြသေးသော ပုထုဇဉ်တို့၏ မိုက်ရဲသောသတ္တိသည် အရိယာတို့၏ အမြင်နှင့်ကြည့်လျှင် အံ့ဩစရာဖြစ်နေသည်။ အတ္တနှင့်ပြုခဲ့သော အမှားတွေအတွက် ပေးဆပ်ခဲ့ရ





သော ဘဝတွေကလည်း ကမ္ဘာပေါင်းအသင်္ချေ၊ အတ္တသံသရာကြီးထဲမှာ အမှန်တရားတွေကို မမြင်နိုင်ကြ၍ ရှေးကလူတွေလည်း အမှားပေါင်းများစွာကို ပြုခဲ့ကြပြီ။ ယခုခေတ်လူတွေလည်း အတ္တဖြင့် ဘောင်ခတ်ထားသော ဒီအမှား သံသရာထဲမှ အမှားတွေကို မကျော်လွန်နိုင်အောင်ဘဲ ရှိနေခဲ့ကြပြန်သည်။ ဥပမာ– ထမင်းကိုပင် နပ်မှန်အောင် မစားရရှာသော မိသားစုဘဝလေးကို ကရုဏာနှလုံးသားဖြင့် ငဲ့ကွက်မှုမပြုနိုင်ကြ၍ အတ္တကြီးသော အရက်သမားသည် ကိုကြီးကျော်ဟုခေါ်နေကြသည့် လေထဲက နတ်မင်းကြီးကို ကြက်ကြော်တွေ၊ ဘဲကင်တွေ၊ ထန်းရေ,အရက်တို့နှင့် ပူဇော်,ပသပြီး၊ ထိုအရက်သေစာတို့ဖြင့် သောက်စား, မူးယစ်ပျော်နိုင်ကြသေးသည့် အဖြစ်မျိုးတွေသည် အမူးသမားများ၏ အတ္တမျိုးပင်ဖြစ်သည်။ တရားသဘောနှင့် ယှဉ်တွေးကြည့်လျှင်တော့ ကြောက်စရာကြီးပင်။

မလုပ်သင့်, မလုပ်ထိုက်သော အမှုမျိုးတွေကို ကိုယ့်အကျိုး၊ ကိုယ့်အတ္တအတွက် ပြုရဲကြသည့် သမိုင်းထဲက ရှင်ဘုရင်တွေ၊ပြည်သူပြည်သားတွေ၏ လွဲမှားသော ကိုးကွယ်မှုတွေသည်လည်း ဉာဏ်နှင့်ယှဉ်ပြီး သုံးသပ်ဆင်ခြင်ကြည့်မည်ဆိုလျှင် ပစ္စုပ္ပန် သံသရာအတွက် ကြောက်စရာကြီးပင် ဖြစ်သည်။ ဉာဏ်နှင့်ယှဉ်ပြီး စဉ်းစားသင့်သည်မှာ တစ်ဘဝစာချမ်းသာမှုမျိုးထက် တစ်သံသရာစာချမ်းသာမှုမျိုးကို ရစေနိုင်သော အပြုအမူမျိုးတွေကို စဉ်းစားသင့်ကြပါသည်။ ဤကဲ့သို့ ဉာဏ်နှင့်ယှဉ်ပြီး စဉ်းစားခြင်းမျိုးသည် သူတော်ကောင်းဓာတ်ခံရှိသူတို့၏ အမူအကျင့်ပင်ဖြစ်သည်။

## ၃။ အားကိုး အားထားပြုလို၍ ကိုးကွယ်ခြင်း

လူသားများ စိတ်နေ, စိတ်ထားသည် ကိုယ် မစွမ်းလျှင် စွမ်းနိုင်သော သူ့ရဲကောင်းကို အားကိုးချင်ကြသည်။ ဤစိတ်မျိုးတွေသည် မြန်မာပြည်သူတို့မှာ အလေ့အကျင့်ကြီးတစ်ခုလို ဖြစ်နေပြီ။ ကိုယ့်အစွမ်းကို ကိုယ် အားမကိုးလိုခြင်း သို့မဟုတ် အားမကိုးတတ်ခြင်းသည် လူသားတစ်ယောက်၏ အဆတိုးတက်ရေး အခွင့်အလမ်းကို ကိုယ်တိုင်ပင် ဖျက်ဆီးသည်နှင့် တူနေသည်။

ဤကဲ့သို့သော စိတ်ဓာတ်မျိုးကွေ ရှိနေသူများသည် ကိုယ့်ကိုးကိုယ်ထက် သူတစ်ပါးကိုသာ အားကိုးလိုသော စိတ်တွေ များနေတတ်ကြသည်။ လူထဲက စွမ်းလျှင်စွမ်း၊ လူထဲက မစွမ်းလျှင် စွမ်းနိုင်မယ်ထင်သည့် နတ်ဒေဝါများကို အားကိုးတကြီးနှင့် ကိုးကွယ်,ပူဇော်ပသနေတတ်ကြသည်။ ဥပမာ-ပန်းပဲ မောင်တင့်တယ်လို ပုဂ္ဂိုလ်မျိုးအပေါ်မှာ အားကိုးတကြီးနှင့် ကိုးကွယ်, ပူဇော်ပသမှုမျိုးဖြစ်သည်။ မောင်တင့်တယ်ကို ခွန်အားဗလကြီးမားသော၊ အားကိုး, အားထားပြုလောက်သော သူရဲကောင်းကြီးတစ်ယောက်ရယ်လို့ ထိုခေတ်ထိုအခါက မြန်မာတို့ ယူဆထားခဲ့ကြသည်။

ဤကဲ့သို့သော အခြေအနေမျိုးများကြောင့် တကောင်းဘုရင်သည် မောင်တင့်တယ်ကို စိုးရိမ်စိတ်နှင့် မတရားသတ်ဖြတ်ခဲ့သည်။ ဤမတရားလုပ်ရပ်အတွက် မောင်တင့်တယ်အပေါ်မှာ မေတ္တာစိတ်တွေ၊သနားကြင်နာစိတ်တွေ သက်ဝင်နေကြသော ပြည်သူများသည် မောင်တင့်တယ်ကို အားကိုး, အားထားပြုလိုကြသောစိတ်ကြောင့် အစိမ်းသေ (အရှင်လတ်လတ်သေ) သေသွားသော မောင်တင့်တယ်ကို နတ်ဖြစ်သွားသည်ဟု ထင်မြင်ယူဆလိုက်ကြသည်။ နတ်ဘဝမှာလည်း အစွမ်းသတ္တိတွေ, တန်ခိုးအာနုဘော်တွေနှင့် ပြည့်စုံသော နတ်မင်းကြီးတစ်ပါးဖြစ်မှာပဲဟု ယူဆလိုက်ကြပြီး၊ မောင်တင့်တယ်ကို အားကိုး, အားထားရာအနေနှင့် ကိုးကွယ်, ပူဇော်ပသခဲ့ကြသည်။ နောက်ပိုင်းတွင် မောင်တင့်တယ်တို့ နတ်မောင်နှမသည် ပုဂံကို ရောက်လာပြီး ရှင်ဘုရင်နှင့် ပြည်သူများကပါ ကိုးကွယ်, ပူဇော်ပသခဲ့ကြ၍ တစ်နိုင်ငံလုံး၏ အားကိုး, အားထားပြုရာ ''မင်းမဟာဂီရိ'' ဘွဲ့ခံ အိမ်တွင်းနတ်မင်းကြီးဖြစ်လာခဲ့သည်။

ဤနေရာ၌ ဉာဏ်, သတိယှဉ်ပြီး စဉ်းစားသင့်သော အချက်တစ်ခုမှာ မောင်တင့်တယ်တို့ မောင်နှမနှစ်ယောက် သေဆုံးစဉ်အခါက တကယ်ပဲ နတ်ဖြစ်သွားတယ်၊မဖြစ်သွားဘူးဆိုသည်ကို မည်သူမျှ တိတိကျကျ မသိရခြင်းပင်ဖြစ်သည်။ တကယ်ပင် နတ်စိမ်းများ ဖြစ်သွားကြသည်ထားဦး၊ သခါရနယ်ပယ်အတွင်းမှာရှိကြသော သတ္တဝါတိုင်းသည် တန်ခိုးရှင်ကြီးပဲဖြစ်ဖြစ်၊ နတ်စိမ်းကြီးပဲ





ဖြစ်ဖြစ်၊ သေတတ်သည့် သင်္ခါရသဘောတရားကို မလွန်ဆန်နိုင်ခြင်းကိစ္စပင်ဖြစ်သည်။ ဖြစ်နိုင်ခြေရှိသည်မှာ ယခုလောက်ဆို မောင်တင့်တယ်တို့ နတ်စိမ်းမောင်နှမနှစ်ယောက် နတ်သက်ကြွေ၍ (သို့မဟုတ်)တစ္ဆေ သက်ကြွေ၍ ဘဝသစ်တစ်ခုခုဆီသို့ ရောက်ကောင်းရောက်နေနိုင်ပါသည်။[၃] သို့သော် ဉာဏ်၊ သတိမယှဉ်နိုင်ကြသေးသော သူတွေအတွက်တော့ ယုံကြည်မှုများတစ်ခုကို စွန့်လွှတ်နိုင်ဖို့ဆိုသည်မှာ လွယ်ကူလှသည့် အရာမျိုးတော့မဟုတ်ပါ။ သို့ရာတွင် တစ်စုံတစ်ခုကို အားကိုး, အားထားမှု ပြုလိုသည်ဆိုလျှင်တော့ ဖြစ်သင့်သည်မှာ အားကိုး,အားထားမှုမပြုခင်မှာ အားကိုးသင့်သည်၊ မသင့်သည်ကို ဉာဏ်နှင့် ချင့်ချိန်ကြည့်သင့်ပါသည်။ စဉ်းစားဆင်ခြင်သင့်ပါသည်။ စဉ်းစားဆင်ခြင်ခြင်းသည် အသိဉာဏ်ရှိသူတို့၏ ဓမ္မတာသဘောတစ်ခုပင် ဖြစ်သည်။

## ၄။ မိရိုးဖလာ ဓလေ့ထုံးစံများကို မစွန့်ပယ်ဝံ့၍ ကိုးကွယ်ခြင်း

မြန်မာစကားပုံမှာ ''ရှေးထုံးကိုလည်း မပယ်နှင့်၊ ဈေးသုံးကိုလည်း မလွယ်နှင့်'' ဆိုသည့် ဆိုးရိုးစကားသည် အချို့နေရာများ၌ အကြောင်း, အကျိုး မဆီလျော်တော့သော ရှေးထုံးစကားများသာဖြစ်သည်။ ထိုရှေးထုံးစကားကြောင့် ခေတ်အခါအားလျော်စွာ ပြုပြင်ပြောင်းလွဲဖို့အတွက် ပြုပြင်ပြောင်းလွဲလိုသူတို့၏ စိတ်ဓာတ်ကို အင်အားချည့်နဲ့စေသည်။ ကိုးကွယ်မှုဆိုင်ရာနှင့် ပတ်သက်လာလျှင် လူအများစုသည်''ဥပါဒါန်ကြောင့် ဥပဒ်ရောက်'' နေတတ်ကြသည်။ ဥပမာ-နတ်ကိုကိုးကွယ်, ပူဇော်ပသနေသူတစ်ယောက်သည် အကြောင်းတစ်ခုခုကြောင့် ပြုနေကျဖြစ်သော ပူဇော်ပသမှုမျိုးကို တစ်ခါတလေများ ပျက်ကွက်သွားခဲ့ရသည်ဆိုလျှင် ငါ့ကို နတ်တွေ စိတ်ဆိုးတော့မှာပဲ ၊ငါ့ကို နတ်တွေ အမျက်ထွက်တော့မှာပဲ၊ ငါ့ကို နတ်တွေ ဖမ်းစားတော့မှာပဲဟု ထိုသူမှာ စိတ်တထင့်ထင့် ဖြစ်နေတတ်သည်။ ၎င်းဥပါဒါန်အစွဲများ

၃။ မြန်မာတွေ၏ ယုံကြည်မှုသည် တစ်ခါတစ်ရံ၌ တစ္ဆေကိုလည်း နတ်ဟု ယူဆတတ်ကြသည်။

ရှိနေသောကြောင့် မမျှော်လင့်ဘဲ ရုတ်တရက်ဆိုသလို တစ်စုံတစ်ရာဖြစ်လာခဲ့လျှင်လည်း ဥပမာ–ဖျားနာရောဂါမျိုးတို့၊ မတော်တဆထိခိုက်ဒဏ်ရာရတာမျိုးတို့ ဖြစ်လာခဲ့ပြီဆိုလျှင် ဖြစ်သိုန်တန်လို့ ဖြစ်ရတာပဲဟု မယူဆနိုင်ကြတော့ဘဲ၊ ငါ့ကိုတော့ နတ်တွေကိုင်ပြီဟု ယူဆသွားတတ်ကြသည်။

ဤနေရာမှာ နတ်တွေကို မယုံကြည်၊ မကိုးကွယ်သော ပုဂ္ဂိုလ်မျိုးဖြစ်နေခဲ့မည်ဆိုလျှင် နတ်တွေကို ယုံကြည်ကိုးကွယ်နေသော ပုဂ္ဂိုလ်တွေက ဝိုင်းပြီး (အခမဲ့) စောင့်ကြည့် နေတတ်ကြပြန်သည်။ အသွေးနှင့် အသားနှင့်တည်ဆောက်ထားသော လူသားများပေမို့ အခြားအကြောင်းများကြောင့် (မိုးမိခြင်း၊ အအေးမိခြင်းစသည့် အကြောင်းများကြောင့်) ဖျားနာခြင်း၊ နာစေးခြင်း၊ ထိခိုက်ဒဏ်ရာရခြင်းစသော မနှစ်မြို့ဖွယ်ရာအာရုံမျိုး တစ်ခုခုဖြစ်လာခဲ့ပြီဆိုလျှင် ခုနက စောင့်ကြည့်နေသောသူများသည် 'ဒါနတ်ဖမ်းစားလို့ ဖြစ်ရတာပဲ'ဟု ယူဆလိုက်ကြတော့သည်။ အသိဉာဏ်နည်းရှာကြသော လူတွေသည် တကယ်ပင် နတ်တွေနှင့် အလုပ်တွေ ရှုပ်နေကြသည်။ ဒီဥပါဒါန်အစွဲတွေကြောင့် မမှားသင့်သော အမှားမျိုးတွေကို ပြုလုပ်နေတတ်ကြပြီး၊ အမှားသံသရာတွေ လည်နေရှာကြသည်။လူတွေကို တရားနှင့်လျော်ညီစွာ စောင့်ရှောက်ပေးနေကြသော အထက်နတ်ဘုံများမှ နတ်ကောင်းနတ်မြတ်တို့သည်ပင် လူတွေ၏ လွဲမှားသောအယူအဆတွေကြောင့် နေရင်းထိုင်ရင်း ကိုက်စားတတ်၊ ဖမ်းစားတတ်၊ပြုစားတတ်သည့် နတ်ဆိုး၊ နတ်ကြမ်း၊ နတ်သရမ်းကားကြီးတွေ စာရင်းထဲသို့ ထည့်သွင်းထားခံရတော့မည့် အဖြစ်မျိုးသို့ ကိန်းဆိုက်နေတော့သည်။ ဒီဥပါဒါန်အစွဲတွေကို ဖယ်ရှားနိုင်ဖို့ဆိုတာ ကိုယ်တိုင် သတိပဋ္ဌာန်တရားတွေကို မကျင့်ကြ၊ မပွားများ အားမထုတ်သရွေ့ ကာလပတ်လုံး လွယ်ကူလှမည်တော့မဟုတ်ပေ။သတိမရှိ ဉာဏ်မရှိသော ဤလူတွေအတွက် ယုံကြည်မှုဆိုင်ရာ မျှော်လင့်ချက်နှင့်ပတ်သက်ပြီး ပြောရမည်ဆိုလျှင်တော့ ဆယ်မိုး ဆယ်နွေ၊ မျှော်လေလေ ဝေးရတော့မည့် အဖြစ်မျိုးပင်။





၅။ မသိနားမလည်ခြင်း၊ အယူလွဲမှားခြင်းတို့ကြောင့် ကိုးကွယ်ခြင်း

ဘာသာရေးဗဟုသုတ နည်းပါးရှာကြသူတွေ၊ ကံ, ကံ၏အကျိုးတရားများကို ဉာဏ်ဖြင့်ကောင်းစွာ မသက်ဝင်နိုင်ကြသူတွေ၊ မိစ္ဆာအယူသို့ ဝဲစောင်းနေသူများသည် နတ်ယုံကြည်မှု၊ နတ်ကိုးကွယ်မှုကို လွယ်လွယ်ကူကူနှင့် လက်ခံတတ်ကြသည်။ မစဉ်းစား၊ မဆင်ခြင်ဘဲ ယုံကြည်တတ်ခြင်း သို့မဟုတ် စဉ်းစားဆင်ခြင်ခြင်းမပြုဘဲ ယုံကြည်လွယ်ခြင်းသည် အယူတိမ်းစောင်းခြင်း၏ အခြေခံအကြောင်းတစ်ရပ်ဖြစ်သည်။ လွဲမှားသော အယူဝါဒတစ်ခုကို စွဲစွဲမြဲမြဲ လက်ခံယုံကြည်ထားပြီဆိုလျှင် မှားယွင်းသော အကြံအစည်တွေ၊ မှားယွင်းသော အပြောအဆိုတွေ၊မှားယွင်းသော အပြုအမူတွေကို ပြုမှားမိတတ်ကြ၍ ပညာရှိသူတော်ကောင်းများသည် ကိုးကွယ်ရာအမှန်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် ဆုံးဖြတ်နိုင်ဖို့ သတိပေးစကားတွေ၊ သတိပေးစာတွေ ပြောခဲ့ကြ၊ ရေးခဲ့ကြရသည်။ အယူမှား၊ အတွေးအခေါ်မှားတစ်ခုကြောင့် ဗုဒ္ဓဘာသာသမိုင်းမှာ ဝမ်းနည်း၍ မဆုံးနိုင်အောင် ဖြစ်ခဲ့ရသော အဇာတသတ်မင်းသား၏ ဖြစ်ရပ်သည် နောင်းခေတ်လူတို့အတွက် သင်ခန်းစာယူစရာပင်။ ဆရာဒေဝဒတ်အပေါ်မှာ တန်ခိုးအကြီးဆုံး ပုဂ္ဂိုလ်ကြီးတစ်ယောက်ဟု အထင်ရောက်ခဲ့သော အဇာတသတ်မင်းသားလေးသည် ဆရာဒေဝဒတ်ကို ဘုရားတစ်ဆူပမာ အထင်မှားပြီး ကိုးကွယ်မှားခဲ့မိ၍ ဖြစ်သင့်၊ ဖြစ်ထိုက်သော ပစ္စုပ္ပန်အကျိုးစီးပွားတွေ၊ သံသရာအကျိုးစီးပွားတွေ ပျက်စီးဆုံးရှုံးခဲ့ရသည်။ မဂ်ဖိုလ်တရားထူးတွေမှ လွဲချော်ခဲ့ရသည်။

အယူလွဲမှားမှုတွေကြောင့် အကျိုးမဲ့တွေကို ဖြစ်စေခဲ့သော သာဓကတွေသည် များလွန်းလှသည်။ ဒီနေရာ၌ အထူးပြောကြားလိုသည်မှာ နတ်တွေ, ဗြဟ္မာတွေကို ကိုးကွယ်, ပူဇော်ပသနေမှုသည် တရားနှင့် မလျော်ညီသော၊ လွဲမှားသောအယူဝါဒဟု ဗုဒ္ဓစသော အရိယာသူတော်စင်တို့က အတည်ပြုပြောဆိုခဲ့ကြပါသည်။ ထိုကဲ့သို့သော လွဲမှားသောအယူဝါဒမျိုးကြောင့် ကိုယ့်အစွမ်းကိုပင် ကိုယ်မယုံနိုင်ကြတော့ဘဲ၊ ကိုယ့်လုံ့လ, ကိုယ့်ဝီရိယအစွမ်းကြောင့် ဖြစ်ပေါ်လာသော အကျိုးတရားတွေကိုပင် နတ်တို့ကပေး၍ ရခဲ့လေသယောင်

ယောင် ထင်ယောင်ထင်မှားဖြစ်နေကြသော လူတွေကလည်း များလွန်းလှသည်။ 'လူမစွမ်း နတ်မ'ဆိုသော စကားပုံသည် ကိုယ့်ကိုယ်ကို ယုံကြည်မှုအားနည်းသော ပုဂ္ဂိုလ်တွေကများ ရေးသားထားခဲ့ရော့လေသလားဟု ပင် သံသယစိတ်တွေ ဖြစ်နေမိသည်။

'လူမစွမ်း နတ်မ'ဆိုသော စကားပုံနှင့်ပတ်သက်ပြီး ရေးသားတင်ပြလိုပါသည်။ ဘဝကံအကျိုးပေးနည်းမှုကြောင့် မသန်မစွမ်း(မျက်မမြင်၊ နားမကြား၊ လက်, ခြေ အင်္ဂါဆွံ့ခြင်း၊ ချို့ယွင်းခြင်းစသော ဒုက္ခိတ)ဒုက္ခိတလေး ဖြစ်နေခဲ့ရှာသော လူသားတစ်ယောက်၏ ဘဝလေးတစ်ခုကို နားလည်ပေးကြည့်စေချင်ပါသည်။ ဒုက္ခိတဘဝလေးတစ်ခုကို အများနည်းတူ ရှင်သန်ရပ်တည်နိုင်ရေးအတွက် သူ့ဘဝမှာ ကွက်လပ်လေးတစ်ခုသဖွယ်ဖြစ်နေသော ချို့တဲ့ခြင်းဆိုသည့် အားနည်းချက်လေးတစ်ခုကို သူကိုယ်တိုင်ပဲ ဖြည့်ဆည်းပေးရပေလိမ့်မည်။ သူ့အတွက် သူရဲကောင်းလုပ်ပေးနိုင်မည့်ပုဂ္ဂိုလ်သည် လောကမှာရှိချင်မှ ရှိနိုင်ပါလိမ့်မည်။ ဤကဲ့သို့သော အခြေအနေမျိုးကြောင့် သူ့မှာ ရွေးစရာလမ်းဆို၍ တစ်လမ်းပဲ ရှိတော့သည်။ အဲဒီလမ်းကတော့ သူများထက်သာလွန်သော ထူးချွန်မှုတစ်ခုခု၊ သို့မဟုတ် ထူးခြားချက်တစ်မျိုးမျိုးတော့ ရှိရပေတော့မည်။ ထူးခြားချက်ရှိအောင်လည်း ကြိုးစားအားထုတ်ရပေတော့မည်။ ဖြစ်နိုင်ခြေရှိနေတာကတော့ အမြင်သန်ချင်သန်၊ အကြားသန်ချင်သန်၊ အပြေးသန်ချင်သန်၊ အပြောသန်ချင်သန် စသည်ဖြင့် ထူခြားမှုတစ်ခုခုတော့ ရှိနေရတော့မည်။ နောက်ဆုံးကုန်ကုန်ပြောရလျှင် သိပ္ပံ,ဝိဇ္ဇာ စသော အတတ်ပညာ သို့မဟုတ် အတန်းပညာတို့ကို သင်ယူရာ၌လည်း အများထက်သာလွန်အောင် စူးစူးစိုက်စိုက်၊ လိုလိုချင်ချင်ဖြင့် သင်ယူရပေတော့မည်။ စူးစူးစိုက်စိုက်၊လိုလိုချင်ချင်နှင့် သင်ယူခြင်းသည် အတတ်ပညာများကို ပါရဂူမြောက်တတ်မြောက်နိုင်ခြင်း၏ အကြောင်းတစ်ရပ် ဖြစ်သည်ဆိုတာကိုမူ မည်သူမျှငြင်းနိုင်မည်မဟုတ်ပါ။ မည်သို့ပင်ဆိုစေ ဤအခြေအနေမျိုး၌ ထိုသို့ဖြစ်မှသာလျှင် ထိုသူရဲ့ဘဝလေးသည် တူတူတန်တန် အများနည်းတူရှင်သန်ရပ်တည်နိုင်မည်ဆိုသည့် အဖြေကတော့ ရှင်းနေသည်။ ထို့ကြောင့် ထိုသို့ပြုလုပ်





ပေးခြင်းဖြင့် သိပ္ပံအတတ်သည်လည်းကောင်း၊ ဝိဇ္ဇာအတတ်သည်လည်းကောင်း၊ တစ်စုံတစ်ခုသော အတတ်ပညာသည်လည်းကောင်း ထူးထူးခြားခြားထူးထူးချွန်ချွန်ဖြစ်နေခြင်း သို့မဟုတ် ဖြစ်လာခြင်းသည် 'လူမစွမ်းသောကြောင့် နတ်မ'ခြင်းမဟုတ်ဘဲ၊လူမစွမ်းသောကြောင့် လူစွမ်းပို၍ ထုတ်ပြလိုက်ခြင်းသာဖြစ်ကြောင်း သိသာနိုင်ပါသည်။ ကိုယ့်ကိုယ်ကို အားကိုးခြင်းသည် သူတစ်ပါးကို အားကိုးခြင်းထက် သို့မဟုတ် တန်ခိုးရှင်တို့ကို အားကိုးနေခြင်းမျိုးထက် တစ်စုံတစ်ခုကို ရယူနိုင်ရေး၌ အဆရာထောင်ပို၍ သေချာကြောင်းကိုယ့်အစွမ်းကို ကိုယ်တိုင်အားမကိုးချင်ကြသောပုဂ္ဂိုလ်များကို ဒုက္ခိတလေးဘဝဖြင့် ဘဝတစ်ခုအတွက် ကြိုးပြင်းလာခဲ့ရတဲ့သူလေးက သက်သေထူပြလိုက်ခြင်းပင်ဖြစ်သည်။

သတိမဲ့၍ အသိဉာဏ်အားနည်းသူတို့သည် ဘုရား, တရား, သံဃာရတနာသုံးပါးတို့၏ ဂုဏ်ကျေးဇူးများကို သက်ဝင်, ယုံကြည်မှုမျိုးထက် နတ်များ၏ ဂုဏ်ကျေးဇူးများကို သက်ဝင်, ယုံကြည်နေမှုမျိုးက ပို၍အားကောင်းနေတတ်ကြသည်။ နတ်များကို ပူဇော်ပသလိုမှု ပို၍စိတ်အားထက်သန်နေကြသည်။ ထိုကဲ့သို့ စိတ်အားထက်သန်နေကြသော ဗုဒ္ဓဘာသာဝင်တို့အားသတိတရားရစေလိုသော အင်းဝခေတ်စာဆိုအကျော် အရှင်မဟာသီလဝံသမထေရ်သည် မဟုတ်မရာဖြစ်သော မိစ္ဆာဒိဋ္ဌိအယူအဆ အစွဲအလမ်းမှားများကိုတော်လှန်လို၍လည်းကောင်း၊ တော်လှန်စေလို၍လည်းကောင်း သံဝေဂခန်းပျို့ပိုဒ်ရေ(၃၅)၌ သတိပေးရေးသားထားသည်ကို လေ့လာနိုင်ပါသည်။

ကာလရှည်လျား၊ လူငနွားတို့၊ ကြီးမားယုတ်မာ၊ နတ်မိစ္ဆာကို၊ ဘိုးလာဘွားဘက်၊ မြေးသားဆက်၍၊မပျက်ခတိုင်၊ နတ်ခရိုင်နှင့်၊ ပန်းခိုင်ရေအိုး၊ ဆယ်စုံဖြိုး၍၊ မြတ်နိုးနှစ်သက်၊ အနက်အနီ၊ အတီခေါင်းပေါင်း၊ တင်အုပ်ဆောင်းနှင့်၊ အပေါင်းစုဝေး၊ အမွှေးအကြိုင်၊ မုန့်စိုင်မုန့်ခဲ၊ ကြက်ဝက်လဲ၍၊ ဖုံနဲ့ခရာ၊ တီးမှုတ်ကာနှင့်၊ ချမ်းသာဆင်းရဲ၊ ပေးစမြဲဟု၊ စိတ်ထဲထင်မှတ်၊ နေ့တိုင်းကိုး မပြတ်ကိုးကွယ်၊အန္တရာယ်လည်း၊ မရှိလျှင်း၏၊ ဆောင်နှင်းမင်္ဂလာ၊ လျှာဒိပုည၊ ပြုကာလလည်း၊ မိဖ ရှေ့မှတ်၊ ငါတို့နတ်ကို၊ ပေးအပ် အပ်လျှင်၊

ပွဲလမ်းပြင်၍၊ အရှင်မှတ်မှတ်၊ ကိုယ်ဝယ်ကပ်လျက်၊ မပြတ်ထင်းရှား၊ မမေ့မှားဟု၊ ဆုများရွယ်ရွယ်၊ ရှက်စဖွယ်နှင့်၊ ဘယ်ဝယ်တစ်ခါ၊ ကိုယ်တိုင်လာ၍၊ ဥစ္စာထင်ရှား၊ ဘယ်သူ့အားကို၊ နတ်များပို့လာ၊ ရှိဖူးပါအံ့၊ မိစ္ဆာစွဲမှတ်၊ ဘယ်အရပ်မှာ၊ နတ်တို့နေရာ၊ အိမ်ခန်းဝါနှင့်၊ သာယာခမ်းနား၊ နတ်မယားနှင့်၊ နတ်သားနတ်လင်၊ ကြည့်မမြင်တည့်၊ ငြိုငြင်စိတ်စွဲ၊ အံ့သွားခဲ၍၊ ညည်းဆဲနှိပ်စက်၊ နတ်တို့လက်နှင့်၊ ထုတ်လျက် ဆွဲငင်၊ ပြုကြအင်ကို၊ မမြင်ဖူးပါ၊ သည်အရာကို၊ မိစ္ဆာမောဟ၊ အယူခွ၍၊ နတ်များသခင်၊ နတ်ဘုရင့်ဟု၊ နတ်တွင်အကြီး၊ ငါ့သမီးကို၊ ဖမ်းဆီးတတ်ငြား၊ ငါ့မယားကို၊ ဖမ်းစားတတ်ချေ၊ ချမ်းသာစေဟု၊ ကချေပွဲလမ်း၊ အခမ်းအနား၊ နတ်ထိန်းများနှင့်၊ သောက်စားဟာစ်အော်၊ တကျော်ကျော်နှင့်၊ မောင်တော်ရှင်ချစ်၊ နတ်သံပစ်၍၊ မူးယစ်မိုင်ဝေ၊ အထွေထွေလျှင်၊ လူ့မြေရပ်ရွာ၊ နတ်မိစ္ဆာကို၊ ကယ်သာထင်မှတ်၊ သဘောကပ်၍၊ နတ်လူပြဟု၊ သတ္တဝါကို၊ ကံသာအရင်း၊ ပြုဖန်ဆင်းဟု၊ ယူလျင်းအပ်စွာ၊ ယခုမှာကား၊ ချမ်းသာဆင်းရဲ၊ နတ်ခပဲသည်၊ ပေးမြဲတို့မှာ၊ ထင်မှတ်ရာသည်၊ မိစ္ဆာယူမိယူမှားတည်း။[၆]

နတ်ကိုးကွယ်မှု၌ ဉာဏ်မယှဉ်နိုင်ပါက အပြစ်များစွာဖြစ်နိုင်သောကြောင့် မိရိုးဖလာအနေဖြင့် မစွန့်နိုင်၊ မပယ်နိုင်၍ ကိုးကွယ်နေရသော်လည်း သတိကြီးစွာထား၍ လောက၊ သံသရာ အပြစ်ကင်းအောင် နေတတ်ဖို့လိုပါသည်။ ဒီလိုနေတတ်ဖို့ဆိုတာကလည်း သတိရှိမှ၊ အသိဉာဏ်ရှိမှဖြစ်နိုင်ကြောင်းကို စိန္တကျော်သူဘွဲ့ခံ ဦးဩက ကောင်းကောင်းကြီး သိထားပြီးဖြစ်သည်။ သို့ရာတွင် အသိဉာဏ်နည်းပါးသူ၊ တရားဗဟုသုတ မရှိသူတို့ကို လေးနက်သိမ်မွေ့သော စကားအသုံးအနှုန်းတွေနှင့် ပြောဆို၊ ရေးသား၊ ဆုံးမပြောဆိုနေလျှင် အချိန်တွေသာ မကြာသင့်ဘဲကြာနေတော့မည်။ ခရီးသာ မဝေးသင့်ဘဲဝေးနေတော့မည်။ ဒီတော့လည်း နတ်ကိုးကွယ်မှုနှင့်ပတ်သက်ပြီး ရှည်ရှည်လျားလျားရေးမနေတော့ဘဲ သူ၏ ကဝိလက္ခဏာသတ်ပုံကျမ်း၌ ပြတ်ပြတ်သားသား၊ တိုတိုရှင်းရှင်းပဲ ရေးဖွဲ့ခဲ့သည်။

၆။ အရှင်မဟာသီလဝံသ ၊ သံဝေခန်းပျို့၊ ပိုဒ်ရေ ၃၅။





"မိစ္ဆာအားလုံး၊ လွှမ်းပိတ်ဖုံး၊ တောင်ပြုံးညီနောင်နန်း"။[၇]

နတ်တွေအကြောင်းကို စေတနာမှန်မှန်နှင့် ပွင့်ပွင့်လင်းလင်း ရေးရဲသောသတ္တိ၊ ပြောရဲ ဆိုရဲသောသတ္တိကိုလည်းကောင်း၊ မိစ္ဆာဒိဋ္ဌိအယူများဘက်သို့ သက်ရောက်နေသော နတ်ကိုးကွယ်မှုများကို တော်လှန်ရဲသော စာဆိုရှင်၏ သတ္တိကိုလည်းကောင်း ချီးကျူးဂုဏ်ပြုလိုက်ပါသည်။

ဗုဒ္ဓဘာသာဝင်တို့ အထူးသတိပြုသင့်သည်မှာ အမှားတစ်ခုကို ကျူးလွန်မိပြီဆိုလျှင် ထိုအမှားတစ်ခုအတွက် ဟာရ ထေးရ၊ ဆေးရ ကြာရနှင့် အမှားသံသရာတွေ လည်နေတတ်သည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်လိုသူတို့အတွက် အမှားသံသရာတွေ မလည်ရလေအောင် သတိတရားလက်ကိုင်ထားပြီး၊ ဗုဒ္ဓဓမ္မနှင့်လျော်ညီသော အကျင့်တရားတို့ဖြင့် လမ်းမှန်၊ လမ်းမှားတို့ကို ကိုယ်ပိုင်ဉာဏ်ဖြင့် ခွဲခြားသိလျက် ကိုယ့်ကိုယ်ကို အယူမှားတွင်းသို့ မကျရောက်ကြရလေအောင် ထိန်းသိမ်းကာကွယ်စောင့်ရှောက်နိုင်ကြပါစေ။

၇။ စိန္တကျော်သူဦးဩ၊ ကဝိလက္ခဏာသတ်ပုံကျမ်း၊ သံပေါက်အပိုဒ် ၂၉၊



## အခန်း (၂)

### ဗုဒ္ဓစာပေကျမ်းဂန်များ၌ နတ်တို့၏အနေအထား

ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့သည် ဗုဒ္ဓတရားတော်များကို ယုံယုံကြည်ကြည်ဖြင့် ကိုးကွယ်လာခဲ့ကြသည်မှာ အနော်ရထာမင်းလက်ထက် (သက္ကရာဇ် ၄၀၆–၄၃၉) (11th Century A.D.) မှစ၍ ရေတွက် မည်ဆိုလျှင် နှစ်ပေါင်းရာထောင်ချီ၍ ရှိနေခဲ့ပြီ။ ထိုနည်းတူစွာပင် ဗုဒ္ဓဘာသာမြန်မာလူမျိုးတို့ အလေးအမြတ်ထား၍ ရွတ်ဖတ်ပွားများနေသော ပရိတ်တရားတော်များသည် လည်း မြန်မာပြည်အရပ်ရပ်သို့ ပျံ့နှံ့နေသည်မှာလည်း နှစ်ပေါင်းရာထောင်ချီ၍ ရှိနေပြီဟု ဆိုနိုင်ပါသည်။ ထိုသို့ဖြစ်ခဲ့လျှင် မြန်မာပြည်သူ၊ ပြည်သားများ ယုံယုံကြည်ကြည်၊ လေးလေးစားစားဖြင့် ရွတ်ဖတ်ပွားများ သရဇ္ဈာယ်နေကြသော ပရိတ်တရားတော်များသည်လည်း မြန်မာပြည်သူပြည်သားတို့၏ နှလုံးသားဝယ် စွဲမြဲနေသည်မှာလည်း ထိုနေ့များမှသည် ဤနေ့များသို့တိုင်အောင် နှစ်အရေအတွက်နှင့်ပြောရလျှင် နှစ်တွေထောင်နှင့်ချီ၍ ရှိနေပြီ။

ထိုပရိတ်တရားတော်များ၌ ဒေဝရာဇာခေါ် နတ်တို့၏မင်း သို့မဟုတ် နတ်တို့၏ အရှင်သခင်ဖြစ်သော သိကြားမင်းမှစ၍ နတ်, ဗြဟ္မာတို့၏ အမည်

နာမများ၊ နတ်တို့၏ အနေအထားများကို တိတိကျကျ ဖော်ပြထားသည်။ သို့သော် အများစုဖြစ်သော ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့သည် ကျမ်းဂန် ဗဟုသုတနည်းပါးခြင်း၊ တရားမနာ၊ တရားမဆွေးနွေးခြင်း၊ တရားစာအုပ်များကို မဖတ်မလေ့လာခြင်းစသော အကြောင်းများကြောင့် ဘာသာတရား၌ ဖော်ပြထားသော နတ်တို့၏ အနေအထားကို ကွဲကွဲပြားပြား ဂဃနဏ မသိနိုင်ခဲ့ကြပါ။ ဤကဲ့သို့ မသိနိုင်ခဲ့ကြ၍ နတ်တွေကို ထားသင့်သောနေရာ၌ မထားနိုင်ကြတော့ဘဲ၊ သခင်ကို ကျွန်ထင်၊ ကျွန်ကို သခင်ထင် စသော အဖြစ်မျိုးတွေနှင့် တွေ့ကြုံနေကြရတော့သည်။

မြတ်ဗုဒ္ဓ သက်တော်ထင်ရှားရှိစဉ်အခါက မြတ်ဗုဒ္ဓ၏ အဆုံးအမ တရားတွေကြောင့် မဂ်, ဖိုလ်တရားထူးများကို ရရှိသွားကြသော ကျွတ်တမ်းဝင် ဝေနေယျသတ္တဝါတွေထဲတွင် နတ်, ဗြဟ္မာဦးရေသည် လူဦးရေထက် အရေအတွက်များနေတာကို ဗုဒ္ဓစာပေသမိုင်းကြောင်းများအရ သိနိုင်ပါသည်။ မဂ်, ဖိုလ်တရားထူးများကိုလည်း ရရှိထားကြပြီး၊ မြတ်ဗုဒ္ဓ၏ တပည့်သာဝကများလည်းဖြစ်ကြသော မရေမတွက်နိုင်အောင် များပြားလှသော နတ်, ဗြဟ္မာတို့သည် မြတ်ဗုဒ္ဓ၏ တရားဓမ္မများကို နာကြားလိုကြသည်။ တရားဓမ္မများကို ရွတ်ဖတ်, ပွားများ,သရဇ္ဈာယ်နေကြသော ပုဂ္ဂိုလ်များကိုလည်း အစောင့်အရှောက်များ ပေးလိုကြသည်။ ဤအခြေအနေမှန်များကို သဗ္ဗညုတဉာဏ်တော်ဖြင့် သိမြင်တော်မူသော ဘုရားရှင်သည် သတ္တဝါအားလုံးတို့၏ အကျိုးစီးပွားအတွက် ကရုဏာပြဋ္ဌာန်းလျက် ဉာဏ်တော်အစွမ်းဖြင့် ဟောကြားထားတော်မူခဲ့သော ပရိတ်တရားတော်တွေထဲမှာ နတ်တို့၏ အနေအထားကို အတိအလင်း ဖော်ပြထားသည်။ ပရိတ်တရားတော်များ၌ နတ်ဒေဝါများကို အကိုးကွယ်ခံ၊ အပူဇော်ခံကြွရောက်ကြဖို့ ဖိတ်မန်ထားခြင်းမျိုးမဟုတ်ဘဲ၊ ပရိတ်တရားတော်များကို အတူတကွနာကြားကြရန် ကြွရောက်ကြဖို့နှင့် ပရိတ်ရွတ်ဖတ်သရဇ္ဈာယ်သူတို့အား အစောင့်အရှောက်များပေးကြပါရန် တိုက်တွန်းထားကြောင်းများကို တွေ့နိုင်သည်။

အများစုဖြစ်သော ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့သည် ထိုပရိတ်





တရားတော်များအရ စကြဝဠာတစ်ခွင်၌ နေထိုင်ကြကုန်သော နတ်, ဗြဟ္မာများ ရှိနေကြောင်းကိုမူ သိထားကြသော်လည်း ထိုနတ်တွေ, ဗြဟ္မာတွေသည် မြတ်ဗုဒ္ဓသာသနာတော်၌ ဘယ်အနေထားမျိုး၌ ရှိနေကြသည် ဆိုတာမျိုးကိုမူ ကျမ်းဂန် ဗဟုသုတ အထိုက်အလျောက်ရှိသူများသာ သိနိုင်ကြ၍ ကျမ်းဂန်သဘောနှင့် နီးနှောသိနိုင်ရန် နတ်, ဗြဟ္မာတွေအကြောင်းကို အနည်းငယ်ပြောပြလိုပါသည်။ ပရိတ်တရားတော်မှလာသော နတ်တွေ၊ ဗြဟ္မာတွေကို အကိုးကွယ်ခံ၊ အပူဇော်ခံကြွရောက်ကြဖို့ ဖိတ်မန်ထားခြင်းမျိုးဟုတ် မဟုတ်၊ အကယ်၍ မဟုတ်ခဲ့လျှင် ဘယ်အနေထားမျိုးမှာ ရှိနိုင်သည်၊ ဘယ်အနေအထားမျိုးမှာ ရှိသင့်သည်ဆိုတာမျိုးကို ကျမ်းဂန်သဘောအရ ဂဃနဏသိထားသင့်ပါသည်။ ထိုကဲ့သို့ သိထားခြင်းဖြင့် ဗုဒ္ဓဘာဝင်ကောင်းတစ်ယောက် ဖြစ်လိုသူတို့အတွက် နတ်ကိုးကွယ်မှုနှင့် ပတ်သက်၍ သံသယစိတ်တွေကင်းရှင်းပြီး၊ ဗုဒ္ဓသာသနာတော်အတွက်၊ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက်ဖြစ်ရမှုအတွက် မိမိကိုယ်ကို မိမိ အားတက်ဖွယ်၊ ဂုဏ်ယူဖွယ်တွေ ဖြစ်လာနိုင်သည်။ ဗုဒ္ဓသာသနာတော်ကို သက်ဝင်ယုံကြည်မှုနှင့်ပတ်သက်ပြီး ကိုယ့်အနေအထား၊ ကိုယ့်အခြေအနေတို့ကို ကိုယ်တိုင်သိပြီး အမြဲတမ်းဝမ်းမြောက်နေရပေလိမ့်မည်။

## ပရိတ်ကြီးနိဒါန်း၌ နတ်တို့၏ အနေအထား

**ပါဠိ**။ ။ သမန္တာ စက္ကဝါဠေသု၊ အတြာ' ဂစ္ဆန္တု ဒေဝတာ။
သဒ္ဓမ္မံ မုနိရာဇဿ၊သုဏန္တု သဂ္ဂမောက္ခဒံ။

**အနက်**။ ။ သမန္တာ၊ ဤစကြဝဠာတစ်ခွင် ပတ်ဝန်းကျင်မှ။ စက္ကဝါဠေသု၊ စကြဝဠာပေါင်းတိုက်တစ်သောင်းတို့၌ရှိ၊ ဒေဝတာ၊ နတ်, ဗြဟ္မာတို့သည်။ အတြ၊ ဤပရိတ်တရားဟောကြားရာဌာနသို့။ အာဂစ္ဆန္တု၊ လာရောက်ကြကုန်လော့။ မုနိရာဇဿ၊ မုနိတို့တုရင် ရှင်တော်မြတ်ဘုရား၏။ သဂ္ဂမောက္ခဒံ၊ နတ်ပြည် နိဗ္ဗာန်အကျိုးကို ပေးတတ်သော။သဒ္ဓမ္မံ၊ ပရိတ်တရားတော်ကို။ သုဏန္တု၊ နာလှည့်ကြကုန်လော့။[၆]

[၆] အရှင်ဝါသေဋ္ဌာဘိဝံသ။ ပရိတ်ကြီးနိဿယသစ်။ နှာ ၂၉။

**မြန်မာပြန်**။ ။ ဤစကြဝဠာ၏ ပတ်ဝန်းကျင်မှ စကြဝဠာ ပေါင်း တိုက်တစ်သောင်းရှိ နတ်, ဗြဟ္မာတို့သည် ဤပရိတ်တရားဟောကြား ရာဌာနသို့ လာရောက်ကြကုန်လော့။ မြတ်ဘုရား၏ နတ်ပြည် နိဗ္ဗာန်အကျိုးကို ပေးတတ်သော ပရိတ်တရားတော်ကို နာယူလှည့်ကြပါကုန်လော့။

**ပါဠိ**။ ။ သဗ္ဗေသု စက္ကဝါဠေသု၊ ယက္ခာ ဒေဝါစ ဗြဟ္မနော။

ယံ အမှေဟိ ကတံ ပုညံ၊ သဗ္ဗသမ္ပတ္တိ သာဓကံ၊ သဗ္ဗေ တံ အနုမောဒိတွာ၊ သမဂ္ဂါ သာသနေရတာ။ ပမာဒရဟိတာ ဟောန္တု၊ အာရက္ခာသု ဝိသေသတော။

**အနက်**။ ။ သဗ္ဗေသု၊ အလုံးစုံကုန်သော။ စက္ကဝါဠေသု၊ စကြဝဠာပေါင်း တိုက်တစ်သောင်းတို့၌။ သဗ္ဗေ၊ခပ်သိမ်းကုန်သော။ ယက္ခာစ၊ ဘီလူးတို့ သည်လည်းကောင်း။ ဒေဝါစ၊ နတ်တို့သည်လည်းကောင်း။ ဗြဟ္မနောစ၊ ဗြဟ္မာ တို့သည်လည်းကောင်း။ အမှေဟိ၊ ငါတို့သည်။ သဗ္ဗသမ္ပတ္တိ သာဓကံ၊ အလုံးစုံသော စည်းစိမ်ချမ်းသာတို့ကို ပြီးမြောက်စေတတ်သော။ ယံ ပုညံ၊အကြင်ကောင်းမှုကို။ ကတံ၊ ပြုအပ်ပြီ။ တံ ပုညံ၊ ထိုကောင်းမှုကို။ အနုမောဒိတွာ၊ ဝမ်းမြောက်ကြကုန်၍။ သမဂ္ဂါ၊ ညီညွတ်ကြကုန်လျက်။ သာသနေ၊ ဘုရားအဆုံးအမတော်၌။ ရတာ၊ မွေ့လျော်ပျော်ပိုက် နှစ်ခြိုက် ကြကုန်သည်။ ဟောန္တု၊ ဖြစ်ကြပါကုန်လော့။ ဝိသေသတော၊ အထူးအားဖြင့်။ အာရက္ခာသု၊ လူသား တို့ဝယ် ကာကွယ်စောင့်ရှောက်မှုတို့၌။ ပမာဒရဟိတာ၊ မေ့လျော့ခြင်းမှ ကင်းကြကုန်သည်။ ဟောန္တု၊ ဖြစ်ကြပါကုန်လော။[၇]

**မြန်မာပြန်**။ ။ စကြဝဠာတိုက်တစ်သောင်းလုံးရှိ ဘီလူး, နတ်, ဗြဟ္မာမှန်သမျှတို့သည် ငါတို့ပြုသည့်ကောင်းမှုကို ဝမ်းမြောက်ကြပြီးလျှင်

---

၇။ အရှင်ဝါသေဋ္ဌာဘိဝံသ။ ပရိတ်ကြီးနိဿယသစ်။ နှာ ၅၀၊





ညီညာဖြဖြ ဘုရားအဆုံးအမတော်၌ နှစ်ခြိုက်မွေ့လျော်ကြပါကုန်လော့။ အထူးအားဖြင့် လူသားတို့အပေါ်ဝယ် ကာကွယ်စောင့်ရှောက်ရေးတို့၌ မမေ့ မလျော့ကြပါလေနှင့်။

ဤပရိတ်တော်နိဒါန်းအရ နတ်, ဗြဟ္မာတို့၏ အနေအထားကို ဉာဏ် ယှဉ်သောစိတ်ဖြင့် စဉ်းစားဆင်ခြင်၍ သိနိုင်၊ မြင်နိုင်ပါပြီ။ လူသားတို့သည် နတ်ဗြဟ္မာတို့အား ပရိတ်တရားတော်ကို အတူတကွနာယူကြရန် ကြွရောက် ကြဖို့နှင့် ပရိတ်တရားတော်များကို ရွတ်ဖတ်သူ၊ နာကြားနေသူတို့အား အကာ အကွယ်၊ အစောင့်အရှောက်များပေးကြရန် မပျက်မကွက်ကြဖို့. တိုက်တွန်း ထားပုံများသည် ဗုဒ္ဓဘာသာတရားတော်များကို လေးစားကြည်ညိုနေကြသော ဗုဒ္ဓဘာသာဝင်တို့အတွက် ကြက်သီးမွေးညင်းများ ထလောက်စရာပင်။ ဗုဒ္ဓ တရားတော်များသည် အသိများဖြစ်စရာ၊ အယူမှားဖြစ်စရာရှိသော ကိစ္စမျိုးတွေ ကို ဉာဏ်အလင်းဖြင့် ပယ်ရှားနိုင်စွမ်းရှိသည်။ သို့သော် ထိုဉာဏ်အလင်းကို ရရှိနိုင်ဖို့ အားထုတ်ရမည့်တာဝန်မှာ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက်ဖြစ်လို သူ၏ တာဝန်ပင်ဖြစ်သည်။

## အာဋာနာဋိယသုတ်၌ နတ်တို့၏ အနေအထား

**ပါဠိ**။ ။ ပုရတ္ထိမေန ဓတရဋ္ဌော၊ ဒက္ခိဏေန ဝိရူဠှကော။

ပစ္ဆိမေန ဝိရူပက္ခော၊ ကုဝေရော ဥတ္တရံ ဒိသံ။

**အနက်**။ ။ ပုရတ္ထိမေန၊အရှေ့အရပ်၌၊ဓတရဋ္ဌော၊ ဓတရဋ္ဌနတ်မင်း သည်။ အတ္ထိ၊ ရှိ၏။ ဒက္ခိဏေန၊ တောင်အရပ်၌။ ဝိရူဠှကော၊ ဝိရူဠှကနတ်မင်း သည်။ အတ္ထိ၊ ရှိ၏။ ပစ္ဆိမေန၊ အနောက်အရပ်၌။ ဝိရူပက္ခော၊ ဝိရူပက္ခနတ်မင်း သည်။ အတ္ထိ၊ ရှိ၏။ ဥတ္တရံဒိသံ၊ မြောက်အရပ်၌။ ကုဝေရော၊ ကုဝေရနတ်မင်း သည်။ အတ္ထိ၊ ရှိ၏။[၈]

---

၈။ အရှင်ဝါသေဋ္ဌာဘိဝံသ။ ပရိတ်ကြီးနိဿယသစ်၊ နှာ ၅၄၇။

**မြန်မာပြန်**။ ။အရှေ့အရပ်၌ (ဂန္ဓဗ္ဗနတ်တို့ကို အစိုးရသော) ဓတရဋ္ဌနတ်မင်း၊ တောင်အရပ်၌ (ကုမ္ဘဏ်နတ်တို့ကို အစိုးရသော) ဝိရူဠှကနတ်မင်း၊ အနောက်အရပ်၌(နဂါးတို့ကို အစိုးရသော)ဝိရူပက္ခနတ်မင်း၊ မြောက်အရပ်၌ (ဘီလူးတို့ကို အစိုးရသော) ကုဝေရနတ်မင်း။ ဤနတ်မင်းကြီးလေးယောက်တို့သည် ဆိုင်ရာပိုင်ရာနတ်တို့ကို အုပ်ချုပ်လျက် အထင်အရှား ရှိနေကုန်၏။

**ပါဠိ**။ ။စတ္တာရော တေ မဟာရာဇာ၊ လောကပါလာ ယသဿိနော။ တေပိ အမှေ ့နုရက္ခန္တု၊ အာရောဂျေန သုခေန စ။

**အနက်**။ ။စတ္တာရော၊ လေးယောက်ကုန်သော၊ တေ မဟာရာဇာ၊ ထိုနတ်မင်းကြီးတို့သည်၊ လောကပါလာ၊ လောကကိုစောင့်ရှောက်တတ်ကုန်၏။ ယသဿိနော၊ များသောအခြံအရံရှိကြကုန်၏။ တေပိ၊ ထိုလောကပါလနတ်မင်းကြီးလေးယောက်တို့သည်လည်း၊ အမှေ၊ ငါတို့ကို၊ အရောဂျေနစ၊ ရောဂါကင်းရေးအားဖြင့်လည်းကောင်း၊ သုခေနစ၊ ချမ်းသာတိုးပွားရေးအားဖြင့်လည်းကောင်း၊ အနုရက္ခန္တု၊ အစဉ်စောင့်ရှောက်ကြပါစေကုန်သတည်း။[၉]

**မြန်မာပြန်**။ ။လောကကိုစောင့်ရှောက်နေကြပြီး၊ အခြံအရံများနှင့်နေထိုင်ကြကုန်သော နတ်မင်းကြီးလေးယောက်တို့၊ ပရိတ်တရားတော်များကို ရွတ်ဖတ်သရဇ္ဈာယ်နေကြသော ငါတို့ကို ရောဂါများကင်းဝေးပြီး၊ ချမ်းသာသုခများ တိုးပွားအောင် အစဉ်စောင့်ရှောက်ကြပါ။

ဤပရိတ်တော်တို့ကို စနစ်တကျဖတ်ရှုလေ့လာ ကြည့်ရှုသောအခါ နတ်တို့၏ အနေအထားများကို သိနိုင်ပါသည်။ နတ်တို့သည် ပရိတ်တရား ရွတ်ဖတ်သူ၊ နာကြားသူတို့နှင့် ဓမ္မသဟာယ–တရားကျင့်သုံးဖော်အနေအထား မျိုးမှာ ရှိနေပြီး၊ အပြန်အလှန်ကျေးဇူးပြုနိုင်ကြ၍ ပရိတ်တရားတော်များကို

၉။ အရှင်ဝါသေဋ္ဌာဘိဝံသ ။ ပရိတ်ကြီးနိဿယသစ်၊ နှာ ၅၄၈။





ရွတ်ဖတ်နေသူ၊ တရားကျင့်သုံးနေသူတို့အား အစောင့်အရှောက်များကို ပေးကြရန် သူတို့မှာလည်း တာဝန်ရှိကြောင်း သိနိုင်ပါသည်။ ဤကဲ့သို့ သိထားကြမည်ဆိုလျှင် ဗုဒ္ဓတရားတော်အတိုင်း လိုက်နာကျင့်သုံးနေထိုင်ကြသော ဗုဒ္ဓဘာသာဝင်တို့သည် နတ်တို့ကို အမိပွါယ်မဲ့ ကြောက်နေရခြင်းမျိုး လုံးဝမဖြစ်သင့်တော့ပေ။ ဖြစ်သင့်သည်မှာ ပရိတ်တရားတော်များကို မနက်ခင်းမှာဖြစ်စေ၊ နေ့လယ်ပိုင်းမှာဖြစ်စေ၊ ညနေခင်းမှာဖြစ်စေ တစ်ချိန်ချိန်မှာ နိစ္စဓူဝ နေ့စဉ်ဝတ်တစ်ခု အနေမျိုးထား၍ ယုံယုံကြည်ကြည်ဖြင့် ရွတ်ဖတ်၊ ပွားများ၊ အားထုတ်သွားကြမည်ဆိုလျှင် အောက်တန်းစားနတ်တွေသည် လူတို့ကို ရန်မမူနိုင်ကြတော့ဘဲ၊ ဓမ္မမိတ်ဆွေများအဖြစ် အသိမှတ်ပြုကာ အစောင့်အရှောက်များ ပေးသွားကြမည်ဖြစ်ကြောင်း ဘုရားဟောကျမ်းဂန်များအရ သိနိုင်သည်။

## မဟာပရိနိဗ္ဗာနသုတ်၌ နတ်တို့၏ အနေအထား

ရာဇအပရိဟာနိယဓမ္မခေါ် မင်းတို့အား မဆုတ်ယုတ်ကြောင်းတရား (၇)ပါး၌ မြတ်စွာဘုရား၏ အမေးတော်ကို အရှင်အာနန္ဒာမထေရ်မြတ် ပြန်လည်ဖြေကြားပုံတို့မှာ စိတ်ဝင်စားဖွယ်ကောင်းလှသည်။ ပိုပြီးစိတ်ဝင်စားဖွယ်ကောင်းနေသည်မှာ ရာဇအပရိဟာနိယဓမ္မတရား(၇)ပါးထဲတွင် နတ်ကိုးကွယ်မှုနှင့် ပတ်သက်သော အကြောင်း အချက်အလက်များ ပါဝင်နေခြင်းပင်ဖြစ်သည်။ ထိုအချက်အလက်များကို ရှင်းရှင်းလင်းလင်း ကွဲကွဲပြားပြားနားလည်နိုင်ရန် ဤနေရာ၌ ဆွေးနွေးတင်ပြလိုပါသည်။

**ပါဠိ**။ ။ကိန္တိ တေ အာနန္ဒ သုတံ၊ ဝဇ္ဇီ ယာနိ တာနိ ဝဇ္ဇီနံ ဝဇ္ဇီစေတိယာနိ အဗ္ဘန္တရာနိ စေဝ ဗာဟိရာနိ စ၊ တာနိ သက္ကရောန္တိ ဂရုံ ကရောန္တိ မာနေန္တိ ပူဇေန္တိ၊ တေသဉ္စ ဒိန္နပုဗ္ဗံ ကတပုဗ္ဗံ ဓမ္မိကံ ဗလိံ နော ပရိဟာပေန္တီတိ။ သုတံ မေတံ ဘန္တေ "ဝဇ္ဇီ ယာနိ တာနိ ဝဇ္ဇီနံ ဝဇ္ဇီစေတိယာနိ

အဗ္ဘန္တရာနိ စေဝ ဗာဟိရာနိ စ၊ တာနိ သက္ကရောန္တိ ဂရုံ ကရောန္တိ မာနေန္တိ ပူဇေန္တိ၊ တေသဉ္စ ဒိန္နပုဗ္ဗံ ကတပုဗ္ဗံ ဓမ္မိကံ ဗလိံ နော ပရိဟာ ပေန္တီတိ။''[၁၀]

ယာဝကီဝဉ္စ အာနန္ဒ ဝဇ္ဇီ ယာနိ တာနိ ဝဇ္ဇီနံ ဝဇ္ဇီ စေတိယာနိ အဗ္ဘန္တရာနိ စေဝ ဗာဟိရာနိ စ၊ တာနိ သက္ကရိဿန္တိ ဂရုံ ကရိဿန္တိ မာနေဿန္တိ ပူဇေဿန္တိ၊ တေသဉ္စ ဒိန္နပုဗ္ဗံ ကတပုဗ္ဗံ ဓမ္မိကံ ဗလိံ နော ပရိဟာ ပေဿန္တိ ဝုဒ္ဓိယေဝ အာနန္ဒ ဝဇ္ဇီနံ ပါဋိကင်္ခါ၊ နော ပရိဟာနိ။

မြန်မာပြန်။ ။အာနန္ဒာ၊ဝဇ္ဇီမင်းတို့သည် မြို့တွင်းမြို့ပြင်ရှိ ဝဇ္ဇီမင်းတို့၏ နတ်ကွန်း(စေတီ)တို့ကို အရိုအသေပြုကုန်၏လော၊ မြတ်နိုးကုန်၏လော၊ ပူဇော်ကုန်၏လော။ ထိုနတ်ကွန်းတို့အားလည်း ရှေးကပေးလှူမြဲ ပြုမြဲဖြစ်သော တရားနှင့်လျော်ညီသော ဗလိနတ်စာကို မဆုတ်ယုတ်စေဘဲ ရှိကုန်၏လော။ သင်အဘယ်သို့ ကြားရသနည်းဟု (မိန့်တော်မူ၏)။[၁၁]

အသျှင်ဘုရား၊ ဝဇ္ဇီမင်းတို့သည် မြို့တွင်းမြို့ပြင်ရှိ ဝဇ္ဇီမင်းတို့၏ နတ်ကွန်း (စေတီ)တို့ကို အရိုအသေပြုကုန်၏၊ မြတ်နိုးကုန်၏၊ ပူဇော်ကုန်၏၊ ထိုနတ်ကွန်းတို့အားလည်း ရှေးကပေးလှူမြဲ ပြုမြဲဖြစ်သော တရားနှင့်လျော်ညီသော ဗလိနတ်စာကို မဆုတ်ယုတ်စေကုန်ဟု အကျွန်ုပ်ကြားရပါ၏ဟု လျှောက်၏။

အာနန္ဒာ၊ ဝဇ္ဇီမင်းတို့သည် မြို့တွင်း မြို့ပြင်ရှိ ဝဇ္ဇီမင်းတို့၏ နတ်ကွန်း (စေတီ)တို့ကို အရိုအသေပြုလျက် မြတ်နိုးလျက်၊ ပူဇော်လျက် ထိုနတ်ကွန်းတို့အားလည်း ရှေးကပေးလှူမြဲ ပြုမြဲဖြစ်သော တရားနှင့်လျော်ညီသော ဗလိနတ်စာကို မဆုတ်ယုတ်ကြစေသမျှ ကာလပတ်လုံး ဝဇ္ဇီမင်းတို့အား ကြီးပွားရန်သာရှိပေ၏။ ဆုတ်ယုတ်ရန်ကား မရှိပေဟု (မိန့်တော်မူ၏)။

ဤမဟာပရိနိဗ္ဗာနသုတ်၌ မြတ်စွာဘုရား မိန့်ကြားတော်မူသော စကားတော်အရ လူတို့သည် နတ်တို့အား ဗလိနတ်စာပေး၍ ပူဇော်ပသခြင်းသည် တရားနှင့်ညီသည်ဟု ဆိုဖွယ်ရာရှိ၏။ သို့သော် မြတ်စွာဘုရား၏ စကားတော်၌ ဝဇ္ဇီမင်းတို့၏ နတ်ကွန်း(စေတီ)တို့ကို အရိုအသေပြုလျက် ဟူသော

---

၁၀။ ဒီ ၂၊ ပါ၊ နှာ ၆၃။
၁၁။ ဒီ ၂။ ပြန်။ နှာ ၇၃၊





အကြောင်းတစ်ချက်၊ ဝဇ္ဇီမင်းတို့သည် တရားနှင့်လျော်ညီသော ဗလိနတ်စာကို မဆုတ်ယုတ်ကြစေသမျှ ကာလပတ်လုံးဟူသော အကြောင်းတစ်ချက်၊ ဤအကြောင်းနှစ်ချက်ကို စာပေကျမ်းဂန်များနှင့် တိုက်ဆိုင်ကြည့်ပြီး ကောက်ချက်ချရန်လိုပေလိမ့်မည်။

''ဝဇ္ဇီမင်းတို့၏ နတ်ကွန်း (စေတီ) ဆိုတာ ဘာလဲ''

''တရားနှင့်လျော်ညီသော ဗလိနတ်စာဆိုတာ ဘာလဲ''

ထိုမဟာပရိနိဗ္ဗာနသုတ်၏ အဖွင့်အဋ္ဌကထာဖြစ်သော သုတ်မဟာဝါ အဋ္ဌကထာ၌ ဖွင့်ပြထားသည်မှာ–

**ဝဇ္ဇီနံ ဝဇ္ဇီစေတိယာနီတိ ဝဇ္ဇီရာဇူနံ ဝဇ္ဇီရဋ္ဌေ စိတ္တီကတဋ္ဌေန စေတိယာနီတိ လဒ္ဓနာမာနိ ယက္ခဋ္ဌာနာနိ။**[၁၂]

ဤအဋ္ဌကထာအဖွင့်အရ ဝဇ္ဇီမင်းတို့ရဲ့ နတ်ကွန်း(စေတီ)ဆိုတာ ဝဇ္ဇီမင်းတွေ ဝဇ္ဇီနိုင်ငံတွင်းမှာ ပူဇော်ရန် စေတီအဖြစ် သတ်မှတ်ထားသော နတ်ဘီလူးတို့ နေရာဋ္ဌာနဖြစ်သည်ဟု ဖွင့်ဆိုထားသည်ကို တွေ့ရသည်။ ကုဝေရနတ်မင်းကြီး၏ အုပ်ချုပ်မှုအောက်မှာ တည်ရှိသော နတ်ဘီလူးတို့သည် ရံဖန်ရံခါ ကုဝေရနတ်မင်းကြီးထံမှ အခွင့်ထူးများ ရထားတာမျိုးတွေလည်း ရှိတတ်ပါသည်။ ဥပမာ– နေရာဒေသတစ်ခုအတွက် နယ်စား, ပယ်စားရထားတာမျိုးကို ဆိုလိုပါသည်။ ထိုကဲ့သို့သော နေရာမျိုးသို့ ရောက်လာကြကုန်သော ဝဇ္ဇီမင်းတို့သည် နယ်စား, ပယ်စားရထားသော နတ်ဘီလူးတို့ကို အရိုအသေပေးရတာမျိုးလည်း ဖြစ်နိုင်ပါသည်။ သို့မဟုတ်လျှင် ဝဇ္ဇီမင်းတို့သည် အကြောင်းအားလျော်စွာ ထိုနေရာမျိုးသို့ ရောက်ကြသောအခါ နတ်ဘီလူးကို အရိုအသေပေးရန် သူတို့ဂုဏ်နှင့် လျော်ညီသော စေတီနတ်ကွန်းမျိုးကို သတ်သတ်မှတ်မှတ်လေး တည်ဆောက်ပေးထားတာမျိုးလည်း ဖြစ်နိုင်သည်။

---

၁၂။ ဒီ ၂၊ ဋ္ဌ၊ နှာ ၁၁၀။

ထိုနေရာမျိုးကို ဝဇ္ဇီမင်းများ တစ်နှစ်မှာတစ်ခါ၊ နှစ်နှစ်မှာတစ်ခါ စသည် ဖြင့် အခါအားလျော်စွာ ရောက်ကြသောအခါ အရိုအသေပေးကြသည့် နေရာမျိုးဆိုတာ မှတ်သားနိုင်သည်။ သို့သော် တရားနှင့်လျော်ညီသော ဗလိ နတ်စာပေးခြင်းဆိုသော စကားကိုလည်း သုံးသပ်ဆင်ခြင်သင့်ပါသေးသည်။

တရားနှင့်လျော်ညီသောဟူသော စကားနှင့်ပတ်သက်၍ အဋ္ဌကထာ၌ အလားတူဖွင့်ဆိုထားချက်တစ်ခုမှာ တရားနှင့်လျော်ညီသော အစောင့်အရှောက် ပေးခြင်းမျိုးဆိုတာ နေထိုင်ရာသဖွယ်ဖြစ်သော သစ်ပင်ကြီးများကို မခုတ်, မလှဲခြင်း၊ ကြက်၊ ဘဲ၊ ကျွဲ၊ နွား စသော တိရစ္ဆာန်တို့ကို မသတ်ဖြတ်ခြင်း၊ ရေကန်, အင်း, အိုင်, ချောင်း, မြောင်းများထဲမှာရှိသော ငါးတို့ကို မဖမ်းယူ ခြင်းစသည်ဖြင့် ဤကဲ့သို့ မပြုလုပ်ခြင်းမျိုးကို တရားနှင့်လျော်ညီသော အစောင့် အရှောက်ပေးခြင်းမျိုးဟု ဖွင့်ဆိုထားသောကြောင့် မြန်မာနိုင်ငံ၌ နတ်များကို ကိုးကွယ်နေကြသော အနေအထားမျိုးသည် ကြက်၊ ဘဲ၊ ကျွဲ၊ နွားစသော တိရစ္ဆာန်တို့ဖြင့် ပူဇော်ပသနေခြင်း၊ ထန်းရေ၊ အရက်တို့ဖြင့် ပူဇော်ပသနေခြင်း များမှာ တရားနှင့်လျော်ညီသော ပူဇော်ခြင်းမျိုးဟုတ်၊ မဟုတ် လေးလေး နက်နက် စဉ်းစားဆင်ခြင်သင့်လှပါသည်။

ဤနေရာ၌ နောက်ထပ်စဉ်းစားစရာ အချက်တစ်ခုမှာ နတ်များ စားလေ့စားထရှိသော နတ်သုဓာအရသာတို့ဆိုသည်မှာ လူတို့၏ အစားအစာ တွေထက် အဆအရာအထောင်မက သာလွန်ကောင်းမွန်နေသောကြောင့် လူတို့ပူဇော်ပသသော အစားအစာမျိုးဆိုတာ နတ်တွေအတွက် မြတ်နိုးနိုင် ဖွယ်ရာမရှိပါ။ သို့သော် ဤနေရာ၌ ဖြစ်နိုင်ခြေတစ်ခုတော့ရှိပါသည်။ များသော အားဖြင့် ပုထုဇဉ်သတ္တဝါတို့သည် သူတို့အား တရိုတသေ တလေးတစား ပူဇော်ပသခြင်းမျိုးကို သာယာနှစ်ခြိုက်တတ်ကြပါသည်။ မိမိမှာ အပူဇော်ခံထိုက် သည့်ဂုဏ်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ တစ်စုံတစ်ယောက်က ပူဇော်ပသ လာပြီဆိုလျှင် အပူဇော်ခံယူတတ်ကြသည်သာ။ နတ်ရယ်လို့ အမည်နာမတွေ တပ်ပြီး အပူဇော်ခံနေကြသော ပုဂ္ဂိုလ်များသည်လည်း ပုထုဇဉ်သတ္တဝါများပေမို့ အောက်တန်းစား နတ်ဘဝမျိုးနှင့် အကယ်၍များ ရှိနေခဲ့ကြမည်ဆိုလျှင်လည်း





သာယာနှစ်ခြိုက်နေကြမည်သာ။ သို့သော် တကယ်ထင်ရှားမရှိပါဘဲလျက် ထင်ရှားရှိနေပါသည်ဟူ၍ မြန်မာတို့၏ စိတ်ထဲ၌ စွဲလမ်းနေကြခြင်းသည် မရှိသည့်အရာများကို အရှိတရားအနေနှင့် ထင်မြင်ယူဆနေခြင်းသာဖြစ်သည်။ ဤနေရာ၌ နတ်ကိုးကွယ်ခြင်းနှင့် စပ်လျဉ်းသောပြဿနာကို ဆွေးနွေးတင်ပြ နေခြင်းမှာ တကယ်ထင်ရှားမရှိနိုင်တော့သော၊ မြန်မာတို့၌ စိတ်ထဲမှာသာ အရှိတရားတစ်ခုအနေနှင့် ထင်မှတ်ထားသော မင်းမဟာဂီရိစသော အတွင်း '၃၇'မင်း၊ အပြင်'၃၇'မင်းနတ်တို့နှင့် ပတ်သက်၍ ဉာဏ်သတိ ယှဉ်နိုင်အောင် တင်ပြခြင်းဖြစ်သည်။ ထင်ရှားမရှိသော အရာဝတ္ထုတစ်ခုကို ကိုးကွယ်ရာပြု၍ ကိုးကွယ်နေကြမည်ဆိုလျှင် ဉာဏ်မယှဉ်နိုင်သော ထိုကိုးကွယ်မှု မျိုးအတွက် အချိန်ကုန်၊ ငွေကုန်၊ လူပင်ပန်းရုံမှလွဲ၍ ထူးခြားသောအကျိုးထူးများ ဖြစ်လာနိုင်မည်မဟုတ်ပေ။

ထို့အပြင် မြန်မာနိုင်ငံ၌ နတ်တို့ကို ပူဇော်ပသနေခြင်းမျိုးတို့သည် တရားနှင့်လျော်ညီသော ရိုးရိုးသားသား ပူဇော်ပသခြင်းမျိုး မဟုတ်တော့ဘဲ မရိုးမသားဖြင့် ပူဇော်ပသခြင်းမျိုးဘက်သို့ ယိမ်းယိုင်လျက်ရှိနေကြောင်း သိသာထင်ရှားလှသည်။ ဥပမာ– တန်ခိုးကြီးနတ်များကို ပူဇော်ပသဟန်ပြု၍ (နတ်တို့အား ဗန်းပြ၍) ကိုယ်ကျိုး, ကိုယ့်စီးပွားများကို ရှာဖွေနေခြင်း၊ ယုံကြည် လွယ်သူ၊ အလှူအတန်းရက်ရောသူ၊ သဒ္ဓါတရားရှိသူ၊ အသိဉာဏ်နည်းသူ တို့အား နတ်တို့နှင့် ခြောက်လှန့်၍ ဖြားယောင်းခြင်း၊ ကိုယ့်ဘက်ပါအောင် ဆွဲဆောင်ခြင်း၊ လိမ်လည်လှည့်ဖြားခြင်းစသည့် ဤကဲ့သို့သောအလုပ်မျိုးတွေကို ပြုလုပ်နေကြခြင်းသည် ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့ ဂုဏ်သိက္ခာတွေကို ထိခိုက်စေသည်။ စာရေးသူ ပြောလိုသော မြန်မာလူမျိုးတို့၏ ဂုဏ်သိက္ခာမျိုး ဆိုသည်မှာ ရိုးသားခြင်း၊ ဖြောင့်မတ်ခြင်း၊ တည်ကြည်ခြင်း၊ စောင့်ထိန်းခြင်း၊ ကတိတည်ခြင်း၊ သစ္စာရှိခြင်းစသော မွန်မြတ်သောတရားတို့နှင့် ပေါင်းစည်း ထားသော ဂုဏ်သိက္ခာမျိုးကို ဆိုလိုပါသည်။ ထိုဂုဏ်သိက္ခာများ၏ တန်ဖိုးကို မသိကြသောသူတို့သည် ဂုဏ်သိက္ခာဆိုသည်မှာ သူတို့အတွက်တော့ တန်ဖိုး

သတ်မှတ်၍မရနိုင်သော အရာတစ်ခုဟုသာ ထင်မှတ်ကောင်းထင်မှတ်ကြပေမည်။ ထို့ကြောင့် လူ့ဂုဏ်သိက္ခာ၏တန်ဖိုးကို မစဉ်းစားနိုင်ကြတော့ဘဲ သူတို့ပြုချင်သောအရာမျိုးကို လွယ်လွယ်ကူကူနှင့်ပင် ပြုနေကြခြင်းဖြစ်သည်။

တရားအသိဉာဏ်နည်းပါးကြသော မြန်မာလူမျိုးတို့သည် မကြောက်သင့်သောအရာများ၌ အကြောက်တရားတွေ ပိုနေတတ်ကြသည်။ ထိုအကြောက်တရားတွေကြောင့် 'ကြောက်တတ်လျှင်ဘေးဖြစ်' ဆိုသော စကားပုံကိုပင် 'ကြောက်တတ်လျှင် ဘေးကင်း' ဆိုပြီး ဘာမသိ၊ ညာမသိနှင့် ကြောက်သင့်တာတွေကိုရော၊ မကြောက်သင့်တာတွေကိုပါ ရောပြီးကြောက်နေတတ်ကြသည်။ တရားသဘောအရ တကယ်ကြောက်သင့်သည်မှာ နတ်များမဟုတ်ပါ။ အယူတိမ်းစောင်းမှုကြောင့် ကျရောက်နိုင်သော အပါယ်ဆင်းရဲမျိုးကိုသာ ကြောက်ရမည်ဖြစ်ပေသည်။ အယူတိမ်းစောင်းခြင်း၊ ပြုသင့်တာကို မပြုခြင်း၊ မပြုသင့်တာကို ပြုခြင်းဖြင့် ဖောက်လွဲဖောက်ပြန်ပြုသည်။ ဤအမှုမျိုးတွေကြောင့် နောက်ဘဝတွေမှာ ခံစားရမည့်ဆင်းရဲတွေကို ဉာဏ်နှင့်မမြင်နိုင်၍ မကြောက်ကြခြင်းသာဖြစ်သည်။ ငရဲဆိုသော ဆင်းရဲကိုလည်း မကြောက်၊ ယခုဘဝမှာ ဒိဋ္ဌဓမ္မခံစားရမည့် ဆင်းရဲဆိုသော ဘဝငရဲတွေကိုလည်း မကြောက်တတ်ကြလေသောကြောင့် 'သူတည်းတစ်ယောက်၊ ကောင်းဖို့ရောက်မူ၊ သူတစ်ယောက်မှာ၊ ပျက်လင့်ကာသာ၊ ဓမ္မတာတည်း' ဆိုသော သံဝေဂတရားများကိုပင် မပွားများနိုင်၊သတိများလည်း မရနိုင်ကြရှာတော့ပေ။ ဤအခြေအနေများကို တွေ့မြင်နေကြရရှာသော သူတော်ကောင်းတို့သည် ပုထုဇဉ်လူသားတို့ဖြစ်လေ့ဖြစ်ထရှိသော အစွန်းရောက်ခြင်းဆိုသည့် အတ္တ, မာနတရားဆိုးတွေကြောင့် ဖြစ်ကြရတာပဲဟု တရားနှလုံးသွင်းနိုင်ကြ၍ စိတ်သက်သာရာကို ရနိုင်ကြသော်လည်း၊ တရားနှလုံးမသွင်းနိုင်ကြရှာသော ပုထုဇဉ်လူသားတို့အတွက်မှာမူ အများသံသရာတွေသည် လည်ပြီးရင်း လည်နေရင်းဟုသာ ဆိုရပေတော့မည်။ အမှန်မှာမူ သံသရာဆင်းရဲဆိုသည်မှာ အများထင်ထားသလို နောင်ဘဝကျမှ ဖြစ်ပေါ်လာနိုင်သော ဆင်းရဲဘေးမျိုးမဟုတ်ဘဲ၊ ယခုဘဝမှာလည်း ပြုထားသည့် မကောင်းမှုကံ (အကုသိုလ်ကံ)တို့ကြောင့်





နေ့နေ့ညညဖြစ်ပေါ်လာနိုင်သည့် ဆင်းရဲမျိုးတို့သည်လည်း သံသရာဆင်းရဲတွေသာဖြစ်ကြောင်း သိကြရပေမည်။

ပရိတ်တရားတော်များကို ဝတ်ထား၍ ရွတ်ဖတ်ပွားများနေသူ၊ သို့မဟုတ် နာကြားနေသူများသည် ပရိတ်တရားတော်များကို ရွတ်ဖတ်ပွားများနေစဉ်၊ သို့မဟုတ် နာကြားနေစဉ်အခါတို့၌ နတ်ဘီလူးများ ဖိန့်ဖိန့်တုန်အောင်ကြောက်ရသော နတ်ဘီလူးများ၏ အရှင်သခင် ကုဝေရနတ်မင်းကြီးကို ပင့်ဖိတ်ထားပြီးဖြစ်၍ နတ်ဘီလူးများနှင့် နတ်များကို ကုဝေရနတ်မင်းကြီး၏ အရှိန်အဝါဖြင့် အမှန်တကယ်ပင်ကြောက်စရာမလိုပြီ။ ပုထုဇဉ်မှန်လျှင် အကြောက်တရားရှိသည်ဟု အဆိုရှိသော်လည်း အသိဉာဏ်မယှဉ်နိုင်ကြသည့် ပုထုဇဉ်တို့မှာ ရံဖန်ရံခါအကြောက်တရားများ ကင်းဝေးနေကြကြောင်းကိုလည်း တွေ့နိုင်ပါသည်။

ထို့ပြင် ဤနေရာ၌ နတ်ကိုးကွယ်မှုနှင့်ပတ်သက်၍ ပြောရန်တစ်ခု ကျန်ရှိနေသေးသည်မှာ ပရိတ်ပါဠိတော်များနှင့် အဋ္ဌကထာတို့၌ ရည်ညွှန်းပြောဆိုနေသော နတ်များဆိုသည်မှာ ကောင်းကင်နေ၊ မြေပြင်နေ၊ ရေပြင်နေ၊ တော, တောင်များမှာ နေကြသော သူတို့တန်ခိုး၊ သူတို့အစွမ်း၊ သူတို့ကိုယ်ပိုင်ဘုန်းကံများနှင့် တင့်တောင့်တင့်တယ် နေနိုင်ကြသော၊ တန်ခိုးအာနုဘော်တို့နှင့် ပြည့်စုံကြသော နတ်ဗြဟ္မာတွေကိုသာ ရည်ညွှန်းပြောဆိုပြီး၊ အိမ်ကြိုအိမ်ကြား၊ တိုက်ကြိုတိုက်ကြား၊ ကျောင်းကြိုကျောင်းကြားများ၌ ကပ်ရပ်နေကြရသော တန်ခိုးငယ်သော အောက်တန်းစား နတ်သေး၊ နတ်မွှားလေးများကို ရည်ညွှန်းပြောဆိုခြင်းမဟုတ်ကြောင်း ကျမ်းဂန်သဘောအရ သိသာထင်ရှားလှသည်။

အကယ်၍သာ အသိဉာဏ်နည်းပါးကြသော ဗုဒ္ဓဘာသာဝင်တို့သည် တန်ခိုးအာနုဘော်လည်းမရှိ၊ အခြံအရံအသင်းအပင်းလည်းမရှိသော အိမ်ကြိုအိမ်ကြား၊ တိုက်ကြိုတိုက်ကြား၊ ကျောင်းကြိုကျောင်းကြား၊ ရွာစွန်ရွာဖျား၊ မြို့စွန်မြို့ဖျားများ၌ ကပ်ရပ်နေကြရသော အောက်တန်းစား နတ်သေး၊ နတ်မွှားလေးများကိုသာ တလေးတစားထားပြီး ကိုးကွယ်ပူဇော်ပသနေမှုမျိုးတွေကို ဆက်လက်ပြုလုပ်နေဦးကြမည်ဆိုလျှင် တန်ခိုးအာနုဘော်နှင့် ပြည့်စုံကြသော

ကောင်းကင်နေ၊ မြေပြင်နေ နတ်မင်းကြီးတို့၏ အစောင့်အရှောက်များကိုရနိုင်သည့် အခွင့်အလမ်းများပင် နည်းသွားနိုင်ဖွယ်ရာရှိ၍ သတိတရား၊ အသိတရားတို့ဖြင့် စဉ်းစဉ်းစားစား ဆင်ခြင်သုံးသပ်ပြီးမှ ပြုလုပ်သင့်၊ ပြုလုပ်ထိုက်သည့်တို့ကို ပြုလုပ်ဖို့သင့်ကြောင်း တိုက်တွန်းလိုပါသည်။

အထူးတိုက်တွန်းလိုသည်မှာ နတ်များကို ပူဇော်ကြရာ၌ တရားနှင့်လျော်ညီသော ပူဇော်ခြင်းမျိုးဖြစ်ကြရလေအောင် ပရိတ်တရားတော်များမှာ အတိအလင်း ညွှန်ပြထားသော နတ်များကို တရိုတသေ တလေးတစားဖြင့် ပရိတ်တရားတော်နာဖိတ်ခြင်း၊ ပြုပြုသမျှသော ကုသိုလ်အမျှကို ဝမ်းပန်းတသာဖြင့် နတ်တို့အား အမျှပေးဝေခြင်း၊ နတ်တို့အား မေတ္တာပို့ခြင်းစသော ပြုသင့်သောကိစ္စများကို ပြုလုပ်ခြင်းသည် တာဝန်လည်းနည်း၊ အကျိုးများလည်း ပိုမိုရရှိနိုင်၍ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်လိုသူတို့သည် တရားနှင့်လျော်ညီသောဘဝတစ်ခုအဖြစ် နေထိုင်ခြင်းဖြင့် ဗုဒ္ဓဘာသာဝင်ကောင်း တစ်ယောက်၏ ဂုဏ်သိက္ခာများကို တိုးပွားစေနိုင်ပါသည်။ ဗုဒ္ဓဘာသာဝင်များ၏ ရတနာသုံးပါးအပေါ်မှာ ထားရှိသောစိတ်ထားများသည်လည်း သန့်ရှင်းစင်ကြယ်ပြီးဖြစ်သောစိတ်ဖြင့် ဗုဒ္ဓတရားတော်များကို ကိုးကွယ်ခြင်း၊ ပူဇော်ခြင်းများကို ပြုကြမည်ဆိုပါလျှင် အကျိုးကျေးဇူးများသည်လည်း ပိုမို၍ရရှိနိုင်ကြောင်း သိစေအပ်ပါသည်။

## ရိုးရာဓလေ့၌ နတ်တို့၏အနေအထား

မြန်မာတို့၏ ရိုးရာဓလေ့၌ နတ်တွေနှင့်ပတ်သက်ပြီး ပြောရမည် ဆိုလျှင်ကုန်နိုင်ဖွယ်မရှိပါ။ အဘယ့်ကြောင့်ဆိုသော် အတွင်း(၃၇)မင်း၊ အပြင် (၃၇)မင်းအပြင်၊ ထိုအတွင်း, အပြင်၌ မပါဝင်သေးသော ရိုးရာနတ်တွေလည်း အများအပြား ကျန်ရှိနေသေးသောကြောင့် ကျန်နတ်များကို နောက်ထပ်အဖွဲ့သို့မဟုတ် အလယ်(၃၇)မင်း အုပ်စုတစ်စုဖွဲ့ဦးမည်ဆိုလျှင် နောက်ထပ်အုပ်စုတစ်စု ထပ်မံပေါ်ထွက်လာနိုင်ဖွယ်ရာရှိ၍ ထိုအုပ်စုနှင့်ပတ်သက်ပြီး နတ်များ၏သမိုင်းကြောင်းများကို စာတမ်းငယ်၌ အကျယ်ရေးပြရန် နေရာမပေးနိုင်ပါ။





သို့ရာတွင် အထက်(အညာ)ဒေသအရပ်၌ နေထိုင်ကြသော ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးများ၏ (ယေဘုယျသဘောအားဖြင့်) နတ်တို့အပေါ်၌ထားရှိသော စိတ်နေစိတ်ထားများကို ဤနေရာ၌ အနည်းငယ်တင်ပြလိုပါသည်။ အတွေ့အကြုံများကို အခြေခံပြီး ရေးသားတင်ပြထားသော စာရေးဆရာမကြီး လူထုဒေါ်အမာ၏ နတ်တွေနှင့်စပ်ပြီး တင်ပြထားသော 'အမေ့သတိရတဲ့ ပွဲတောင်ပြုံးအတွေ့အကြုံ' ဆောင်းပါးမှ စိတ်ဝင်စားစရာတချို့ကိုကောက်နုတ်တင်ပြလိုပါသည်။ တောင်ပြုံးပွဲ အတွေ့အကြုံနှင့် နတ်ကိုးကွယ်မှုဆိုင်ရာနှင့်ပတ်သက်သော မိသားစုအတွေ့အကြုံလေးများမှ ဤစာတမ်း၌ထည့်သွင်းဖော်ပြထားခြင်းဖြစ်သည်။ စေတနာဖြင့် ရေးသားထားသောဆရာမကြီး၏ဆောင်းပါးသည် သူတို့ခေတ်၊ သူတို့အခါက တောင်ပြုံးပွဲအတွေ့အကြုံများကို ပေါ်လွင်ထင်ရှားအောင် ရေးသားထားသည်ကို တွေ့နိုင်၏။

''တောင်ပြုံးမှာ အရင်ကတော့ အရက်ဆိုင်က ပုန်းလျှိုးကွယ်လျှိုးရောင်းကြရတာ၊ ခုတော့ အထင်ကရအရက်ဆိုင်ကြီးတွေအပြင်၊ အရက်ဆိုင်သေးသေးလေးတွေပါ မရေမတွက်နိုင်အောင် ပေါ်များပါတယ်။ အရက်ဆိုင်အလတ်စားတွေရှိတယ်။ တောအရက်ဆိုင်တွေရှိတယ်။ ထွေးညီရတယ်၊ ဘီယာမျိုးစုံရတယ်၊ မရတာ ဘာမှမရှိဘူး။ ကျွန်မတို့သွားခဲ့တုန်းက နတ်ရုပ်တွေ စီတင်ထားတဲ့ နတ်ကတော်တွေရဲ့ ကနားငယ်ကလေးတွေဟာ ၁၀၀၊ ၉၀(လောက်ပဲ) ရှိတာပါ၊ ဒါကို များလှပြီ ထင်နေခဲ့တာ၊ ဒီနှစ်တောင်ပြုံးမှာအဲဒီနတ်ကတော်များရဲ့ ဆိုင်ကနားအားလုံး (၂၈၅၀) ရှိပါသတဲ့''။[၃၃]

စစ်မှန်သော ထေရဝါဒဗုဒ္ဓသာသနာ ထွန်းကားနေသော မြန်မာနိုင်ငံမျိုးမှာ ဤကဲ့သို့အဆီးအတားမရှိဘဲ ဖြစ်ချင်တိုင်းဖြစ်နေခြင်းအတွက် ဝမ်းနည်းဖွယ်ကောင်းလှသည်။ မှားယွင်းသော နတ်ကိုးကွယ်မှုတွေအတွက် ပြုပြင်စရာတွေ၊ တားမြစ်စရာတွေကတော့ အများကြီး ရှိနေပါ၏။ သို့သော်

၃၃။ လူထုဒေါ်အမာ။ အမေ့သတိရတဲ့ ပွဲတောင်ပြုံး။ ရွှေမြန်မာမဂ္ဂဇင်း၊ အမှတ်(၄)၊ စက်တင်ဘာနိုင်ငံ၊ ၂၀၀၃၊ နှာ-၂၂။

ဤကဲ့သို့သောကိစ္စများကို ကိုယ်ပိုင်အသိတရား၊ ကိုယ်ပိုင်အသိဉာဏ်တို့ဖြင့် ပြုပြင်သင့်သလား၊သို့မဟုတ် အနော်ရထာမင်းကြီးတို့ကဲ့သို့ ကရုဏာ, စေတနာ တို့နှင့်ယှဉ်လျက် မင်းအာဏာတို့ဖြင့် ပြုပြင်သင့်သလားဆိုသည့် အချက်ကိုသာ လေးလေးနက်နက် စဉ်းစားကြဖို့ပင်ရှိတော့၏။ ဗုဒ္ဓဘုရားရှင်၏ ဖြူစင်သော သာသနာတော်ကြီးကို စောင့်ရှောက်နိုင်သော သာသနာပြုပုဂ္ဂိုလ်များ ပေါ်ထွန်း လာနိုင်ပါစေ။

လူထုဒေါ်အမာတို့ မိသားစုဝင်အချို့မှာလည်း ရိုးရာဓလေ့ထုံးစံကို မလွန်ဆန်နိုင်ကြသေး၍ နတ်များကို ပူဇော်ပသနေသေးသည်ကို တွေ့နိုင်သည်။ သို့သော် အလွန်အကျွံမဖြစ်ကြရလေအောင် သတိတရားနှင့် ပူဇော်ပသနည်း မျိုးဖြစ်၍လည်းကောင်း၊ ပစ္စုပ္ပန်, သံသရာ အပြစ်ကင်းလွတ်အောင် ရိုးရာ မပျက်ရုံလောက်သာ ပြုလုပ်နေသော ပူဇော်ပသနည်းမျိုးဖြစ်၍လည်းကောင်း ကိုယ်ပိုင်ဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်နိုင်ရန် ဤစာတမ်း၌ ထည့်သွင်းဖော်ပြလိုက် ပါသည်။

"ဒီနေရာမှာ ကျွန်မတို့ နတ်ကိုးကွယ်ပုံကို နည်းနည်းရေးပါရစေ။ ကျွန်မတို့ငယ်ရွယ်တဲ့ အဲဒီခေတ်တုန်းက အညာက မြန်မာတွေဟာ အိမ်တွင်း မင်းမဟာဂီရိနတ်ကို ပူဇော်ပသကြသူ များပါတယ်။ အိမ်မှာ နတ်အုန်းဆွဲကြတဲ့ အလေ့ရှိပါတယ်။ မဆွဲတဲ့လူက နည်းနည်းပါ။ ကျွန်မတို့ အဘိုးအိမ် (အမေ့ အဖေကတော့) အုန်းမဆွဲပါဘူး။ ကျွန်မတို့အဘိုး ဦးအောင်ဖြိုးက မန္တလေးမြို့မှာ မြို့မျက်နှာဖုံးတစ်ဦးပါ . . . .။

အဲဒီအဘိုးက သားမရှိသမီးမရှိတဲ့ သူ့အစ်မမုဆိုးမဖြစ်သွားတဲ့အခါ အစ်မကိုစောင့်ရှောက်ဖို့ အဘိုးတို့ အိမ်ထောင်က အစ်မနဲ့လာပြီး ပေါင်းနေ ရသတဲ့။သူ့အစ်မအိမ်က နတ်အုန်းဆွဲပါတယ်။ အစ်မယောက်ျားက ပတ္တမြား ကျောက်ကုန်သည်ကိုး။ အဲဒီတော့ သူတို့အိမ်က အုန်းတော်ကို တခြားလူများ နည်းတူ ရှိရှိသေသေတခမ်းတနား ဆွဲတာပါပဲ။ သူ့အစ်မ အုန်းဆွဲပြီးတဲ့နေ့ တစ်နေ့မှာ ကိစ္စတစ်ခုရှိလို့ အစ်မအပြင်ခဏထွက်သွားတော့၊ အဘိုးက





သူ့အစ်မကို လွယ်လွယ်ပြောလို့ ရချင်မှရမယ်ဆိုပြီး သူ့အစ်မ မရှိခိုက် ခုတွင်က ဆွဲသွားတဲ့ အုန်းတော်ကိုချပြီး သားသမီးတွေနဲ့ ခွဲစားပစ်လိုက်ကြသတဲ့။

အစ်မပြန်လာတော့ သူ့အုန်းတော်ကို ခွဲစားလို့ သူ့မောင်ကို ဒါလောက်မိုက်ရမလားဆိုပြီး အထပ်ထပ်အပြစ်တင်တယ်။ အရှင်ကြီးကိုလည်း ကြောက်လန့်တကြား အထပ်ထပ် တောင်းပန်တိုးလျှိုးတယ်။ ဒါပေမယ့်လည်း အုန်းတော့ထပ်ပြီး မဆွဲရဲတော့ဘူး။ ထပ်ဆွဲရင် သူ့မောင်က ထပ်ခွဲစားမှာ စိုးရတာကိုး။ အဲဒီကတည်းကစပြီး ကျွန်မတို့ခေတ်အထိ အုန်းဆွဲတဲ့ အလေ့ မရှိတော့ဘူး။

ဒါဖြင့် နတ်ကိုတင်မြှောက်ပသမှု ဘာဆိုဘာမျှ မရှိတော့ဘူးလားလို့ မေးရင်တော့ဖြင့် ကျွန်မတို့အဘွား(ဦးအောင်ဖြိုးရဲ့ဇနီး)က မုံရွာအနောက်ဘက်က လက်တောင်းကြီးသူမို့ သူ့မိဆိုင်ဖဆိုင်ဆိုပြီး တပေါင်းလမှာ အမေကြီးလို့ခေါ်တဲ့ အမေရေယဉ်နတ်ကို မုန့်ဖြူ မုန့်နီနဲ့တင်ပါတယ်၊ တစ်နှစ်တစ်ကြိမ်တင်ပါ တယ်။ အဲဒီအလေ့တော့ ကနေ့ထက်ထိ ကျွန်မတို့အားလုံးကိုယ်စား အစ်မကြီး ဒေါ်ဦးက ဆက်လက်တာဝန်ယူ တင်သနေပါသေးတယ်"[၁၄]

အထက်ပါစကားရပ်များသည် လူထုဒေါ်အမာ၏ "အမေ့သတိရတဲ့ပွဲ တောင်ပြုံးအတွေ့အကြုံ" ဆောင်းပါးမှ ကောက်နုတ်ချက်ဖြစ်သည်။ အမှန်မှာမူ တောင်ပြုံးပွဲ အတွေ့အကြုံမျှမဟုတ်ဘဲ၊ နှစ်ဆယ်ရာစုခေတ်နှောင်းပိုင်းနှင့် လက်ရှိအညာဒေသရှိ လူအချို့၏ နတ်ကိုးကွယ်မှုဆိုင်ရာ ဓလေ့ထုံးစံများကို လည်း ထင်ဟပ်ပေါ်လွင်စေသည်၊ စာရေးသူတို့ မွေးဖွားရာ အညာဒေသရှိ တန့်ဆည်မြို့နယ်၊ ကန့်ဘလူမြို့နယ်များတစ်ဝိုက်၌ နတ်ကိုးကွယ်မှုကို ပြုကြရာတွင် တစ်ယောက်က တစ်ရာရဲ့ကိုယ်စား၊ တစ်ယောက်က တစ်ရွာရဲ့ ကိုယ်စားဆိုသလို ပူဇော်ပသခြင်းမျိုးကို ပြုပေးနေကြသဖြင့် နတ်ကိုးကွယ်မှု အစဉ်အလာ လုံးဝမကင်းနိုင်သေး၍ ကိုးကွယ်မြဲ၊ ပူဇော်ပသမြဲ ပြုလုပ်နေကြ ရသေးသော်လည်း၊ လွန်လွန်ကျွံကျွံ၊ မားမားယွင်းယွင်းများဖြင့် နတ်တို့ကို

၁၄။ လူထုဒေါ်အမာ။ အမေ့သတိရတဲ့ ပွဲတောင်ပြုံး။ နှာ ၂၀-၂၁။

အကြောက်တရားဖြင့် ပူဇော်ပသနေရခြင်းမျိုးတွေနှင့်နှိုင်းစာလျှင် တော်ပေသေးသည်ဟု ဆိုရပေတော့မည်။

အညာဒေသမှာလည်း အများကြာ၍ အမှန်ဖြစ်နေသည့် အစွဲမှား၊ အယူမှားများ ကျန်ရှိနေပါသေးသည်။ ထိုအထဲမှ ထင်ရှားရာအချို့ကို တင်ပြရလျှင် အချို့ဒေသများ၌ သက်န်းမဝတ်မီ မောင်ရှင်လောင်းများ (ကိုရင်ဝတ်မည့်သူများ)ကို နတ်နန်းအဖြစ်သတ်မှတ်ထားသော နတ်များ၏ နေရာများသို့ သွားရောက်ပြီး ပြသနေကြဆဲဖြစ်သည်။ မင်္ဂလာမဆောင်မီ သတို့သား၊ သတို့သမီးလောင်းများကို နတ်တို့အား သွားရောက်ပြသနေရဆဲဖြစ်သည့် မိရိုးဖလာဓလေ့ထုံးစံများလည်း အချို့အညာဒေသများ၌ ရှိနေသေးသည်။ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်လိုသူတို့အတွက် အလေ့အထအမှားများနှင့် စပ်လျဉ်း၍ သတိပြုစရာ အချက်များပင်။ ဒီပဲရင်းနယ်မှာ မင်္ဂလာဆောင်ပြီး မကြာခင်ကမှ ရန်ကုန်သို့ပြန်လာသော ခင်ဦးသား မောင်ထွန်းထွန်း၏ ပြောပြချက်အရ၊ သူတို့မင်္ဂလာဆောင်စဉ်က မင်္ဂလာမဆောင်မီ တစ်ရက်အလိုမှာ ငှက်ပျောဖီး အဖီးငါးဆယ်၊ အုန်းသီး အလုံးနှစ်ဆယ်တို့ဖြင့် ရိုးရာနတ်တို့ကို သွားရောက်ပြသခဲ့ရသေးကြောင်း မောင်ထွန်းထွန်းကိုယ်တိုင် ထုတ်ဖော်ပြောကြားခဲ့၍ အံ့သြမှုများဖြစ်ရပါသည်။ ယောက္ခမဖြစ်သူများနှင့် သူ့ဇနီးချောလေးတို့၏ ဆန္ဒကို မဆန့်ကျင်လို၍သာ ပြုလုပ်ခဲ့ရသော်လည်း သူ၏စိတ်ထဲမှာမူ ဘာသာတရားအမြင်အရရော၊ ခေတ်အမြင်အရပါ အဓိပ္ပါယ်မဲ့လှ၍ ဤကဲ့သို့သော ယုံကြည်မှုတွေအတွက် စိတ်ပျက်မိကြောင်း ဖွင့်ဟပြောဆိုခဲ့ပါ၏။ မဟုတ်မရာကို အစွဲအလမ်းကြီးနေကြသူများအတွက် သတိထားဖွယ်ကောင်းလှသည်။

ဤပုံဤနည်းဖြင့် ထိုထိုအရပ်ဒေသတို့၌ တကယ်ထင်ရှားမရှိနိုင်တော့သော နတ်များကို ထင်ရှားရှိသယောင်ယောင်ပြု၍ ကိုးကွယ်ပူဇော်ပသနေရခြင်းမျိုးတို့သည် ဗုဒ္ဓဘာသာဝင်ဖြစ်သူများအတွက် အဓိပ္ပါယ်မဲ့လှသည်။ ဤကဲ့သို့ ပြုလုပ်နေခြင်းမျိုးတွေသည် မသူတော်တရားတွေကို ရှင်သန်နေအောင် အားပေးအားမြှောက်ပြုပေးနေသလိုလည်း ဖြစ်နေ၍ ဉာဏ်နှင့်စဉ်းစား





ဆင်ခြင်သင့်ကြပြီ။ အကယ်၍သာ ဗုဒ္ဓဘာသာဝင်များသည် နတ်တို့အား တရားတော်နှင့်လျော်ညီသော ပူဇော်ခြင်းမျိုးဖြင့် ပူဇော်လိုကြပါလျှင် တရားမနာမီ (ပရိတ်တရားမနာမီ) နတ်တို့ကို တရားနာဖိတ်ခြင်း၊ မေတ္တာပို့ခြင်း၊ ကုသိုလ်အမျှများကို အထူးပေးဝေခြင်းစသည်များကို စနစ်တကျပြုလုပ်သင့်ပါသည်။ ဤကဲ့သို့ ပြုလုပ်ပေးခြင်းသည်သာ တရားနှင့်လည်း အကြောင်း, အကျိုးဆီလျော်ပြီး၊ တိုးတက်နေသောခေတ်နှင့်လည်း လျော်ညီလှသည်။ အကျိုးတရားအနေနှင့် ဖြစ်ထွန်းလာနိုင်သည်မှာ နတ်ကိုးကွယ်မှုနှင့်စပ်၍ တာဝန်နည်းပါးခြင်း၊ ဗုဒ္ဓဘာသာတရားကို ဖြူဖြူစင်စင်ဖြင့် ကိုးကွယ်နိုင်ခြင်း၊ ဗုဒ္ဓဘာသာတရားကို ကိုးကွယ်ခြင်းနှင့် နတ်များကို ကိုးကွယ်ခြင်းနှစ်ခုတို့အကြား ရောထွေးယှက်တင်မရှိတော့ခြင်းစသော အကျိုးတရားများကို ဖြစ်ထွန်းစေနိုင်ပါသည်။ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယာက် ဖြစ်လိုသူတို့အတွက် အတုယူစရာ၊ ဆင်ခြင်စဉ်းစားစရာအဖြစ် တင်ပြလိုက်ခြင်းဖြစ်သည်။ သတိတရား၊ အသိတရားတို့နှင့်ယှဉ်သော သဒ္ဓါတရားမျိုးဖြင့် ဗုဒ္ဓသာသနာတော်ကြီးကို ကိုးကွယ်ဆည်းကပ်နိုင်ကြပါစေ။



## အခန်း (၃)

### နတ်မင်း (၁) မင်းမှ သည် (၃၇) မင်းသို့

လူသားများသည် ဘယ်အချိန်အခါမှစ၍ နတ်များကို ယုံကြည်ကိုးကွယ်မှုများ၊ ပူဇော်ပသမှုများ ပြုခဲ့ကြသည်ဆိုသော သမိုင်းအထောက်အထားများကိုမူ အတိအကျဖော်ပြရန် ခဲယဉ်းလှသည်။ ဖြစ်နိုင်ခြေရှိသော သမိုင်းအထောက်အထားများအရ လူသားများသည် နတ်ကိုးကွယ်မှုကို စတင်ပြုလုပ်လာခဲ့ကြသည်မှာ ကမ္ဘာပေါ်တွင် လူရယ်လို့ ဖြစ်လာသည့်အချိန်မှစပြီး စတင်ပေါ်ပေါက်လာခဲ့ဟန်ရှိကြောင်း သမိုင်းဆရာများက ခန့်မှန်းပြောဆိုခဲ့ကြသည်။ ဘာသာတရားကိုးကွယ်မှုနှင့်စပ်လျဉ်း၍ လူတို့၏ ဓလေ့ထုံးစံများကို လေ့လာကြည့်ရှုသောအခါ လူမျိုးတိုင်းလူမျိုးတိုင်းသည် နတ်တွေကို အမည်နာမအမျိုးမျိုးတပ်၊ ဘွဲ့အမျိုးမျိုးတွေကို ပေးအပ်ကာ အနည်းနည်းအဖုံဖုံဖြင့် ယုံကြည်ကိုးကွယ်နေကြသည်ကို တွေ့ရသည်။

မြန်မာနိုင်ငံတွင်လည်း လွန်ခဲ့သော နှစ်ပေါင်း(၂၀၀၀)ကျော်လောက်မှစ၍ ဟိန္ဒူအယူဝါဒများ၊ ထို့နောက် ဗုဒ္ဓဘာသာအယူဝါဒများ ရောက်ရှိလာခဲ့ပြီး၊ ထိုဝါဒများနှင့်အတူ ဟိန္ဒူနတ်ဝါဒများ တစ်ပါတည်းပါလာခဲ့သည်။

ထို့နောက် ဟိန္ဒူဘာသာဝင်များက ဟိန္ဒူနတ်များကိုမဟာယာနဗုဒ္ဓဘာသာဝင်များကလည်း ဟိန္ဒူဘာသာဝင်များသို့ အတုလိုက်ကာ နတ်ဒေဝါများကို ကိုးကွယ်လာခဲ့ကြသည်။ ထိုမှစ၍ နတ်ကိုးကွယ်ခြင်း၊ ပူဇော်ပသခြင်း ဓလေ့ထုံးစံများနှင့် နတ်ကိုးကွယ်သူဦးရေများသည်လည်း တစ်နေ့တခြားတိုးပွားလာခဲ့သည်။ မြန်မာနိုင်ငံ၏ နတ်ကိုးကွယ်မှုသမိုင်းနှင့်စပ်လျဉ်း၍ အမျိုးသားပညာဝန်ဦးဖိုးကျားရေးသော(၃၇)မင်းစာအုပ်၏ သမိုင်းအကျဉ်းကို အောက်ပါအတိုင်း ရေးသားဖော်ပြထားသည်။

မြန်မာပြည်တွင် အကြီးအကျယ်အထင်အရှားဆုံး နတ်ကိုးကွယ်မှုမှာ ပုဂံသေလည်ကြောင်မင်းလက်ထက် (သာသနာတော်နှစ် ၈၈၈–၉၃၁။ 4th century A.D.)တွင်ပေါ်လာသော မောင်တင့်တယ်မောင်နှမသေ၍ နတ်ဖြစ်သည်ဆိုသော မင်းမဟာဂီရိနတ်မောင်နှမတို့ကစ၍ အထူးကြီးကျယ်လာလေသည်။ ထိုနတ်မောင်နှမကို ပုပ္ပါးတောင်တွင်ထား၍ ဘုရင်ကစပြီး တိုင်းသူပြည်သား ဆင်းရဲသားအထိ ကြီးကျယ်သော ပွဲလမ်းသဘင်ကို နှစ်စဉ်ပြုကာ ကိုးကွယ်ပူဇော်ကြလေသည်။[၁၅]

ပညာရှင်အများစုသည် အထက်ဖော်ပြပါ တင်ပြချက်ကို ယေဘုယျသဘောအားဖြင့် လက်ခံခဲ့ကြသည်။ အိမ်တွင်းနတ်မင်းကြီး မင်းမဟာဂီရိနှင့်ပတ်သက်ပြီး ဤနေရာ၌ စဉ်းစားစရာတစ်ခုဖြစ်လာသည်။ မင်းတုန်းမင်းကြီးလက်ထက်က မင်းမဟာဂီရိနတ်ကို နတ်တို့၏ အကြီးအကဲအဖြစ် ယူဆခဲ့ကြသော်လည်း ဗုဒ္ဓဘာသာကျမ်းဂန်များနှင့်အညီပြောရလျှင် နတ်တို့၏မင်းသည် တစ်မင်းတည်းသာ ဖြစ်သင့်ပါသည်။ ထိုနတ်မင်းကြီးသည် နတ်များအားလုံးတို့၏ဘုရင် (ဒေဝရာဇာ)၊ နတ်များအားလုံးတို့၏ အရှင်သခင်(ဒေဝိန္ဒ)ဖြစ်သော သိကြားမင်းပင်ဖြစ်သည်။ ထိုနတ်မင်းကြီး၏ အမည်ရင်း သက္ကဆိုသော အမည်ကို မြန်မာများက မြန်မာမှုပြုပြီး သိကြားမင်းဟု ခေါ်လာခဲ့ကြခြင်းဖြစ်သည်။

၁၅။ အမျိုးသားပညာဝန် ဦးဖိုးကျား ၊ ၃၇ မင်း။ နှာ ၇။





သို့ရာတွင် နတ်အမည်တွေ ပေါများလှသော မြန်မာနိုင်ငံ၏ နတ်သမိုင်းကြောင်းများကို မကျဉ်းမကျယ်ရေးရမည်ဆိုလျှင် နာမည်ကြီး အိမ်တွင်းနတ်မင်းကြီး (မင်းမဟာဂီရိ)ထက် ရှေးကျသောနတ်တွေ များစွာရှိနေခဲ့သည်။ ပုဂံခေတ်အနော်ရထာမင်းလက်ထက်မတိုင်မီ ခေတ်အခါက မဟာယာနဗုဒ္ဓဘာသာဝင်ဖြစ်သော မန္တရယာန၊ တန္တရယာန အရည်းကြီးများသည် မြန်မာပြည်ကို သူတို့၏ အယူဝါဒများနှင့် လွှမ်းမိုးခဲ့ကြဖူးသည်။ အဲဒီခေတ်၊ အဲဒီအခါက နတ်ကိုးကွယ်မှုများကို အလွန်အကျွံရှေ့တန်းတင်ခဲ့ကြ၍ နတ်ကိုးကွယ်မှုများသည် အတော်အတန်ကို ရှေ့တန်းရောက်လာခဲ့သည်။ သေလည်ကြောင်မင်း (မြန်မာသက္ကရာဇ်၂၆၆–၃၀၉) လက်ထက်ရောက်သောအခါ မင်းမဟာဂီရိနတ်မောင်နှမကို မင်းနှင့်တကွ ပြည်သူများအားလုံးကပါ ကိုးကွယ်၊ ပူဇော်ပသခဲ့ကြ၍ နတ်ကိုးကွယ်မှုအရှိန်အဟုန်သည် အမြင့်မားဆုံး အခြေအနေသို့ ရောက်လာခဲ့သည်။ ထိုအချိန်၌ နတ်ကိုးကွယ်သူများသည် သူတို့၏အိမ်ရှေ့များတွင် နတ်ကွန်း၊ နတ်စင်များကို ဆောက်လုပ်ပြီး၊ ထိုနတ်အိမ်များထဲသို့ နတ်ရုပ်တုများထည့်သွင်းကာ နေ့စဉ်နေ့တိုင်း အစားအစာတို့ဖြင့် တင်မြှောက်၍ နတ်များကို ပူဇော်ပသခဲ့ကြသည်။[၁၆]

ဤနေရာ၌ စိတ်ဝင်စားဖွယ်တစ်ချက်မှာ မြန်မာပြည်သူ၊ မြန်မာပြည်သားတို့သည် နတ်များကို ကိုးကွယ်ပူဇော်ပသနေကြသော်လည်း နတ်ဆိုတာ ဘာလဲ။ ဘာကို နတ်လို့ခေါ်သလဲဟု တစ်စုံတစ်ယောက်က မေးလာခဲ့သော် တိတိကျကျ ဂယနဏာသိထားသူက ရှားလှသည်။ ထို့ကြောင့် ဤနေရာ၌ နတ်ဆိုသော ဝေါဟာရနှင့်ပတ်သက်ပြီး အနည်းငယ်ဆွေးနွေးတင်ပြလိုပါသည်။ နတ်နှင့်ပတ်သက်လာလျှင် မစူးစမ်း မဆင်ခြင်ဘဲ ယုံမိယုံရာ၊ ထင်မိထင်ရာတွေကို ကိုးကွယ်နေကြသော ဗုဒ္ဓဘာသာဝင် မြန်မာအများစုတို့၏ အသိဉာဏ်တရားများသည် အင်အားချည့်နဲ့လွန်းလှသည်။ နတ်ဆိုတာ ဘာမှန်းမသိဘဲနှင့် ကိုးကွယ်ပူဇော်ပသနေရတာမျိုးကတော့ ကလေးဆန်လွန်းလှသည်။ နတ်ဆိုတာ

၁၆။ ဦးထွေးဟန်၊(ဘာသာပြန်)။ မြန်မာ့မိရိုးဖလာဓလေ့နတ်သမိုင်း၊ နှာ၃၂–၃၃။

ဘာမှန်းမသိ၊ ညာမှန်းမသိအဖြစ်မျိုးနှင့် ကိုးကွယ်နေရတာမျိုးနှင့်စာလျှင် အနည်းဆုံးနတ်ဆိုတာ ဒါပဲဆိုတာလောက်တော့ သိထားသင့်သည်။

နတ်ဟူသည်မှာ နာထဟူသော ပါဠိဝေါဟာရမှ(နာထ–နာထ်–နတ်)ဟု အဆင့်ဆင့်မြန်မာဘာသာသို့ ပြောင်းလဲလာခဲ့သော ပါဠိသက်ဝေါဟာရတစ်ခုဖြစ်သည်။ နတ်ဆိုသည်မှာ သတ္တဝါတို့ ကိုးကွယ် အားထားရာဖြစ်သောပုဂ္ဂိုလ်ကိုဆိုသည်။ ဝေါဟာရလီနတ္ထပကာသနီကျမ်း၌ 'ငါတို့မြန်မာမှာ နာထသဒ္ဒါကိုရည်၍ နတ်ခေါ်ဝေါ်သည်ယူရမည်။ ထိုနာထသဒ္ဒါကား ကိုးကွယ်ရာအနက်ရသည် မှတ်ရမည်'ဟု အဆိုရှိသည်။[၁၇] ပညာရေးဝန်ကြီးဌာန၊မြန်မာစာအဖွဲ့ဦးစီးဌာနမှ ထုတ်ဝေသော ခရီးဆောင်မြန်မာအဘိဓာန်ကျမ်း၌ 'နတ်ဆိုသည်မှာ ချမ်းသာရှိသော၊ တောက်ပသော၊ ကိုးကွယ်ရာဖြစ်သောပုဂ္ဂိုလ်'ဟု အဓိပ္ပါယ်ဖွင့်ဆိုသည်။[၁၈] ပါဠိသက်ဝေါဟာရအရ ကိုးကွယ်ရာဖြစ်သောပုဂ္ဂိုလ်မှန်သမျှသည် နတ်ဖြစ်နိုင်၍ ကိုးကွယ်ရာဖြစ်နေမည်ဆိုလျှင် သစ်ပင်တွေ၊ တောတွေ၊ တောင်တွေ၊ ရေပြင်တွေမှာ နေကြသော မမြင်နိုင်သော တစ္ဆေတွေ၊ သရဲတွေ၊ ပြိတ္တာတွေစသော သတ္တဝါတွေကိုလည်း ကိုးကွယ်ရာတွေအနေနှင့် အသိအမှတ်ပြုထားကြမည်ဆိုလျှင် ထိုသတ္တဝါတွေအားလုံးသည်လည်း နတ်တွေပင်ဖြစ်နိုင်သည်။

နတ်အမျိုးအစားတွေ များနေသော်လည်း ကိုးကွယ်ရာအနေနှင့် သတ်မှတ်ထားသော နတ်အရေအတွက်မှာ –

(၁) ဝိသုဒ္ဓိနတ် = ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာများ။

(၂) ဥပပတ္တိနတ် = နတ်ပြည်၊ ဗြဟ္မာပြည်၌ဖြစ်သော နတ်ဗြဟ္မာများ။

(၃) သမ္မုတိနတ် = မင်း၊ မိဖုရား၊ သားတော်၊ သမီးတော်များ ဟူ၍ သုံးမျိုးကို ကျမ်းဂန်များ၌ ဖော်ပြထားပါသည်။ ဤသုံးမျိုးတို့တွင် ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာများကို နတ်ဟုဆိုရခြင်းမှာ ပစ္စုပ္ပန်ဘဝနှင့် တမလွန်ဘဝအတွက် စီးပွားချမ်းသာဖြစ်ထွန်းစေရန်လည်းကောင်း၊ ဘေးဥပဒ်အန္တရာယ်တို့ကို ကာကွယ်စေရန်လည်းကောင်း၊ သတ္တဝါတို့ ကိုးကွယ်အားထားရာဖြစ်၍လည်းကောင်း နတ်ဟုဆိုသည်။ နတ်ပြည်၊ ဗြဟ္မာပြည်၌ဖြစ်သော နတ်ဗြဟ္မာများကို နတ်ဟုဆိုရခြင်းမှာ အချို့လူတို့ အယူအဆအားဖြင့် ပစ္စုပ္ပန်ဘဝအတွက် စီးပွားချမ်းသာ ဖြစ်ထွန်းစေရန်လည်းကောင်း၊ ဘေးဥပဒ်အန္တရာယ်တို့ကို ကာကွယ်စေရန်လည်းကောင်း၊ သတ္တဝါတို့ ကိုးကွယ်အားထားရာဖြစ်၍လည်းကောင်း နတ်ဟုဆိုသည်။ (မင်း၊ မိဖုရား၊ သားတော်၊ သမီးတော်များကို နတ်ဟုဆိုရခြင်းမှာ ပစ္စုပ္ပန်ဘဝအတွက် ဘေးဥပဒ်အန္တရာယ်တို့ကို ကာကွယ်စေရန်နှင့် မပြုလုပ်စေရန် စွမ်းနိုင်သောကြောင့် ကိုးကွယ်အားထားရာမျိုးဖြစ်၍ဆိုသည်)။[၁၉]

နတ်ဆိုသောစကားအရ အကျဉ်းအားဖြင့်ရေတွက်သော် ပိဋကတ်တော်ကျမ်းများ၌ ပါရှိသောနတ်များကား နတ်ပြည်ခြောက်ထပ်ရှိနတ်များ၊ ဗြဟ္မာဘုံနှစ်ဆယ်ရှိ ဗြဟ္မာများ၊ သုတ်မဟာဝါပါဠိတော် မဟာသမယသုတ်၌ ပါရှိသောနတ်များ၊ သုတ်ပါထေယျပါဠိတော် အာဋာနာဋိယသုတ်၌ ပါရှိသောနတ်များ၊ ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးနတ်များ စသည်တို့ဖြစ်သည်။ (တစ်နည်း) လောကုတ္တရာဘက်ဆိုင်ရာ ပိဋကတ်တော်ကျမ်းများ၌ ပါရှိသောနတ်များ၊ လောကီဘက်ဆိုင်ရာကျမ်းများ၊ ရာဇဝင်၊ မဟာဝင်၊ သာသနာဝင်စသောကျမ်းများ၌ ပါရှိသောနတ်များ၊ ရှေးစာဟောင်း စာတမ်းများ၌ ပါရှိသောနတ်များ၊ လူတို့မိရိုးဖလာ၊ အယူအဆ စိတ်ဆန္ဒအလျောက် ကိုးကွယ်အားထားကြသော နတ်များနှင့် ထိုထိုအရပ်ဒေသတို့၌ ကိုးကွယ်ကြသော နတ်များကိုထည့်သွင်း ရေတွက်လျှင် အလွန်များပြားလှသည်။[၂၀]

ထိုသို့များပြားသော်လည်း ကနဦးပိုင်း၌ မိရိုးဖလာအယူအဆအရ စိတ်ဆန္ဒအလျောက် ကိုးကွယ်ထားကြသော နတ်အရေအတွက်မှာ မများလှ

---

၁၇။ မြန်မာ့စွယ်စုံကျမ်း၊ တွဲ–၆၊ စာပေဗိမာန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ပထမအကြိမ်၊ ၁၉၆၂၊ နှာ ၁၂၈ ။

၁၈။ ''နတ်ကတော်'' ဆိုသည်မှာ နတ်က(တော်)ကောက်ထားသူ၊ နတ်ပူးဝင် ဟောပြောတတ်သူ၊ နတ်ဝင်သည်ဟု အဓိပ္ပါယ်ရသည်။

၁၉။ မြန်မာ့စွယ်စုံကျမ်း၊ နှာ ၁၂၈။

၂၀။ မြန်မာ့စွယ်စုံကျမ်း၊ နှာ ၁၂၈။

သေးပါ။ အစောပိုင်း၌ မိရိုးဖလာအရ ကိုးကွယ်ထားကြသော ရှေးကျလှသော နတ်အချို့နှင့် ဟိန္ဒူအယူဝါဒမှ ဆင်းသက်လာသော ဗိဿနိုးနတ်စသော နတ်အချို့ သာရှိခဲ့သည်။ သို့သော် ဗိဿနိုးနတ်မင်းကို နန်းတွင်းနတ်မင်းအဖြစ် နန်းတော်တွင်းမှာ ရှင်ဘုရင်အဆက်ဆက် ကိုးကွယ်ပူဇော်ပသခဲ့ကြသော်လည်း ပြည်သူများအကြားမှာ ပေါ်ပေါ်လွင်လွင် ထင်ထင်ရှားရှားမရှိခဲ့ပါ။ ပြည်သူတွေ တလေးတစားကိုးကွယ်, ပူဇော်ပသခဲ့သော နတ်တွေကျပြန်တော့လည်း ရှင်ဘုရင်က အသိအမှတ်မပြုခဲ့ပြန်ပေ။ သို့သော် ဤနေရာ၌ ထူးခြားနေသည်မှာ မင်းမဟာဂီရိနတ်ကိုမူ မင်းနှင့်ပြည်သူအားလုံးတို့ တညီတညွတ်တည်း ကိုးကွယ်ပူဇော်ပသခဲ့ကြသောကြောင့် မင်းနှင့်ပြည်သူတို့အကြားဝယ် ထင်ပေါ်ကျော်ကြားလာသော နတ်တစ်ပါးဖြစ်လာခဲ့သည်။ အစ်ကိုဖြစ်သူနတ်ကို အမှီပြု၍ နှမတော်နတ် မမြလှသည်လည်း နာမည်ကြီးနတ်တစ်ပါး ဖြစ်လာခဲ့သည်။

ထိုနတ်နှစ်ပါးနှင့် ရိုးရာနတ်များကို အစထား၍ မြန်မာပြည်မှာ နတ်တွေတဖြည်းဖြည်းတိုးပွားလာခဲ့ရာ အတွင်း '၃၇' မင်း၊ အပြင် '၃၇'မင်း ရေတွက်ရသည်အထိ များပြားလာခဲ့ခြင်းဖြစ်သည်။ ''အတွင်း အပြင်''ဟူသော ဝေါဟာရတစ်ခု ဖြစ်ပေါ်လာရခြင်းမှာ အနော်ရထာမင်းကြီးလက်ထက် မင်းမိန့်ဖြင့် နတ်အိမ်တို့ကိုဖျက်ဆီး၍ နတ်ရုပ်တို့ကို သံကြိုးဖြင့်ချည်တွဲကာ ပုဂံ ရွှေစည်းခုံဘုရား တစ်နေရာ၌ထားရှိလာမှုကို အကြောင်းပြု၍ ယခင်က ရွှေစည်းခုံဘုရားတံတိုင်းအတွင်း၌ ရုပ်ပုံနှင့်တကွထားရှိပြီးဖြစ်သော နတ်များကို အတွင်း '၃၇' မင်း၊ အနော်ရထာမင်းကြီး၏အမိန့်တော်ကြောင့် နောက်ထပ် ရောက်လာခဲ့သော နောက်တိုးနတ်များကိုမူ အပြင် '၃၇' မင်းဟု ခေါ်ဝေါ်ခဲ့ကြခြင်းဖြစ်သည်။

နတ်အရေအတွက်နှင့်ပတ်သက်ပြီး၊ အဘယ်ကြောင့် (၃၇) ဂဏန်း အရေအတွက်ကို ယူထားရသနည်း အမေးရှိလာခဲ့သော် '၃၇'မင်း အရေအတွက် သတ်မှတ်ထားရခြင်းနှင့်ပတ်သက်၍ မဟာသမယသုတ်၊ အာဋာနာ-ဋိယသုတ်တို့၌ လာရှိသော နတ်မင်းကြီး'၉'ပါး၊ နတ်စစ်သူကြီး'၂၈'ပါး၊ ပေါင်း '၃၇'ပါး၊ နံပါတ်အရေအတွက်ကို အတုယူကာ အတွင်း'၃၇' မင်း၊အပြင်'၃၇'





မင်းနတ်ဟု ပုဂံခေတ်ပညာရှင်များက သတ်မှတ်ခဲ့ကြဟန်တူကြောင်း သုတေသီတို့ ကောက်ချက်ချခဲ့ကြသည်။[၂၁]

ဗုဒ္ဓဘာသာဆိုင်ရာ ကျမ်းဂန်လာ (၃၇) မင်း

၁။ ဣန္ဒနတ်မင်းကြီး
၂။ သောမနတ်မင်းကြီး
၃။ ဝရုဏနတ်မင်းကြီး
၄။ ဘာရဒွါဇနတ်မင်းကြီး
၅။ ပဇာပတိနတ်မင်းကြီး
၆။ စန္ဒနနတ်မင်းကြီး
၇။ ကာမသေဋ္ဌနတ်မင်းကြီး
၈။ ကိန္နုဃဏ္ဍုနတ်မင်းကြီး
၉။ နိဃဏ္ဍုနတ်မင်းကြီး
၁၀။ ပနာဒယက္ခသေနာပတိနတ်စစ်သူကြီး
၁၁။ ဩပမညယက္ခသေနာပတိနတ်စစ်သူကြီး
၁၂။ ဒေဝသုတ (မာတလိ) ယက္ခသေနာပတိနတ်စစ်သူကြီး
၁၃။ စိတ္တသေနယက္ခသေနာပတိနတ်စစ်သူကြီး
၁၄။ နဠောရာဇယက္ခသေနာပတိနတ်စစ်သူကြီး
၁၅။ ဇနေသဘယက္ခသေနာပတိနတ်စစ်သူကြီး
၁၆။ သာတာဂီရိယက္ခသေနာပတိနတ်စစ်သူကြီး
၁၇။ ဟေမဝတယက္ခသေနာပတိနတ်စစ်သူကြီး
၁၈။ ပုဏ္ဏကယက္ခသေနာပတိနတ်စစ်သူကြီး
၁၉။ ကရတိယယက္ခသေနာပတိနတ်စစ်သူကြီး
၂၀။ သိဝကယက္ခသေနာပတိနတ်စစ်သူကြီး
၂၁။ မုစ္စလိန္ဒယက္ခသေနာပတိနတ်စစ်သူကြီး
၂၂။ ဝေဿာမိတ္တယက္ခသေနာပတိနတ်စစ်သူကြီး
၂၃။ ယုဂန္ဓရယက္ခသေနာပတိနတ်စစ်သူကြီး

၂၁။ အမျိုးသားပညာဝန် ဦးဖိုးကျား၊ ၃၇ မင်း၊ နှာ ၉ ။

၂၄။ ဂေါပါလယက္ခသေနာပတိနတ်စစ်သူကြီး

၂၅။ သုပ္ပရောဓယက္ခသေနာပတိနတ်စစ်သူကြီး

၂၆။ ဟိရိယက္ခသေနာပတိနတ်စစ်သူကြီး

၂၇။ နေတ္တိယက္ခသေနာပတိနတ်စစ်သူကြီး

၂၈။ မန္ဒိယယက္ခသေနာပတိနတ်စစ်သူကြီး

၂၉။ ပဥ္စာလစဏ္ဍယက္ခသေနာပတိနတ်စစ်သူကြီး

၃၀။ အာဠာဝကယက္ခသေနာပတိနတ်စစ်သူကြီး

၃၁။ ပဇ္ဇုန္နယက္ခသေနာပတိနတ်စစ်သူကြီး

၃၂။ သုမနယက္ခသေနာပတိနတ်စစ်သူကြီး

၃၃။ သုမုခယက္ခသေနာပတိနတ်စစ်သူကြီး

၃၄။ ဒဓိမုခယက္ခသေနာပတိနတ်စစ်သူကြီး

၃၅။ မဏိယက္ခသေနာပတိနတ်စစ်သူကြီး

၃၆။ မဏိစရယက္ခသေနာပတိနတ်စစ်သူကြီး

၃၇။ သေရိသကယက္ခသေနာပတိနတ်စစ်သူကြီး

အထက်ဖော်ပြပါ ဗုဒ္ဓဘာသာနတ်မင်း (၃၇) မင်းထဲမှ နတ်စစ်သူကြီး (၂၈)ပါး၏ ရုပ်တုများကိုပြုလုပ်၍ ပုဂံအာနန္ဒာစေတီတော်ကြီး၏ အစောင့်အရှောက် အရံအတားအလို့ငှာ ကျန်စစ်သားမင်းကြီးက ပုဂံအာနန္ဒာဘုရားအတွင်းမှာ ဘုရားမြောက်ဘက်မုခ် အရှေ့ဘက်တန်းတွင်'၁၄'ရုပ်၊ တောင်ဘက်မုခ် အရှေ့ဘက်တန်းတွင်'၁၄'ရုပ်၊ ပေါင်း'၂၈'ရုပ် ထုလုပ်၍ ကသိုလ်ပြုခဲ့ကြောင်း သမိုင်းများအဆိုရှိသော်လည်း စာရေးသူတို့ကိုယ်တိုင် ပုဂံသို့သွားရောက်၍ လေ့လာသောအခါ၌ နတ်စစ်သူကြီး(၂၈)ဦးတို့၏ ရုပ်တုအားလုံးကို မတွေ့ရတော့ပေ။ အရှေ့ , အနောက်, တောင်, မြောက်, စောင်းတန်းလေးသွယ်၌ စောင်းတန်းတစ်ဖက်လျှင် နတ်ရုပ်(၆)ရုပ်စီသာ တွေ့ရပါတော့သည်။[၂၂] ညောင်ဦးရွှေစည်းခုံစေတီတော်ကြီး၏ စောင်းတန်းလေးသွယ်၌ စောင်းတန်းတစ်ဖက်စီတွင် ရေးကျသောနတ်ရုပ်ထုများ (၄) ရုပ်စီသာ တွေ့ရှိရပါတော့သည်။ သို့သော်တောင်ဘက်မုခ် စောင်းတန်းဟောင်းနေရာ (အလိုတော်ပြည့်

၂၂။ အမျိုးသားပညာဝန် ဦးဖိုးကျား၊ ၃၇ မင်း၊ နှာ ၉ ။





ကျောင်းမြောက်ပေါက်အနီး)တွင် စောင်းတန်းဟောင်းတစ်လျှောက် ဦးခေါင်းများပျက်စီးနေပြီး ကိုယ်ခန္ဓာများသည်လည်း ပျက်စီးယိုယွင်းစပြုနေပြီဖြစ်သော နတ်ရုပ်ဟောင်းအချို့(၈-ရုပ်ခန့်)ကို ကျောချင်းကပ်လျက် ထုလုပ်ထားသည်ကို တွေ့ရှိခဲ့ရသည်။

## အတွင်း "၃၇" မင်း

ရွှေစည်းခုံဘုရားအား အစောင့်အရှောက်အရံအတားအလို့ငှာ ထားရှိခဲ့သော နတ်ရုပ်များကို အဖွဲ့ပြုလျက် ရွှေစည်းခုံတံတိုင်းအတွင်းတွင် တည်ရှိသောကြောင့် အတွင်း '၃၇' မင်းဟု အမည်တွင်လာသော နတ်များ၏စာရင်းမှာ အောက်ပါအတိုင်းဖြစ်သည် -

၁။ ဓတရဋ္ဌ (ဂန္ဓဗ္ဗနတ်မင်းကြီး၊ နတ်ဝတ်တန်ဆာ၊ ဒုယင်ဝတ်၍ လက်တစ်ဖက်က သန်လျက်ကိုင်လျက် ဒူးတစ်ဖက်ထောင်၊ တစ်ဖက်လှဲကာ အရှေ့မုခ်တွင် ထားရှိသည်။)

၂။ ဝိရူဠှက (ကုမ္ဘဏ်နတ်မင်းကြီး၊ နတ်ဝတ်တန်ဆာ ဝတ်ဆင်ထားပုံတူသည်၊ အနောက်မုခ်၌ တည်ရှိသည်။)

၃။ ဝိရူပက္ခ (နဂါးနတ်မင်း၊ နတ်ဝတ်တန်ဆာ ဝတ်ဆင်ထားပုံတူသည်၊ အနောက်မုခ်၌ တည်ရှိသည်။)

၄။ ကုဝေရ (ဘီလူးနတ်မင်း၊ နတ်ဝတ်တန်ဆာ၊ ဒုယင်သုံးဆင့်၊ ခြေထောက်သုံးချောင်း၊အစွယ်ရှစ်ချောင်း၊ သံတင်းပုတ်ကိုင်ဟန်ရှိပြီး မြောက်ဘက်မုခ်၌ စောင့်ရှောက်သည်။)[၂၃]

၂၃။ နံပါတ် ၁ မှ ၄ နံပါတ်ထိ ဤနတ်မင်းကြီးလေးပါးကို စတုမဟာရာဇ် နတ်မင်းကြီးလေးပါးဟု လူသိများကြသည်။

၅။ **သိကြား** (သိကြား၊ နတ်ရုပ်အတိုင်း လက်တစ်ဖက်က ခရုသင်းကိုင်၊ လက်တစ်ဖက်ကသားမြီးယပ်ကိုင်၍ ပြင်ပမဟာရံတံခါးမကြီး တောင်ဘက်တွင် တည်ရှိသည်။)

၆။ **မဟေသရ(သိဝ)**(နတ်ဝတ်တန်ဆာဝတ်ဆင်၊ နွားလားဥသဘကိုစီးလျက်၊လက်တစ်ဖက်က လှံသုံးခွကိုကိုင်လျက် ပစ္စယာအနောက်တောင်ထောင့်တွင်ရှိသည်။မဟေသရ = ပရမေသွာ = သျှိဗား၊ ဟိန္ဒူနတ်)

၇။ **မဟာပိန္နဲ** (ဗြဟ္မာ့ကိုယ်နှင့် ဆင်ဦးခေါင်း။ လက်ယာဘက်လက်နှစ်ခွတွင် အထက်လက်မှာသန်လျက်၊ အောက်လက်မှာ ချွန်းကိုင်ဟန်၊ လက်ဝဲလက်နှစ်ခွတွင်လည်း အထက်လက်မှာ စက်ဝန်း၊ အောက်လက်မှာ မိမိဦးခေါင်းမှာရှိတဲ့ ဆင်နှာမောင်းကို ဆုပ်ကိုင်နေဟန်၊ စေတီတော် မြောက်မှန်တွင်ရှိသည်။ကြွက်ယာဉ်စီးသည်၊ ဟိန္ဒူနတ်။)

၈။ **စန္ဒီ(ကာလီ)** (နတ်သမီး။ လက်ဆယ်ချောင်းရှိ၊ လက်ယာဘက် ငါးဘက်မှာ ဓားလွှယ်၊ သန်လျက်၊ လှံ၊ ချွန်း၊ ဓားမြှောင်တစ်ခုစီကိုင်သည်။ လက်ဝဲ ငါးဘက်မှာ ဒိုင်း၊ ထီး၊ လေး၊ ပုတီး၊ ခရုသင်းတစ်ခုစီကိုင်သည်။ ပတ္တမြားနီခံသော ခြင်္သေ့ယာဉ်စီးသည်။ စေတီတော် ပြင်ပတံခါးအတွင်းတွင် တွေ့ရသည်။ ဟိန္ဒူနတ်၊ ဟိန္ဒူကျမ်းများ၌ ဤနတ်ကို ကာလီမယ်တော်၊ ကာလီနတ်ဟု ခေါ်သည်။

ကြမ်းကြုတ်ပြီး ချုပ်ချယ်တတ်သည်၊ လောက၏





အမိသဖွယ်စောင့်ရှောက်ကာကွယ်တတ်သည်။ ကျက်သရေရှိသည်ဟုလည်း ဆိုထားသည်။)

၉။ **သူရဿတီ** (နတ်သမီး။ ဥက္ကါယဂင်စိုက်၊ နတ်ဝတ်တန်ဆာဆင်လျက်။ ဟင်္သာငှက်ပေါ်တွင်ထိုင်၍ လက်တစ်ဖက်မှာ ကြာပန်းကိုကိုင်နေဟန်၊စေတီတော်အနောက်မုခ်တွင်တည်ရှိသည်။ဟိန္ဒူနတ်၊ဟိန္ဒူကျမ်းများ၌ သရသွတိ = သွရသတီ= သျှသွတိ စသည်ဖြင့် အမည်အမျိုးမျိုးရှိ။ ဗြဟ္မာမင်း၏ မိဖုရား။ ဟင်္သာစီးသည်။ နှုတ်စကားကို အစိုးရသည်။ အတတ်ပညာကို ပေးတတ်သည်ဟု ယုံကြသည်။)[၂၄]

၁၀။ **ပြသိဂီ** (နတ်သမီး၊ လက်က ပန်းခိုင်ကိုင်၍ ဘုရားရှိခိုး **(ပြသမဂီ= ရသမဂီ)** နေဟန်။ စေတီတော်၏ တောင်ဘက်မျက်နှာ ဖိနပ်တော်ရင်းတွင် တည်ရှိသည်၊ ဟိန္ဒူနတ်)။

၁၁။ **စန္ဒာနတ်သား** (စန္ဒီနတ်သမီးအတိုင်း၊ နတ်သမီးတန်ဆာနှင့် နတ်သားတန်ဆာသာ ခြားနားသည်။ စန္ဒီနှင့် အတူတကွနေထိုင်လျက် စေတီတော်ကို ရှိခိုးနေ

---

၂၄။ ကိုယ်ပိုင်ဉာဏ်ဖြင့် ဆုံးဖြတ်ရွေးချယ်နိုင်သည့် စွမ်းရည်များ အားနည်းရှာကြသော ဗုဒ္ဓဘာသာမြန်မာလူမျိုးတို့သည် သူရဿတီအမည်တွင်သည့် ဟိန္ဒူနတ်(ကုလားနတ်)ကို သာသနာစောင့်နတ်၊ ပိဋကတ်သုံးပုံစောင့်နတ်ဟု အမြင်လွဲကာ သူရဿတီနတ်ရုပ်ကို ထုလုပ်ကိုးကွယ်နေကြသည်မှာ အသိဉာဏ်အားနည်းလွန်းလှပေစွဟူ၍သာ ဆိုရပေတော့မည်။ သူရဿတီနတ်ရုပ်ကို ထုလုပ်ကြရာ၌ ပိဋကတ်သုံးပုံကို ရည်ညွှန်းလျက် စာအုပ်သုံးအုပ်ကို ကိုင်တွယ်ပွေ့ပိုက်လျက် ဟင်္သာယာဉ်ပေါ်တွင် တင်ပါးလွှဲချထိုင်ဟန်ထုလုပ်ပြီး၊ ပိဋကတ်သုံးပုံကို သူရဿတီမယ်တော်ကြီးကပဲ စောင့်နေသယောင် မြန်မာပြည်သူတို့အား အထင်ရောက်စေခဲ့သည်။ ကျောင်းရိပ်ကန်ရိပ် ဘုရားရိပ်နှင့် အိမ်ဦးခန်းဘုရားစင်များမှာ ယခုတိုင်တွေ့မြင်နေကြရသည်မှာ

ဟန်။ စေတီတော်၏ ပြင်ပတံခါးအတွင်းတွင်
တည်ရှိသည်။ ဟိန္ဒူနတ်)။

၁၂။ အာဠဝီ (မတ်ရပ်ထလျက် သန်လျက်ကိုင်ထားဟန်။
စေတီတော်အရှေ့မုခ်တွင်ရှိသည်။)

၁၃။ မာရ်နတ်(လက်ဝဲ လက်ယာမှာ လက်ဆယ်ခွစီရှိ။ လက်
အသီးသီး၌ လက်နက်တစ်မျိုးစီ ကိုင်ဆောင်
ထား။ စုစုပေါင်းလက်နက်အမျိုးနှစ်ဆယ် ကိုင်
တွယ်ထားဟန်။ တောင်မုခ်တွင်တွေ့ရသည်။)

၁၄။ သောတာပန်(အင်ကြင်းပင်စောင့်နတ်။ အင်ကြင်းပန်းဖြင့်
ဘုရားရှိခိုးနေဟန်၊ပစ္စယာအရှေ့တောင်ထောင့်
တွင် တည်ရှိသည်၊)

၁၅။ အနာဂါမ် (ရွှေသပိတ်စောင့်၊ ယင်နှင်နတ်၊ သပိတ်တော်
အနီးယပ်ခတ်နေဟန်၊ စေတီတော်၏ တောင်
အရပ်တွင် တည်ရှိသည်၊)

၁၆။ ဇမ္ဗူဒီပါ(မတ်ရပ်ထ၊ သန်လျက်ကိုင်၊ အနောက်မုခ်။)

၁၇။ ဇမ္ဗူတံဆိပ် (ငှင်းနည်းတူ။ အနောက်မုခ်။)

၁၈။ ဇမ္ဗူချမ်းသာ(ငှင်းနည်းတူ။ အနောက်မုခ်။)

၁၉။ ဇမ္ဗူကျက်သရေ(ငှင်းနည်းတူ။ အနောက်မုခ်။)

၂၀။ ဇမ္ဗူသပြေ(ဒူးတစ်ဖက်ထောင်၊တစ်ဖက်လှဲထိုင်၍သန်လျက်
ကိုင်။ အရှေ့တောင်ထောင့်တွင်တည်ရှိသည်။)

၂၁။ ဇမ္ဗူတန်ဆောင် (ငှင်းနည်းတူ။ အနောက်တောင်ထောင့်တွင်
တည်ရှိ။)

---

မြန်မာတွေ ဘာသာရေးအသိဉာဏ် မည်မျှအားနည်းနေသည်ဆိုတာကို ပေါ်လွင်စေပါသည်၊ သာသနာ့သမိုင်းတစ်လျှောက်လုံး ပရိယတ္တိသာသနာတော်ကြီးကို အရှည်ခံ့တည်တံ့ ပြန့်ပွားနိုင်စေရန် အပျော်အာရုံတွေကိုစွန့်လွှတ်ပြီး နေ့ညမအား အချိန်အနားမထားဘဲ အားသွန်ခွန်စိုက် ကြိုးပမ်းဆောင်ရွက်တော်မူကြသော စာချစာသင် သံဃာတော်အရှင် သူမြတ်တို့အား အားနာဖို့ပင်ကောင်းလှတော့သည်။





၂၂။ ဇမ္ဗူတမွတ် (ငှင်းနည်းတူ။ အနောက်မြောက်ထောင့်တွင်
တည်ရှိ။)

၂၃။ ဇမ္ဗူရန်အောင် (ငှင်းနည်းတူ။ အရှေ့မြောက်ထောင့်တွင်
တည်ရှိ။)

၂၄။ ရွှေသက်စိုး (မတ်ရပ်ထ၊သန်လျက်ကိုင်၊ပစ္စယာအရှေ့တောင်
ထောင့်နှင့် မြောက်ထောင့်ချိုးတွင်တည်ရှိ၊)

၂၅။ ရွှေပြည်သင် (ငှင်းနည်းတူ။ မြောက်အရပ်တွင်တည်ရှိ။)

၂၆။ ရွှေညိုသင် (ငှင်းနည်းတူ၊ ပစ္စယာအနောက်တောင်ထောင့်
တွင်တည်ရှိ။)

၂၇။ ရွှေစကား (ငှင်းနည်းတူ၊ ပစ္စယာအနောက်တောင်ထောင့်
တွင်တည်ရှိ။)

၂၈။ ခယားပင် (လက်တွင် ခယားပွင့်ပန်းဖြင့် ရှိခိုးနေဟန်၊
စောင့်နတ် အရှေ့အရပ်တွင်တည်ရှိ။)

၂၉။ မန်ကျည်းပင်(မတ်ရပ်ထ၊ သန်လျက်ကိုင်။ တောင်ဘက်
စောင့်နတ် မုခ်တွင်ရှိ။)

၃၀။ ဆင်ဖြူရှင်နတ်(ဆင်ဖြူတော်စီးဟန်။ မဟာရံအရှေ့တောင်
ထောင့်။)

၃၁။ မြင်းဖြူရှင်နတ်(မြင်းဖြူစီးဟန်၊ ပြင်ပမဟာရံအရှေ့မြောက်
ထောင့်။)

၃၂။ ဆွဲသင်(ငှင်းနည်းတူ။ မဟာရံအနောက်တောင်ထောင့်။)
(ရွှေဆွေသင်)

၃၃။ ငနွဲ့သင် (ငှင်းနည်းတူ။ အနောက်တံခါး။)

၃၄။ ပက်မသင်(ငှင်းနည်းတူ။ မဟာရံအနောက်မြောက်ထောင့်။)

၃၅။ ဘုံမသင်(ငှင်းနည်းတူ။မဟာရံအနောက်မြောက်ထောင့်။)

၃၆။ ထုံသင်းကြီး (ငှင်းနည်းတူ။မြောက်တံခါး။)
(ဘုံသင်းကြည်)

၃၇။ ပွဲစားကြီး (ပွဲမင်းကြီး) (ငှင်းနည်းတူ၊ပစ္စယာ
အနောက်တောင် ထောင့်၊)[၂၅]

ဤစာရင်းသည် ရှေးကရှိခဲ့ဖူးသော ပုဂံရှေးဟောင်းခုံဘုရား တံတိုင်း အတွင်းမှာတည်ရှိသော နတ်စာရင်းကို မှီငြမ်းပြုလျက် ဖော်ပြထားခြင်းဖြစ်၍ မန္တလေးရွှေမြို့တော်တည် စာတမ်းလာစာရင်းနှင့် အနည်းငယ်ကွဲလွဲနေပါသည်။ မန္တလေးရွှေမြို့တော်တည် စာတမ်းလာ အတွင်း'၃၇'မင်းစာရင်း၌ စန္ဒီ၊ စန္ဒာ၊ အာဠဝီ နတ်သုံးပါးမပါ၊ ၎င်းတို့အစား အာဋ္ဌာဝက။ ကြေးစန္ဒီ၊ ကြေ့စန္ဒီ နတ်သုံးပါး ပါလာသည်၊ ကြွင်းသောနတ်'၃၄'ပါးတို့ကား တူညီကြသည်။[၂၆]
အတွင်း'၃၇'မင်း နတ်စာရင်းတွင် ဗုဒ္ဓဘာသာဆိုင်ရာ နတ်များ၊ ဗြာဟ္မဏ ဝါဒလာနတ်များနှင့် ပြည်တွင်းနတ်များ ရောနှောလျက်ရှိနေသည်ကို တွေ့ရ သည်။ ဤအတွင်း(၃၇)မင်း နတ်စာရင်းမှာပါသော ပထမ(၄)ပါး (ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ)တို့ကို စတုမဟာရာဇ် နတ်မင်းကြီး'၄'ပါးဟု ခေါ်ဝေါ် ပြောဆိုကြပြီ။ ၎င်းနတ်'၄'ပါးကို ဗုဒ္ဓဘာသာကျမ်းဖြစ်သော အာဋ္ဌာနာဋိယသုတ် မှာတွေ့နိုင်သလို သက္ကတဘာသာဖြင့် ရေးထားသော အာဒိကပ္ပကျမ်းနှင့် ဟိန္ဒူကျမ်းများမှာလည်း ပါရှိနေသည်။ မဟေသရ၊ မဟာပိန္နဲ၊ စန္ဒီ၊ သူရဿတီ၊ ပြဿိဂီစသည့် နတ်များကိုတော့ ဟိန္ဒူကျမ်းများမှာသာပါရှိသော နတ်တွေ အဖြစ်တွေ့နိုင်ပါသည်။ [၂၇]

သို့သော် ပုဂံခေတ်က အတွင်း'၃၇'မင်း အရေအတွက်မှာမူ '၃၇'ပါး လုံးပြည့်နေပြီဖြစ်သော်လည်း အနော်ရထာတို့လက်ထက်က အပြင် '၃၇'မင်း မှာ '၃၇'ပါး အရေအတွက် မပြည့်သေးဘဲ ရှိနေသေးကြောင်း တွေ့ရသည်။

---

၂၅။ အမျိုးသားပညာဝန်ဦးဖိုးကျား၊ ၃၇ မင်း၊ နှာ ၁၂-၁၅ ။
မင်းစည်သူ၊မြန်မာနိုင်ငံနတ်ကိုးကွယ်မှုသမိုင်း။ (ဒုတိယတွဲ)နှာ၁၇-၂၀။
၂၆။ မြန်မာ့စွယ်စုံကျမ်း၊ နှာ ၁၃၀။
၂၇။ အမျိုးသားပညာဝန်ဦးဖိုးကျား၊ ၃၇ မင်း၊ နှာ ၁၂-၁၆ ။





ပုဂံခေတ်နောက် ပင်းယ၊ အင်းဝ၊ တောင်ငူခေတ်တို့ရောက်မှ အပြင်'၃၇'မင်း စာရင်းပြည့်အောင် ထည့်ထားကြသည်ကို တွေ့ရှိရသည်။

နတ်များကို ရွှေစည်းခုံဘုရား၏ တံတိုင်းအတွင်း၌ ထားရှိသော ရည်ရွယ်ချက်မှာ အစောင့်အရှောက်ဖြစ်စေရန်သဘောနှင့် ထားဟန်တူကြောင်း ပညာဝန်ဦးဖိုးကျားမှ ကောက်ချက်ချခဲ့သည်။ သို့သော် ပုဂံခေတ်ရေး စေတီဝင် ပါဠိနိဿယ၌ ဖော်ပြထားသည်မှာ -

ထိုသို့ နတ်ရုပ်များထားသည့် ရည်ရွယ်ချက်ကို ပုဂံခေတ်ရေး စေတီဝင် ပါဠိနိဿယ၌ဆိုထားသည်မှာ - "သက္က စတုလောကပါလ ဝဿဝဏ္ဏာဒိနိ- သိကြားနတ်မင်း၊ စတုလောကပါလနတ်၊ ဝဿဝဏ်နတ် အစရှိကုန်သော၊ အနေက ဒေဝရူပါနိစ - များစွာသော နတ်မင်းရုပ်တို့ကိုလည်းကောင်း၊ ဇေယျခုံထူပါ - ဇေယျခုံရွှေစေတီတော်ကြီးကို၊ ရက္ခိတုံ - စောင့်ရှောက်စေခြင်း ငှာ၊ ဌပေတိ - ထားပေ၏"ဟူ၍ဖြစ်ပါသည်။ အနော်ရထာမင်းကြီးက သူ၏ ကုသိုလ်တော်ဖြစ်သော စေတီတော်ကြီးအတွက် အစောင့်အရှောက်အလို့ငှာ နတ်ရုပ်များကိုထားသည်ဟု ဆိုပေသည်၊ ယနေ့ခေတ် ဖူးတွေ့ရသည့်စေတီတော် များ၏ ရင်ပြင်တွင် နတ်ကွန်းနတ်နန်းနှင့် ရောနှောထွေးယှက်တင်ပြု၍ တွေ့မြင် နေရပေရာ မည်သည့်ရည်ရွယ်ချက်ဖြင့် ထားရှိသည်ကို တာဝန်ယူဆောင်ရွက် နေသူများသာ သိနိုင်ပေလိမ့်မည်။[၂၈]

## အပြင် "၃၇" မင်း

၁။ သိကြားမင်း(အောက်ခံဆင်ရုပ်၊ ဦးခေါင်းလုံးခံ၊၎င်းအပေါ်က
ပဒုမ္မာကြာပွင့်တွင် မတ်ရပ်ထလျက်။ လက်ယာ
လက်က ခရုသင်း၊ လက်ဝဲလက်က သားမြီး
ယပ်ကိုင်၊ သိကြားအဝတ်တန်ဆာနှင့်ရှိသည်၊)

---

၂၈။ မင်းစည်သူ၊ မြန်မာနိုင်ငံနတ်ကိုးကွယ်မှုသမိုင်း၊(ပထမတွဲ)၊နှာ-၁၀။

၂။ **မဟာဂီရိနတ်** (အိမ်တွင်းအဖေကြီးနတ်)(ပန်းပဲမောင်တင့်တယ်၊ အားအင်အစွမ်းကြီးမား၍ တကောင်းဘုရင်က စိုးရိမ်စိတ်ဖြင့် ဖမ်းဆီးပြီး မိုထိုး၍ အသတ်ခံခဲ့ရသူ၊ ဆင်ဖြူခုံတွင် ဘီလူးဆင့်သည်၊ ၄င်းအပေါ်တွင်မတ်ရပ်ထလျက် မင်းသားတို့ အဆောင်အယောင် ဖောင်းနားတောင်းစလွယ်နှင့် ဝဲလက်ကယပ်။ ယာလက်က ဓားကိုင်သည်။)

၃။ **နှမတော်နတ်**(မောင်တင့်တယ်နှမ စောမယ်ယာ (ခေါ်)ဒေါ်မြတ်လှ မောင်တင့်တယ်ကို မိုထိုးသတ်နေစဉ် မီးပုံတွင်း ခုန်ဆင်းပြီး အတူသေခဲ့သူ၊ ဆင်နက်မအရုပ်ခုံတွင် ဘီလူးရုပ်ဆင့်သည်၊ ၄င်းအပေါ်တွင် မတ်ရပ်ထလျက် ယာလက်ရှိ လက်မနှင့်လက်ညှိုးက ကြစုသီးကိုင်၍ ရင်ကိုပိုက်နေဟန်၊ ဝဲလက်က ကိုယ်ကိုမြှောင်လျက် ချထားဟန်)

၄။ **ရွှေနပေနတ်**(မင်းတုန်းမြို့သူ။ နဂါးနှင့် ညား။ လင်ပစ် (**ရွှေနဘော**) သွား၍ စိတ္တဇနှင့် သေရသူ၊ (နောက်တစ်နည်း) နဂါးမျိုးဖြစ်၍ မောင်တင့်တယ်နှင့် ပြေးလွှားနေရစဉ်တွင် ညားသည်၊ ဥနှစ်လုံးမွေးဖွားပြီး သေရသူ။ ကြာခုံပေါ်တွင် မတ်ရပ်ထလျက်၊ ဦးခေါင်းတွင် နဂါးလည်ပေါ်စည်းပုံဆောင်း၊ ဆူးနားတောင်းပန်။ ယာလက်က ရင်ကိုပိုက်၊ ဝဲလက်ကကိုယ်မှာ မြှောင်၍ချထားသည်။)

၅။ **သုံးပန်လှနတ်**(မောင်တင့်တယ်ရဲ့ နှမအထွေး မနဲမိ၏အမေ။ မောင်တင့်တယ်တို့ အမှုဖြစ်စဉ်အခါ သုံးပန်လှ ရခိုင်ပြည်ရောက်ရှိနေ။ ရခိုင်မင်းက သမီးအဖြစ်မွေးစား။ နောင်အခါ ဥက္ကလာပမင်း မိဖုရားဖြစ်။





သမီးရှင်နဲမိကို မွေးဖွားပြီးနောက် ဆွေမျိုးများနှင့်တွေ့လို၍ တကောင်းမြို့သို့ပြန်ခဲ့ရာ အင်းဝမြို့အနောက် တပယ်ထောက်ရစ်ရွာအရောက် ရုတ်တရက်ဖျား၍ သေခဲ့သူ၊ (နောက်တစ်နည်း) ဟံသာဝတီမြို့၊ ကန်စွမ်းနိမ့်ရွာသူ။ တစ်နေ့သုံးကြိမ်သုံးဖန်လှသည်ဖြစ်၍ ဒွတ္တပေါင်မင်းကြီးသို့ ဆက်သလာသည်တွင် မင်းကြီး၏မိဖုရားများက မနာလို၍ သုံးဖန်လှကို သွားရောက်ကြည့်သူတို့အား တံစိုးလက်ဆောင်ပေးပြီး ကိုယ်လက်အလွန်ကြီးမားသူဖြစ်၍ မြို့တံခါးမဆံ့သဖြင့် မသွင်းယူနိုင်ကြောင်း တင်လျှောက်စေရာ မင်းကြီးယုံကြည်ပြီး၊ မြို့ပြင်တွင် နေစေသည်။ နောက်ပိုင်းတွင် မင်းကြီးမသိမ်းယူတော့မှန်း သိ၍စိတ်ညစ်ပြီးသေခဲ့ရသူ။ ဆင်ရုပ်ခုံ ဘီလူးခုံတွင် မတ်ရပ်ထ၊ ဆံကျစ်မြိတ်ရစ်ထုံး၊ ယာလက်က ရင်ကိုမ၊ ဝဲလက်က ကိုယ်မှာမြှောင်ချထားသည်။)

၆။ **မနဲမိနတ်** (သုံးပန်လှ၏သမီး။ မယ်တော်သုံးပန်လှ သေဆုံးစဉ် '၂'နှစ်သမီးမျှဖြစ်သောမနဲမိသည် မယ်တော်ကို လွမ်းဆွတ်၍သေခဲ့ရသူ။ကြာခံပလ္လင်ပေါ်တွင် မတ်ရပ်၊ ထဘီခါးချပ်ဝတ်ကာ လက်ကောက်၊ ပုတီး၊ စည်းပုံနှင့် လက်နှစ်ဖက်ကို လွှဲချဟန်။ ကလေးရုပ် ထုရသည်။)

၇။ **တောင်မကြီးနတ်** = ရှင်ညို ခေါ် ကိုညို (ရွှေနပေ၏သား)

၈။ **မြောက်မင်းနတ်**= ရှင်ဖြူခေါ်ကိုဖြူ(ရွှေနပေ၏သား)(ညီအစ်ကိုနှစ်ယောက် ဒွတ္တပေါင်မင်းကြီးထံတွင် ခစား

နေရာတွင်၄င်းတို့နှစ်ယောက်၏ အစွမ်းသတ္တိကို သိရှိသွားပြီး။ မင်းကြီးစိုးရိမ်သောကြောင့် ၄င်းညီအစ်ကိုနှစ်ယောက်ကို အချင်းချင်းလက်ဇေ့လက်ပန်းထိုးကြစေရာ နှစ်ယောက်စလုံး နှလုံးရင်ကွဲ၍ သေကြရသူများ၊ တောင်မကြီးရုပ်မှာ ကြာခံခုံ။ လက်ဝဲလက်ယာသုံးဖက်စီ၊ အထက်ဝဲယာလက်နှစ်ဖက်က လက်အုပ်ချီ၍ ရင်မှာကပ်ထားသည်။ ကျန်ဝဲလက်နှစ်ဖက်က တုတ်နှင့်သိုင်း။ ယာလက်နှစ်ဖက်က ဓားနှင့်လှံကိုင်သည်၊ ခေါင်းတွင်မောက်တိုဆောင်း၍ စစ်ဝတ်တန်ဆာအစုံနှင့်ရှိသည်။ မြောင်မင်းရှင်ဖြူမှာလည်း လက်ခြောက်ဖက်နှင့်ပင်ဖြစ်သည်၊

**၉။ ထီးဖြူဆောင်းနတ်** (ပုဂံအနော်ရထာမင်း၏ ခမည်းတော်ကွမ်းဆော်မင်း(၃၂၆–၃၄၈)ဖြစ်သည်။ ရဟန်းအဖြစ်နှင့် အနိစ္စရောက်သည်၊ ပလ္လင်ခုံပြန်ပေါ်တွင်တင်ပျဉ်ခွေလျက် သင်္ကန်းဒုကုဋ်တင်ဟန်နှင့် မိုးကြိုးသွားပုံ ဒေါက်ချာဆောင်းထားသည်။ ယာလက်က သရဘတ်ကိုင်၍ (ယပ်ကိုင်၍) ဝဲလက်က ဒူးပေါ်တင်ထားသည်။

**၁၀။ ထီးဖြူဆောင်းမယ်တော်နတ်** (ကွမ်းဆော်မင်း၏မယ်တော်၊ ကြာခံခုံပေါ်တွင် ကျုံ့ကျုံ့ထိုင်၍ ယာလက်က ဝမ်းကိုပိုက်၍၊ ဝဲလက်က ပေါင်ပေါ်တင် ထားဟန် ဆံထုံး၊ ဆံမြိတ်၊ ဆံထိုးနှင့်ရှိသည်။)

**၁၁။ ပရိမ္မရှင် မင်းခေါင်နတ်**(ကွမ်းဆော်မင်း၏သား ကြည်းစိုး(၃၄၈–၃၅၄) မင်း။ တောတွင်သမင်ပစ်မည်ဟု လေးရွယ်နေစဉ် မုဆိုးတစ်ဦးက ထိုသမင်ကို





ပစ်ရာ ကြည်းစိုမင်းကို လေးထိမှန်၍ အနိစ္စရောက်ခဲ့သူ၊ အောက်ခံပလ္လင်ပေါ်တွင် တင်ပျဉ်ခွေ၍ ဖောင်းသရဖူဆောင်း။ လက်ယာလက်က ဒူးလေးထမ်းဟန်၊ ဝဲလက်က လက်ဝဲဒူးစွန်းကို ထောက်ထားဟန်။)

**၁၂။ ရွှေဖျဉ်းကြီး(ရွှေဖျဉ်းနောင်တော်နတ်)** (ကုလားဗျတ္တနှင့် ပန်းစားဘီလူးမတို့၏သား)

**၁၃။ ရွှေဖျဉ်းငယ် (ရွှေဖျဉ်းညီတော်နတ်)** (ကုလားဗျတ္တနှင့် ပန်းစားဘီလူးမတို့၏သား) ပုဂံအနော်ရထာမင်း(၄၀၆–၄၃၉)လက်ထက်၊ တောင်ပြုံးအရပ်တွင်အနော်ရထာမင်း ဘုရားတည်ရာတွင် ၄င်းတို့အတွက် အုတ်လပ်သည်(အုတ်၂–ချပ်လစ်လပ်သည်) ဆို၍ ကွပ်မျက်ခံခဲ့ရသူများ။ရွှေဖျဉ်းကြီးနတ်မှာ အောက်ခံဖွန်းရိုးပလ္လင်ပြန့်ပေါ်တွင် လက်ယာဒူးထောင်၊လက်ဝဲဒူးလှဲ ၊ယာလက်က ဓားထမ်း၊ ဝဲလက်က ပေါင်ကိုထောက်၊ ဖောင်းနားတောင်း လက်ကောက်တန်ဆာနှင့်ရှိသည်။ ရွှေဖျဉ်းငယ်အတွက် အထက်ပုံအတိုင်း။သို့ရာတွင် ရုပ်တုကိုအနည်းငယ် ငယ်၍ ထုလုပ်ရသည်။

**၁၄။မန္တလေးဘိုးတော်နတ်** (ပုဏ္ဏားသား။ ရွှေဖျဉ်းညီနောင်ကို ဘုရင့်အမိန့်အရ မွေးထားရသူ၊ ၄င်းညီနောင်ရာဇဝတ်သင့်ရာတွင် ရော၍ကွပ်မျက်ခံရသူ၊ရွှေဖျဉ်းညီနောင်တို့က အဘိုးခေါ်သည်ဖြစ်၍'ဘိုးတော်' ဟူ၍လည်းကောင်း။ မန္တလေးအရပ်တွင်အသတ်ခံရ၍ 'မန္တလေးဘိုးတော်' ဟူ၍လည်းကောင်း အမည်တွင်သည်။အောက်ခံပလ္လင်ခုံတွင် မတ်ရပ်

ထလျက် ဓားဆင်ပြီးလျှင်၊ ဝဲလက်မားထမ်း၊ ယာလက်မနှင့်လက်ညှိုး လက်ဆစ်ပြဟန် ထုလုပ်ရသည်။ ``ငါ့မှာ လက်တစ်ဆစ်မျှ အပြစ်မရှိ'' ဟု ဆိုလိုသည်။)

၁၅။ ရှင်ကူနတ် (မန္တလေးဘိုးတော်နမ။ မန္တလေးဘိုးတော်နှင့်ရော၍အသတ်ခံရသည်၊ကြာခံနံ ဆံထုံးလုလင်ကြည့်၊ဆံထိုး–ဆံကျင်အစုံနှင့် လက်နှစ်ဖက်ကိုတွဲလွဲချကာ ကူ၍သွားဟန် ထုလုပ်ရသည်။)

၁၆။ ညောင်ချင်းအိုနတ်(သထုံမနူဟာမင်းအနွယ်၊ ပုဂံအနော်ရထာမင်းလက်ထက် ကုဋ္ဌနူနာနှင့် ပုဂံတွင် အနိစ္စရောက်ခဲ့ရသူ။ အောက်ခံလေးထောင့် မတ်ရပ်ထလျက် လက်ခြေများမှာ လူနူအဟန်၊ ယာလက် တောင်ဝှေးကိုင်၊ ဝဲလက်အထက်မြှောက်ထားဟန်၊ သျှောင်ထုံးနှင့် ထုလုပ်ရသည်။)

၁၇။ မင်းစည်သူနတ်(ပုဂံအလောင်းစည်သူမင်းကြီး (၄၇၄–၅၂၉)။ သားတော်ကုလားကျမင်းခေါ် နရသူက အဝတ်ဖြင့် မျက်နှာကို အုပ်ဖိသတ်၍ နတ်ရွာစံခဲ့ရသူ။ အောက်ခံပလ္လင်၊ ယာဒူးထောက်၊ဝဲဒူးချ ယာဒူးအပေါ်တွင် ယာလက်ရုံတင်၍လက်ညှိုးထိုးဟန်၊ ဝဲလက်က ဝဲဒူးကိုထောက်လျက်၊ဓားစလွယ်၊ နားတောင်း၊ ရှေ့ဘယက် နောက်ဘယက်နှင့် ထုလုပ်ရသည်။)

၁၈။ မင်းသားဒန်းမောင်ရှင်နတ် (ပုဂံအလောင်းစည်သူ၏သားတော်ကြီး မင်းရှင်စော၏သား၊ သာမဏေဘဝနှင့် ဒန်းကစားရာတွင် ဒန်းပေါ်ကကျ၍အနိစ္စရောက်ခဲ့သူ။ ပလ္လင်ခုံပြန် တင်ပျဉ်ခွေ။





ယာလက်က ဓားကိုပိုက်တီး၍ ဝဲလက်ကကြိုးကိုထောက်ဟန်၊ ဓားစလွယ်နှင့်ထုလုပ်ရသည်။)

၁၉။ ကျော်စွာနတ် (ကိုကြီးကျော်) (မင်းကျော်စွာ၊ ပခန်းဦးမင်းကျော်ဟု အမည်အမျိုးမျိုးတွင်သောကျော်စွာနတ်။ ကျော်စွာနတ်ကို ပုဂံအလောင်းစည်သူ (၄၇၄–၅၂၉)၏ အမတ်တစ်ဦးဟူ၍လည်းကောင်း၊ ပုဂံသိန်းခွန်မင်း(၉၆–၁၀၆)၏သားဟူ၍လည်းကောင်း။ အင်းဝမင်းခေါင်၏သား မင်းရဲကျော်စွာဟူ၍လည်းကောင်းဆိုကြသည်။ ပထမအဆို၌ ပုပ္ပါးသူအရက်သည်မဘို့မယ်နှင့်အကြောင်းပါသည်၊ ကြက်၊အရက်၊ပွဲများနှင့်သာ ပျော်ပါးနေ၍ သေသည်ဟူ၍လည်းကောင်း၊ ဒုတိယအဆို၌အစ်ကိုစည်သူကသတ်၍သေသည်ဟူ၍လည်းကောင်း၊တတိယအဆို၌ မွန်တို့နှင့်တိုက်ရသော ဒလစစ်ပွဲတွင်ကျဆုံးသည်ဟူ၍လည်းကောင်း အဆိုရှိသည်။ မြင်းစီးလျက် လက်ယာကြိမ်ကိုင်၊ လက်ဝဲမြင်းဇက်ကိုင်၊ သျှောင်ထုံးနှင့်ထုလုပ်ရသည်၊)

၂၀။ အောင်စွာမကြီးနတ် (ပုဂံ နရပတိစည်သူမင်း (၅၃၆–၅၇၃)၏ အမတ်ငအောင်စွာဖြစ်သည်။ နရပတိစည်သူမင်းက နောင်တော်မင်းယဉ်နရသိခ်ကိုသွား၍လုပ်ကြပါ၊ အောင်မြင်လျှင် မရီးတစ်ယောက်နှင့် ပေးစားမည်ဟုဆိုခဲ့၏။ အောင်မြင်သောအခါ၌ကား စကားအတိုင်း မပေးစား၍ ``ထွီ''ဟု ဆိုခဲ့မိ၍ အကွပ်မျက်ခံရသူ။ မြင်းစီး

လျက် လက်ဝဲဖက်ကိုင်၊ လက်ယာဓားထမ်း၊ ခေါင်းထုပ်၊ ဗောင်းနှင့်ရှိသည်။)

၂၁။ **ရွှေစစ်သင်နတ်**(ပုဂံ စောမွန်နစ်မင်း (၆၈၇–၇၃၀)၏သား။ ခမည်းတော်က စစ်ချီစေရာတွင် ပေါ့လျော့စွာ ကြက်တိုက်ကစားနေသည်နှင့် ခမည်းတော်က ခြေထိပ်ခတ်နှိုင်းထားရာ၌ အနိစ္စရောက်ခဲ့ရသူ။ ဖွန်းရိုး ပလ္လင်ခံ၊ ယာဒူးထောင်၊ ဝဲ ဒူးလှဲ၊ ယာလက် ဓားထမ်း၊ ဝဲလက်က ဒူးပေါ်အုပ်၊ ဗောင်းစလွယ်၊ ရှေ့ဘယက်၊ နောက်ဘယက်နှင့် ထုလုပ်ရသည်။)

၂၂။ **မယ်တော်ရွှေစကားနတ်** (ပုဂံစောမွန်နစ်၏မိဖုရား၊ ရွှေစစ်သင်၏ မယ်တော်။ သားတော်ရွှေစစ်သင်သေဆုံးရာ၌ လွမ်းဆွတ်ကြေကွဲ၍ အနိစ္စရောက်ခဲ့သူ။ ကြာခံခုံ၊ ကျုံ့ကျုံ့ထိုင်၊ ဝဲလက်ကပေါင်ကို ထောက်၊ ယာလက်က ရင်ကိုပိုက်ဟန်။)

၂၃။ **ငါးစီးရှင်နတ်**(ပင်းယသီဟသူမင်း (၇၀၄–၇၁၂)၏ သား။ မင်းဖြစ်၍ကိုးနှစ်အရှိတွင် ဖျား၍အနိစ္စရောက်ခဲ့သူ။ ဆင်ဖြူရုပ် ကိုယ်တစ်ခုလျှင် ခေါင်းငါးလုံး။ တစ်လုံးမှာ ဟိုင်းဆင်မျိုး၊ တစ်လုံးမှာတံဆင်မျိုး၊ တစ်လုံးမှာ ဟံဆင်၊ တစ်လုံးမှာ ပေါက်ဆင်၊ တစ်လုံးမှာ တည်ဆင်မျိုးထုလုပ်၍ ဆင်ကျောက်ကုန်းပေါ်မှာကြာပွင့်၊ ကြာပေါ်တွင် မုန်စီရွှေချ၊ ၎င်းအပေါ် ဗောင်းသရဖူဆင်၍ နတ်ရုပ်တင်သည်။ ကြာပွင့်အနား ထီးဖြူလေးစင်းစိုက်သည်။ ဆင်ဖြူအနားတွင် ရွှေမြူတာလေးလုံး တည်ထားသည်။





၂၄။ **မင်းတရားနတ်** (အင်းဝမင်းခေါင်၏ နောင်တော်ဖြစ်သော ဆင်ဖြူရှင် တရဖျားမင်း(၇၆၂–၇၆၃) ။ ဖျား၍ အနိစ္စရောက်ခဲ့သူ။ ဖွန်းရိုးခံပလ္လင်ခံ၊ တင်ပျဉ်ခွေ၊ မင်းတန်ဆာအစုံ၊ ယာလက်ယပ်ကိုင်၊ ဝဲလက် ဒူးအုပ်။)

၂၅။ **မောင်ပိုးတူနတ်** (ပင်းယမြို့သား လက်ဖက်ကုန်သည်။ အင်းဝ ပထမဘုရင်မင်းခေါင်(၇၆၃–၇၈၃) လက်ထက် ဝန်တင်ကုန်များနှင့် မိုးမိတ်, သီပေါတို့သို့ အရောင်းအဝယ်တက်၍အပြန်တွင် လက်ဖက်ချလာရာ အုန်းကြောလက်ကောင်းရွာအနီး တောင်ခြေတွင် ကျားကိုက်ခံရ၍ သေခဲ့သူ။ ကျားရုပ်ပေါ်တွင်စီး၍ ယာလက်က ကြိမ်ကိုင်။ ဝဲလက်က ပေါင်ကိုထောက်၊ သျှောင်ထုံးနှင့် ထုလုပ်ရသည်)

၂၆။ **အနောက်မိဖုရားနတ်** (အင်းဝပထမမင်းခေါင်၏ အနောက်ဆောင်မိဖုရား။ အင်းဝမြို့အနောက်ဝါခင်းသို့ ကိုယ်လုပ်မောင်းမတို့နှင့် အပျော်အပါးသွားရာတွင် မင်းကျော်စွာ နတ်မြင်းနှင့်လာသည်ကို တွေ့ခဲ့ပြီး၊ အပြန်တွင် မီးယပ်နာနှင့် ကံကုန်ခဲ့သူ။ ကြာခုံ၊ ကျုံ့ကျုံ့ထိုင်၊ ဆံထုံး, ဆံမြိတ်ကွင်း, ဆံထိုး,ဆံကျင်နှင့် သားငယ်ကို ပိုက်ပွေ့နို့တိုက်ဟန်။)

၂၇။ **အောင်ပင်လယ်ဆင်ဖြူရှင်နတ်**(အင်းဝ ပထမမင်းခေါင်၏ သားတော် သီဟသူမင်း(၇၈၃–၇၈၇)၊ အုန်းဘောင် စော်ဘွားကလုပ်ကြံ၍ဆင်ဦးတွင်သေဆုံးခဲ့ရသူ။ ဆင်ဖြူရုပ်ပေါ်တွင် ပလ္လင်တင်၍ပလ္လင်ပေါ်တွင် တင်ပျဉ်ခွေလက်ယာယပ်ကိုင်၊ လက်ဝဲဒူးတင်။ ဗောင်းနားတောင်း သရဖူအစုံ၊ ဆင်ရှေ့ဦးစီးက ချွန်းကိုင်၍ ဝပ်တွားနေဟန်၊ နောက်ပဲ့စီးက ဓားထမ်းလျက်နေဟန်။)

၂၈။ **ရှင်ကုန်းနတ်** (အောင်ပင်လယ် ဆင်ဖြူရှင်နတ်ဖြစ်သော အင်းဝ သီဟသူမင်း၏ကိုယ်လုပ်တော်၊ အောင်ပင်လယ်ကအပြန် အင်းဝရောက်လျှင် သေဆုံးခဲ့သူ။ ကြာခုံ၊ ဆံထုံး လုလင်ကြည့်၊ ဆံထိုး၊ ဆံကျင်အစုံနှင့် လက်နှစ်ဖက်ကို တွဲလွဲချကာ ကုန်း၍သွားဟန်။)

၂၉။ **ရွှေနော်ရထာနတ်** (အင်းဝ ဒုတိယမင်းခေါင်၏မြေး၊ ဘထွေးတော် ရွှေနန်းကြော့ရှင်(၈၆၃–၈၈၈)လက်ထက် ရွှေနော်ရထာ၏ကျွန် ငသောကြာသည် ရွှေနော်ရထာအား ပုန်ကန်၍ ရွှေနော်ရထာကို ရေမှာ ဖျောက်ဖျက်ခဲ့သည်။ ဖွန်းရိုး ပလ္လင်ခံ။ ယာဒူးထောင်၊ ဝဲ ဒူးလှဲ။ ယာလက်က ဗလီတံကိုင်၊ ဝဲလက်က ဗလီလုံးကိုင်။)

၃၀။ **မင်းရဲအောင်တင်** (အင်းဝအနောက်ဘက်လွန်မင်း၏သား။ သာလွန်မင်း(၉၀၀–၁၀၁၀)၏ သမက်၊ ဘိန်းရူး အရက်သောက်ပြီး အရက်ကြူး၍သေခဲ့သူ။ အောက်ခုံကြာခံ၊ တင်ပျဉ်ခွေ၊ သျှောင်နှင့် စောင်းပိုက်နေဟန်။)





၃၁။ **မောင်မင်းဖြူနတ်** (အင်းဝမင်းတစ်ပါး၏သားတော်၊ ဘိန်းဘင်းအရက်ကြူး၍ သေခဲ့သူ။ ကြာခုံ တင်ပျဉ်ခွေ၊ ဗောင်းထုပ်ပေါင်း၍ ငြင်းမှုတ်နေဟန်။)

၃၂။ **ရှင်တော်နတ်** (အင်းဝ ရှင်သာမဏေတစ်ပါး၊ မြွေကိုက်ခံရ၍ သေခဲ့သူ။ အောက်ခုံလေးထောင့်မတ်ရပ်၊ ဦးထုပ်ဆောင်း၊ သင်္ကန်းလေးဖက်တင်၊ ယာလက် ယပ်ထမ်း၊ ဝဲလက် ပုတီးကိုင်။)

၃၃။ **တပင်ရွှေထီးနတ်** (တောင်ငူဘုရင် (၈၉၂–၉၁၂) သမိန်စောထွတ်၏ညီအလတ်။ လက်ဝဲဓားမှူးကဓားဖြင့် ခေါင်းဖြတ်လုပ်ကြံခံခဲ့ရသူ။ လေးထောင့်ခုံပလ္လင်ခံ၊ တင်ပျဉ်ခွေ၊ ဗောင်းသရဖူ၊ယာလက်က ဓား၊ ဝဲလက်က ဒူးအုပ်။)

၃၄။ **မြောက်ဘက်ရှင်မနတ်** (တောင်ငူတပင်ရွှေထီး၏ အထိန်းတော်၊ မင်းရဲသိင်္ခ၏နောက်မယား၊ မြောက်ဘက်ကတုးရွာသူ၊ မိဘရပ်သို့သွား၍ အပြန်တွင် စစ်ကိုင်းမြို့အနောက်မှာ မီးဖွားပြီး မီးယပ်နာနှင့် ကံတော်ကုန်ခဲ့သူ။ ကြာခုံ၊ ကျုံ့ကျုံ့ထိုင်၊ လက်ယာလက်က ရင်ကိုပိုက်ပွေ့ဟန်၊ လက်ဝဲလက်က ဒူးစွန်းကိုထောက်၊ ဆံထိုး၊ မြိတ်ကွင်း ဆံထုံးနှင့် ထုလုပ်ရသည်။)

၃၅။ **တောင်ငူရှင် မင်းခေါင်နတ်**(မြောက်ဘက်ရှင်မနှင့် မင်းရဲ–သိင်္ခသူတို့၏သား၊ တောင်ငူတွင် မင်းခေါင်အမည်နှင့်မင်း(၉၀၄–၉၄၆)ပြုခဲ့သူ။ ဖွန်းရိုးခံ ပလ္လင်ခံ၊ တင်ပျဉ်ခွေ၊ ဗောင်းနားတောင်းအစုံလက်ယာယပ်ကိုင်၊လက်ဝဲဒူးအုပ်။)

၃၆။ **သံတော်ခံနတ်**(တောင်ငူဘုရင်မင်းခေါင်၏ သံတော်ခံ ရဲဖျား ဆိုသူဖြစ်သည်။ မြေတူးမြို့အနီး တောအရပ်သို့ ပန်းခူးသွားရာတွင် ငှက်သင့်(ငှက်ဖျား)သေခဲ့သူ။ နောက်တစ်နည်း မင်းခေါင်ကြီးက ညအခါ နန်းတော်အတွင်း မြတ်လေးပန်းချုံမှာပန်းခွတ် နိုင်းရာတွင် မြွေကိုက်ခံရ၍သေဆုံးခဲ့သူ။ကြာခုံ တွင်ထိုင်လျက် လက်ယာကယပ်၊ လက်ဝဲက ဒူးမှာအုပ်၍ ခေါင်းမှာမြစ်ညွှန့်ဖောင်းနှင့်ထုလုပ် ရသည်။)

၃၇။ **ယွန်းဘုရင်နတ်**(ဖင်းမယ်ဘုရင်ပြသံ။ ၉၂၁ ခုတွင် ဟံသာဝတီ ဆင်ဖြူရှင်ဘုရင့်နောင်သည် ဖင်းမယ်ကို လုပ်ကြံ ဖမ်းယူခဲ့၍ ချီးမြှောက်ထားရာ ဝမ်းသွေးသွန် ရောဂါဖြင့် သေလွန်ခဲ့သူ။ ပလ္လင်ခုံ၊ လက်ယာ ဒူးထောင်၊ လက်ဝဲ ဒူးလှဲ၊ ယာလက်က ကြံဆစ် သိုင်းတုတ်ကိုထမ်း၊ ဝဲလက်က လက်ဝဲပေါင်ကို ထောက်၊ ခေါင်းမှာ မြစ်ညွှန့်ဖောင်း၊နားတောင်း နှင့်ထုလုပ်ရသည်။)[၂၉]

အထက်မှာ ဖော်ပြခဲ့သော အပြင်'၃၇'မင်း စာရင်းမှာ မြဝတီဝန်ကြီး ဦးစ မှတ်သားထားသောစာရင်းကို အခြေခံထားသော စာရင်းဖြစ်ကြောင်း ပညာဝန် ဦးဖိုးကျားက ဆိုထားသည်။ မန္တလေးမြို့တော်တည် စာတမ်းလာ အပြင်'၃၇'မင်းစာရင်း၌ သကြား၊ နှမတော်၊ ကျော်စွာ၊ တောင်ငူရှင်မင်းခေါင် နတ်လေးပါးမပါ။ ၎င်းတို့အစား တောင်ကြီးရှင်၊ မယ်တော် ရွှေအိမ်စည်၊ ဘိုးတော်မင်းကျော်၊ ကိုးကျောင်းဒကာ နတ်လေးပါး ပါလာသည်။ ကြွင်းသော '၃၃'ပါးတို့ကား တူညီကြသည်။ ထို'၃၇'မင်းနတ်တို့တွင် မင်းမဟာဂီရိနတ်ကို

[၂၉]။ အမျိုးသားပညာဝန်ဦးဖိုးကျား၊ ၃၇ မင်း၊ နှာ ၃၆-၅၁။





မြန်မာတစ်နိုင်ငံလုံးက ကိုးကွယ်ကြသည်၊ ဒေသန္တရနတ်တို့တွင်လည်း ရေငန်ပိုင် ဦးရှင်ကြီးကို မြန်မာနိုင်ငံအောက်ပိုင်း၌ ကိုးကွယ်ကြသည်။[၃၀]

ဤသို့လျှင် အပြင်'၃၇'မင်းနတ်စာရင်းမှာ မူကွဲများရှိနေ၍ ဘယ်မူက အမှန်၊ ဘယ်မူက အမှားဟု ကောက်ချက်ချရန် ခက်လှသည်။ မူကွဲများမှာ- (၁) ဝန်ကြီးပဒေသရာဇာ တင်သွင်းသော နတ်စာရင်း။ (၂) မြဝတီဝန်ကြီးဦးစ တင်သွင်းသော နတ်စာရင်း။ (၃) မန္တလေးမြို့တော်တည် စာတမ်းအရ တင်သွင်း ထားသော နတ်စာရင်း။ (၄) မဟာဂီတမေဒနီကျမ်း၌ ဖော်ပြထားသော နတ်စာရင်း စသည်ဖြင့် နတ်စာရင်းတွေအမျိုးမျိုးရှိနေပြီ၊ ထိုနတ်စာရင်းများ မှာလည်း တစ်မူနှင့်တစ်မူမတူဘဲ ကွဲလွဲနေ၍ ဘယ်မူက မူရင်းဖြစ်ကြောင်း အတည်ပြုပြောဆိုရန်မှာ မလွယ်ကူသောအနေအထားမှာ ရှိနေပါသည်။

ယနေ့ခေတ်အနေအထားအရ ညောင်ဦးရွှေစည်ခုံဘုရား၏ တံတိုင်း အတွင်း အရှေ့တောင်ထောင့်အရပ် ''ဘိုးတော်သိကြားနှင့် '၃၇'မင်းနတ်နန်း'' အဆောက်အအုံအတွင်း၌ တည်ရှိသော ''ရွှေစည်းခုံစေတီတော်အတွင်းရှိ (၃၇) မင်းနတ်များ''ဟု ခေါင်းစီးတပ်လျက် ဖော်ပြထားသော နတ်စာရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | |
|---|---|
| ၁။ ဘိုးတော်သိကြား | ၁၀။ လှိုင်နံ့သာဝရ -၂ပါး |
| ၂။ ဦးတင့်တယ် | ၁၁။ အောင်ပင်လယ် - ၂ပါး |
| ၃။ မမြတ်လှ | ၁၂။ သန့်တော်ကန် |
| ၄။ မနဲ့လေး | ၁၃။ တောင်ပြုံးညီနောင် |
| ၅။ မယ်ရွှေနပေ | ၁၄။ ထီးဖြူဆောင်း |
| ၆။ ကိုညို | ၁၅။ မြင်းဖြူရှင် |
| ၇။ ကိုဖြူ | ၁၆။ ဆင်ဖြူရှင် |
| ၈။ ငါးစီးရှင်-၂ပါး | ၁၇။ ဒါန်းမောင်ရှင် |
| ၉။ ကိုးမြို့ရှင် -၂ပါး | ၁၈။ ဦးမင်းကျော် |

[၃၀]။ မြန်မာ့စွယ်စုံကျမ်း၊ နှာ ၁၂၉-၁၃၀။

၁၉။ မင်းစေသူ
၂၀။ ဆယ်ရွာရှင်
၂၁။ ငါးရွာရှင်
၂၂။ ရေယဉ်မယ်တော်
၂၃။ အနောက်မယ်တော်
၂၄။ မြောက်ဆယ်ရှင်မ
၂၅။ လေးကျွန်းမောင်
၂၆။ ရေငန်ပိုင်
၂၇။ ကိုအောင်စွာ
၂၈။ ကိုအောင်ပြည့်
၂၉။ ရှမ်းကိုးဆယ့်ကိုး

စုစုပေါင်း နတ်အရေအတွက်မှာ ၂၉ ပါး (ဂဏန်းစဉ်အရ)၊ ၃၃ပါး (နံပါတ်အရေအတွက်အရ)သာရှိကြောင်းတွေ့ရှိရသည်။ပုပ္ပါးတောင်ခြေမှာရှိသော ''၃၇ မင်းနတ်များ'' ဟု အမည်တပ်ထားသော အဆောက်အအုံသည် ရဟန်း အမည် ဦးပရမဝဏ္ဏသိဒ္ဓိ၊ လူအမည် ဦးပြည့်စုံက ဦးစီး၍တည်ဆောက်ခဲ့သော အဆောက်အအုံ၏ အတွင်းနဖူးစည်းစာတန်းကို ''ယောဂီဦးပြည့်စုံ၏ ပုပ္ပား မယ်တော်နှင့်'၃၇'မင်းနတ်များ''ဟု ဖော်ပြထားသော '၃၇' မင်းနတ်စာရင်းကို အောက်ပါအတိုင်း လက်ဝဲမှသည် လက်ယာသို့ အစဉ်အတိုင်း တွေ့ရပြန်သည်။

## ၃၇ မင်းနတ်များ



၁။ နန်းကရိုင်းမယ်တော်
၂။ အမေဂျမ်း
၃။ ရွှေကိုင်းမယ်တော်
၄။ အမေရေယဉ်
၅။ ပုလဲယာဉ်
၆။ ကိုးမြို့ရှင်
၇။ မြင်းဖြူရှင်
၈။ ဦးဖိုးတူ
၉။ ရှင်ညို
၁၀။ အမေရွှေနပေ
၁၁။ ရှင်ဖြူ
၁၂။ ဦးတင့်တယ်
၁၃။ တောင်ကြီးရှင် မမြတ်လှ
၁၄။ မဒွေးဖြူ (သုံးပန်လှ)
၁၅။ မနဲ့လေး
၁၆။ မငွေတောင်
၁၇။ မကျင်ဥ
၁၈။ ကိုဒွေးလေး
၁၉။ လေးကျွန်းမောင်မောင်
၂၀။ ဦးဗျတ္တ
၂၁။ ရွှေဖျဉ်းလေး
၂၂။ မယ်ဝဏ္ဏ
၂၃။ ရွှေဖျဉ်းကြီး
၂၄။ ဦးဗျတ်ဝိ





၂၅။ ကရင်မောင်နှမ*
၂၇။ ကိုကြီးကျော်
၂၈။ တလိုင်းကျော်
၂၉။ ပြေလည်ပြင်နှမတော်
၃၀။ ရေငန်ပိုင်ဦးရှင်ကြီး
၃၁။ သူရဿတီမယ်တော်
၃၂။ ကာလီမယ်တော်
၃၃။ မမိလေး
၃၄။ လက်ချိမ်းမယ်တော်
၃၅။ မဟာပိန္နဲ
၃၆။ သံဝိဇ္ဇာ
၃၇။ အင်းဝိဇ္ဇာ

'၃၇'မင်းကို အခြားနတ်စာရင်းများနှင့်မတူ တစ်မူထူးခြားစွာ ဖော်ပြထား သည်ကို တွေ့ရသည်။ထိုကြောင့် အတွင်း'၃၇'မင်း၊ အပြင်'၃၇'မင်း နတ်စာရင်း ကို တိတိကျကျဖော်ပြရန်ကိစ္စမှာ လွယ်ကူလှမည်တော့မဟုတ်ပေ။

မည်သို့ပင်ရှိစေ၊ အမှန်စင်စစ် ဤကျမ်းစာ၏ ရည်ရွယ်ချက်သည် '၃၇'မင်း နတ်စာရင်းကို သိသာရန်မျှသာ တင်ပြလိုခြင်းဖြစ်၍ ဟိုမှု၊ ဒီမှုကွဲပြား နေမှုများကို အသေးစိတ်သိလိုမှု အမျိုးသားပညာဝန်ဦးဖိုးကျားရေး ''၃၇ မင်း''စာအုပ်။ ဦးထွေးဟန်(ဘာသာပြန်)ရေး ''မြန်မာ့မိရိုးဖလာဓလေ့နတ် သမိုင်း''စာအုပ်၊ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ ၆၊ စာမျက်နှာ ၁၂၈–၁၃၀၊ မဟာဂီတမေဒနီကျမ်းနှင့် ဦးခင်မောင်သန်း (စိတ်ပညာ)ရေး ''ရိုးရာနတ် ယုံကြည်မှုနှင့် ဓလေ့ထုံးစံများ''စသည် စာအုပ်များကို ဖတ်ရှုလေ့လာကြပါကုန်။ ဤနေရာ၌ ကျမ်းစာအတွက် ဤစာရင်းအတိုင်းသာ အတွင်း'၃၇'မင်း၊ အပြင် '၃၇'မင်းစာရင်းများကို အကျဉ်းချုပ်အားဖြင့် မှတ်သားနိုင်ပါသည်။

'၃၇'မင်းနတ်စာရင်းမှာ ပါဝင်နိုင်ခြင်း၊ မပါဝင်နိုင်ခြင်းနှင့် ပတ်သက်၍ ပညာရှင်များ သုတေသနပြုထားသည်မှာ – '၃၇'မင်း နတ်စာရင်းများ၌ ပါဝင်နိုင်ရန် အောက်ပါအရည်အချင်းများနှင့် ပြည့်စုံမှုရှိ၊ မရှိ အပေါ် မူတည်၍ နတ်သုတေသီ သို့မဟုတ် နတ်ရေးနတ်ရာတို့၌ ကျွမ်းကျင်မှုရှိကြသော ပညာရှင် များမှ သတ်မှတ်ရွေးချယ်ထားခဲ့ခြင်းဖြစ်ကြောင်း မှတ်တမ်း၊ မှတ်ရာများအရ သိရပါသည်။ ၃၇ မင်း နတ်စာရင်း၌ပါဝင်နိုင်သော အရည်အချင်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် –

၁။ ထင်ပေါ် ကျော်ကြားမှုရှိခြင်း။

၂။ ပုဂ္ဂိုလ်အနေဖြင့် ထက်မြက်ခြင်း(သို့မဟုတ်) ထင်ရှားသောလုပ်ရပ်တစ်ခုကိုလုပ်ခြင်း။

၃။ ဥပစ္ဆေဒကကံဖြင့် အသတ်ခံရခြင်း (မမျှော်လင့်ဘဲ ရုတ်တရက်သေရခြင်း)။

၄။ ကံကြမ္မာဆိုးနှင့် ကြုံတွေ့ရခြင်း။

လူများသေစဉ်အခါက ဤအချက်အလက်တို့နှင့် ပြည့်စုံသော နတ်လောင်းများကို (၃၇)မင်းစာရင်း၌ တင်သွင်းဖော်ပြထားကြခြင်းဖြစ်သည်။[၃၁]

ယခုအခါ မြန်မာနိုင်ငံ တစ်နိုင်ငံလုံး အသိအမှတ်ပြုကာ ကိုးကွယ်နေကြသော (၃၇)မင်းစာရင်းမှာ အများစုအားဖြင့် မြဝတီဝန်ကြီးဦးစ တင်သွင်းသော စာရင်းအတိုင်းသာ ကိုးကွယ်နေကြခြင်းဖြစ်သည်ဟု နတ်သုတေသီအများစုက အတည်ပြုထားဟန်ရှိသည်။[၃၂]

ကျမ်းဂန်သဘောအရ အတွင်း (၃၇)မင်း၊ အပြင်(၃၇)မင်း နတ်တို့၏ အကြီးအကဲသည် သိကြားမင်းသာ ဖြစ်သင့်သော်လည်း မင်းတုန်းမင်းလက်ထက်၌ မင်းမဟာဂီရိနတ်ကို နတ်တို့၏ အကြီးအကဲအဖြစ် ယူဆခဲ့ကြသောကြောင့် မင်းမဟာဂီရိနတ်သည် အခြားသောနတ်တို့ထက် ကံကောင်းသောနတ်သို့မဟုတ် ထူးခြားသောနတ်ဟု ဆိုရပေတော့မည်။ ပြည်သူများ၏ မေတ္တာကိုခံယူနိုင်သော မင်းမဟာဂီရိတို့နတ်မောင်နှမ၏သမိုင်းကြောင်းကို ပြန်လည်သုံးသပ်ကြည့်သောအခါ ပြည်သူတွေ မေတ္တာသက်ဝင်မည်ဆိုလျှင်လည်း သက်ဝင်ချင်စရာဟု ကောက်ချက်ချမိသည်။

အဘယ့်ကြောင့်ဆိုသော် သစ္စာတရားကို တန်ဖိုးထားပြီး၊ မေတ္တာတရားကို မြတ်နိုးတတ်ကြသော ထိုခေတ်အခါကလူတို့သည် မေတ္တာသက်ထိုက်

―――――

၃၁။ ဦးထွေးဟန်၊(ဘာသာပြန်)။ မြန်မာ့မိရိုးဖလာဓလေ့ နတ်သမိုင်း၊ နှာ ၃၉။

၃၂။ ဦးထွေးဟန်၊(ဘာသာပြန်)။ မြန်မာ့မိရိုးဖလာဓလေ့ နတ်သမိုင်း။ နှာ ၁၂၈-၁၂၉။





သူများအပေါ် မေတ္တာသက်ရောက်နေခြင်းသည် ထိုခေတ်ထိုအခါက လူတို့၏ ဓမ္မတာသဘောဟု ဆိုရပေမည်။ မင်းနှင့်ပြည်သူပြည်သားအားလုံးတို့၏ မေတ္တာတရားကို ခံယူနိုင်ခဲ့သော မောင်တင့်တယ်တစ်ဖြစ်လဲ မင်းမဟာဂီရိနတ်မောင်နှမနှစ်ယောက်တို့၏ ဘဝဖြစ်စဉ်လေးကလည်း လွမ်းမောလောက်၊ တမ်းတလောက်စရာပင်။ သူတို့၏ သမိုင်းအကျဉ်းလေးကို ပြောပြရမည်ဆိုလျှင် . . .။

## မင်းမဟာဂီရိနတ်မောင်နှမတို့၏ ဘဝဖြစ်စဉ်

ပုဂံပြည်မှာ သေလည်ကြောင်မင်းကြီး အုပ်စိုးနေစဉ်အခါက ထီးပြိုင်နန်းပြိုင်အဖြစ် တကောင်းပြည်မှာလည်း တကောင်းမင်းကြီး အုပ်စိုးနေသောအချိန်အခါဖြစ်သည်။ အဲဒီမင်းကြီးလက်ထက် တကောင်းပြည်မှာ ပန်းပဲအတတ်ဖြင့် တရားသဖြင့် အသက်မွေးဝမ်းကျောင်းပြုနေသော ပန်းပဲဆရာကြီးဦးတင့်တော်မှာ သားတစ်ယောက်၊ သမီးနှစ်ယောက် ထွန်းကားခဲ့သည်။ ဖခင်ကြီးက သားဖြစ်သူကို ရုပ်အဆင်းအင်္ဂါနှင့် ပြည့်စုံလှသောကြောင့် ''မောင်တင့်တယ်''ဟု အမည်ပေးခဲ့ပြီး၊ ချောမောလှပသော သမီးနှစ်ယောက်ကိုတော့ ''စောမယ်ယာ(မမြတ်လှ)'' နှင့် ''ရှင်ထွေးလှ''ဟု အမည်လေးတွေ အသီးသီးပေးထားခဲ့သည်။

မောင်တင့်တယ်တစ်ယောက် အရွယ်ရောက်လာသည့် အခါ ခွန်အားဗလကြီးမားလှတာကြောင့် တကောင်းဘုရင်သည် စိုးရိမ်စိတ်တွေ၊ ထို့နောက်မနာလိုစိတ်တွေ ဖြစ်လာခဲ့သည်။ အဲဒီစိုးရိမ်စိတ်တွေ၊ မနာလိုစိတ်တွေကြောင့် မောင်တင့်တယ်ကို အဖမ်းခိုင်းရာ၊ အားကောင်းမောင်းသန်ရှိလှသည့် မောင်တင့်တယ်ကိုမဖမ်းနိုင်ကြဘဲ မောင်တင့်တယ်တစ်ယောက် လွတ်မြောက်ထွက်ပြေး သွားခဲ့သည်။

ဒီအကြောင်းတွေကို ရှင်ဘုရင်ကြီးသိသွားတော့ ပိုပြီးတော့ စိုးရိမ်စိတ်တွေ ဖြစ်လာပြီး၊ ယုတ်မာတဲ့ အကြံအစည်တွေနှင့် မောင်တင့်တယ်ကို ဖျက်ဆီးပစ်ဖို့ စတင်ကြံစည်တော့သည်။ မောင်တင့်တယ်၏နှမ''စောမယ်ယာ''ကို မိဖုရားမြှောက်ကာ နှမငယ်မှတစ်ဆင့် မောင်တင့်တယ်ကို မြို့တားစေပြီး

ခန့်အပ်မည်ဖြစ်ကြောင်း သတင်းပို့စေပြီး၊ မြို့တော်သို့ ပြန်လာရန် လှည့်ဖြား ခေါ်ယူလိုက်သည်။ မောင်တင့်တယ်တစ်ယောက် မြို့တော်သို့ ပြန်အလာ တကောင်းဘုရင်က စစ်သားများကို ဖမ်းဆီးစေပြီး၊ မောင်တင့်တယ်၏ ဘေးပတ်ပတ်လည်မှာ ထင်းများပုံစေ၍ ထင်းပုံ၏အလယ်မှာပင် မောင်တင့်တယ်ကို မီးရှို့သတ်ရန် တစ်ချက်လွှတ်အမိန့်တော်ကို ထုတ်ပြန်လိုက်သည်။ (တစ်ချက်လွှတ်အမိန့်တော်ဆိုတာ အမှန်တရားကို ဥပဒေကြောင်းအရ မိမိကိုယ်တိုင်သော်လည်းကောင်း၊ မိမိကိုယ်စား ရှေ့နေစသော တစ်စုံတစ်ယောက်ကသော်လည်းကောင်း ကာကွယ်ပြောဆိုပိုင်ခွင့်မရှိသော အမိန့်တော်မျိုးပါ။ တရားခံတွေအတွက် အများကြီးနစ်နာစေနိုင်သည့် အမိန့်တော်မျိုးလို့ဆိုရမှာပါ။)

မီးတောက်မီးလျှံတွေအကြားမှာ ပူလောင်လွန်းလှ၍ လူးလိမ့်ခံစားနေရရှာသော ကံခေလှသူ အစ်ကိုဖြစ်သူ မောင်တင့်တယ်ကို တွေ့မြင်လိုက်ရသည့် နှမငယ်"စောမယ်ယာ"သည်"ငါ့ကြောင့် ငါ့အစ်ကိုကြီး ဒီလိုအသေဆိုးနဲ့ သေရတာပဲ"ဟု နှလုံးအပူမီးကြွပြီး၊ သူပါ တစ်ခါတည်းမီးပုံထဲခုန်ဆင်းလိုက်ကာ မောင်နှမနှစ်ယောက်စလုံး အတူသေပွဲဝင်ခဲ့ကြသည်။ ဖြစ်ရပ်ကတော့ နာကျည်းစရာပါ၊ ရှင်ဘုရင်များ၏ မတရားအမှုအပြုအမူတွေ၊ နိုင်ထက်စီးနင်းပြုမှုပုံတွေကြောင့် မောင်တင့်တယ်တို့ မောင်နှမနှစ်ယောက်အပေါ်မှာထားရှိသည့် သနားကြင်နာစိတ်တွေဟာ ပြည်သူတွေ၏ နှလုံးသားထဲမှာ ဖျောက်ဖျက်လို့မရနိုင်အောင်ဘဲ ရှိနေကြတော့သည်။ ဒီစိတ်တွေ၊ ဒီခံစားချက်တွေ၊ ဒီအစွဲအလမ်းတွေကြောင့် ဆွေးတသသဖြစ်နေရသော ပြည်သူတွေသည် ဖြေသိမ့်ရာတစ်ခုခု(ထွက်ပေါက်တစ်ခု)ကို ရှာဖွေခဲ့ကြသည်။ အဲဒီလိုရှာဖွေနေစဉ် ထူးဆန်းသည့် သတင်းစကားတွေ ဆက်တိုက်ဆိုသလိုပဲ ထွက်ပေါ်လာခဲ့သည်။

မောင်တင့်တယ်တို့ မောင်နှမနှစ်ယောက် (သေပြီး မကြာခင်မှာဘဲ) နှစ်ယောက်စလုံး စကားပင်ကြီးတစ်ပင်မှာ နတ်စိမ်းများ ဖြစ်နေကြသည်ဆိုသော သတင်းပါ။ "နတ်စိမ်းများ ဖြစ်နေကြတယ်" ဆိုသည့် သတင်း မှန်သည်ဖြစ်စေ၊ မမှန်သည်ဖြစ်စေ ဤသတင်းစကားဟာ ပြည်သူတွေအတွက်တော့ အားတက်နေမိကြတာ အမှန်ပါ။ ထို့နောက် သတင်းစကားတွေ ဆက်တိုက်





ထွက်ပေါ်လာပြန်သည်။ နတ်မောင်နှမနှစ်ယောက်သည် ထိုစကားပင်ကြီးမှာ နေပြီး၊ တရားမဲ့လှသော တကောင်းဘုရင်ကြီးကို စိတ်နာလွန်းသဖြင့် သူတို့နေသည့် စကားပင်ကြီးအောက်ကို ဝင်ရောက်လာသော လူပဲဖြစ်ဖြစ်၊ ခွေးပဲဖြစ်ဖြစ်၊ ကျွဲ၊ နွားတိရစ္ဆာန်တွေပဲဖြစ်ဖြစ် ဝင်ရောက်လာသူအားလုံးကို ဖမ်းစားနေသည်ဆိုသည့် သတင်းစကားတွေပါပဲ၊ ဒီသတင်းစကားတွေကို တကောင်းဘုရင်ကြီးကြားရတော့ ရှင်ဘုရင်ကြီးဟာ နတ်မောင်နှမနှစ်ယောက်တို့၏ နတ်ဘဝနှင့် ကလဲ့စားချေမှု အပြုခံရမှာကို ကြောက်လွန်းလှသည့် အတွက်ကြောင့် နတ်မောင်နှမနှစ်ယောက်တို့နေသော စကားပင်ကြီးကို အမြစ်ပါမကျန် တူးစေပြီး ဧရာဝတီမြစ်ထဲသို့မျှောစေသည်၊ စကားပင်ကြီးသည် ဧရာဝတီမြစ်ကြောင်းအတိုင်း မျောပါလာပြီး၊ ပုဂံနေပြည်တော်ဆိပ်ကမ်းသို့ ဆိုက်ဆိုက်မြိုက်မြိုက်ကြီးကို ရောက်လာခဲ့သည်။

ပုဂံပြည့်ရှင် သေလည်ကြောင်မင်းကြီးသည် တကောင်းဘုရင်မျှောလိုက်သည့် ထိုစကားပင်ကြီးကို အိပ်မက်အရ ဆယ်ယူစေကာ ထိုစကားပင်နှင့်အတူပါလာသော မောင်တင့်တယ်တို့ နတ်မောင်နှမကို ပုပ္ပါးတောင်တွင် နတ်ကွန်းဆောက်လုပ်ကာ ကိုးကွယ်ပူဇော်ခဲ့ကြသည်။ မောင်တင့်တယ်သေ၍ နတ်ဖြစ်လာသည်ဟု ယူဆထားသော "မောင်တင့်တယ်" အမည်ခံနတ်ကို "မင်းမဟာဂီရိနတ်"ဟု ဘွဲ့အပ်နှင်းပြီး၊ နှမတော် "စောမယ်ယာ"ခေါ် ဒေါ်မြတ်လှအမည်ခံနတ်ကိုတော့ "တောင်ကြီးရှင်နတ်"ရယ်လို့ ဘွဲ့အပ်နှင်းပြီး ကိုးကွယ်ခဲ့ကြသည်။[၂၂]

မင်းမဟာဂီရိနတ်သည် ပြည်သူများ၏မြတ်နိုးမှုကို အများဆုံးခံယူရရှိခဲ့ပြီးနောက် "အိမ်တွင်းမင်းမဟာဂီရိနတ်"ဟူ၍ ကျော်ကြားလာခဲ့

၂၂။ မင်းမဟာဂီရိနတ်နန်းကို ထိန်းသိမ်းစောင့်ရှောက်နေသည့် နတ်ထိန်းကြီးဦးနီ၏ပြောပြချက်အရ ပုပ္ပါးနန်းနှင့်စပ်လျဉ်း၍ မောင်တင့်တယ်တို့ နတ်မောင်နှမမှ ပုဂံသေလည်ကြောင်မင်းအား သူတို့နေဖို့ နယ်မြေတောင်း၍ သူတို့မောင်နှမအကြိုက် စကားဝါပန်းတွေပေါများလှသော ပုပ္ပါးတောင်မှာနေထိုင်ကြဖို့ သေလည်ကြောင်မင်းက နယ်မြေဒေသပေးသနားခဲ့ကြောင်း ကြားသိခဲ့ရသည်။

သည်။ ထိုနတ်များမှ အစထား၍ နတ်ကိုးကွယ်သူဦးရေ မြန်မာပြည်မှာ တစ်စတစ်စများပြားလာရာ၊ အရပ်ဒေသအမျိုးမျိုး အခါအားလျော်စွာ ဖြစ်ပေါ်လာသော နောက်ထပ်လက်သစ်နတ်များကိုပါ ထည့်သွင်းပေါင်းစည်းလိုက်ကြသောအခါ များပြားလာသည့်နတ်တွေကို အုပ်စုအသီးသီး ဖွဲ့ပြီး၊ အတွင်း'၃၇'မင်း၊ အပြင်'၃၇'မင်းတို့ဟူ၍ အမည်နာမတွေကို အများ သဘောတူ သတ်မှတ်လိုက်ကြသည်။ ဒီအတွင်း'၃၇'မင်း၊ အပြင်'၃၇'မင်းစာရင်းမှာ ပါသောနတ်တွေသည် သက္ကရာဇ်(၁၀၀၀)ခန့် မတိုင်မီအတွင်းက ဖြစ်ပေါ်လာသော နတ်များကိုသာ ဖော်ပြထားသေးတာဖြစ်သည့်အတွက်ကြောင့်၊ ထိုအတွင်း '၃၇'မင်း၊ အပြင်'၃၇'မင်းစာရင်းမှာ မပါဝင်သေးသော နာမည်ကျော်နတ်များလည်း ကျန်ရှိနေသေးသည်ကို တွေ့ရသည်။''အတွင်း'၃၇'မင်း၊ အပြင်'၃၇'မင်း'' တို့အပြင်''အလယ်(၃၇)မင်း''သို့မဟုတ် ''အဝန်း(၃၇)မင်း''ဟု မကြာခင်မှာ စာရင်းတစ်ခု ဖြစ်ပေါ်လာနိုင်ဖွယ်ရှိသည်။ ပုပ္ပါးမင်းမဟာဂီရိနတ်နန်းကို ထိန်းသိမ်းစောင့်ရှောက်နေသော နတ်ထိန်းကြီးတစ်ယောက်အား အတွင်း'၃၇'မင်း၊ အပြင် '၃၇'မင်း နတ်တွေနှင့်စပ်ပြီး မေးမြန်းကြည့်ရာ ''အဝန်း '၃၇'မင်း'' ဆိုတာ ရှိသေးကြောင်းကိုလည်း သိရသည်။ အဲဒီ''အဝန်း '၃၇' မင်း''နတ်တွေကို ဘယ်စာအုပ်မှာ(သို့မဟုတ်) ဘယ်နေရာမှာ တွေ့နိုင်သလဲဟု မေးကြည့်တော့လည်း သူလည်း တိတိကျကျ သိဟန်မတူပါ။

ဤသို့ဤနှယ် ယုံကြည်မှုပိုင်းဆိုင်ရာ၌ စဉ်းစားစရာတွေ၊ ဆင်ခြင်စရာတွေ များစွာပါဝင်နေသော နတ်ကိုးကွယ်မှုနှင့်ပတ်သက်၍ မြန်မာနိုင်ငံဗုဒ္ဓဘာသာဝင်တို့အား ဘာသာရေးအသိဉာဏ်များ၊ ဆင်ခြင်တုံ မြော်မြင်တုံတရားများကို အချိန်မီတိုးပွားအောင် ပြုမပေးနိုင်ကြဘူးဆိုလျှင် နတ်အရေအတွက်များ ပို၍တိုးပွားလာဖွယ်ရှိသည်။ အဘယ့်ကြောင့်ဆိုသော် မြန်မာနိုင်ငံတွင် အတော်တန်နာမည်ရ၍ ကိုးကွယ်ပူဇော်ပသခြင်း ခံယူနေရပြီဖြစ်သော အတွင်း'၃၇'မင်း၊ အပြင်'၃၇'မင်း နတ်စာရင်းမှာ မပါဝင်နိုင်သေးသော နာမည်ကျော်နတ်များစွာ ကျန်ရှိနေသေးကြောင်းကို သတိပြုနိုင်သည်။ ထိုနာမည်ကျော်နတ်အချို့မှာ – ရွှေဖျဉ်းညီနောင်နှင့် သမိုင်းတစ်ဆက်တည်းဖြစ်ပြီး၊ ကျားကိုက်





ခံရ၍ သေဆုံးခဲ့သော မရွှေဥသေ၍ နတ်ဖြစ်လာသော ''မယ်ဥနတ်'' ခေါ် ''သခင်မတောင်တော်နတ်''(တောင်ပြုံးရွာမှာ မယ်ဥနတ်ရုပ်နှင့်နတ်စင်ရှိသည်)၊ ငှင်းမင်းညီနောင်တို့၏ နှမ့ထိန်းဖြစ်သော''နှမ့ထိန်းမယ်တော်နတ်''၊ ပုပ္ပါးမယ်တော်ကြီးနတ်၊ မြစ်နား၊ ချောင်းနား၊ ပင်လယ်ကမ်းနား၌ နေထိုင်ကြသော ရေလုပ်သားများ ကိုးကွယ် ပူဇော်ပသနေသော ရေငန်ပိုင် ''ဦးရှင်ကြီးနတ်''၊ ဦးရှင်ကြီး၏မယ်တော် ''မယ်ဖြူနတ်''၊ လယ်သမားများ အထူးယုံကြည်လျက် စပါးကျီတို့တွင် စပါးများ သိုလှောင်ကြသောအခါများ၌ တင်မြှောက်ပသနေကြသော ''ပုန်းမကြည်နတ်''၊ ညောင်ဦးရွှေစည်းခုံရင်ပြင်တော်၏ အနောက်တောင်ထောင့်တွင်တည်ရှိသော အဖေထက် သားတစ်လကြီးနတ်၊ ရွှေစည်းခုံရင်ပြင်တော်၏ အရှေ့တောင်ထောင့်မှာတည်ရှိသော '၃၇'မင်းနတ်ရုပ်များထားရာ၌ အချို့ရှမ်းနတ်များ၊ ငါးရွာရှင်၊ ဆယ်ရွာရှင်စသည့်နတ်များ ထိုစာရင်း၌ပါဝင်နေသော်လည်း မြဝတီဝန်ကြီး၏ အပြင်'၃၇'မင်းစာရင်း၌ ထိုနတ်များ မပါဝင်သေးခြင်း၊ ဖျာလိပ်ကိုထောင်ကာ ထဘီ, အင်္ကျီ, လက်ကောက်စသော မိန်းမတို့၏ အဝတ်တန်ဆာတို့ဖြင့် ဆင်ယင်ပြီး မိန်းမများ မကြာခဏ နတ်မေးလှေ့မေးထရှိကြသော ''မအောင်ဖြူ ဖျာလိပ်နတ်''၊ ရွှေညောင်ပင်နတ်၊ လေချွန်နတ်နှင့် ပဲခူးနယ်တစ်ဝိုက်တွင် ခေတ်စားလှသော ''နံကရိုင်းမယ်တော်နတ်'' စသည်တို့မှာ ပြည်သူများ၏ အပူဇော်ခံနတ်များ ဖြစ်နေကြပြီဖြစ်သော်လည်း '၃၇'မင်းနတ်စာရင်း၌ မပါဝင်နိုင်သေးကြောင်း သိနိုင်ပါသည်။ သို့သော် ''ပညာရှိ သတိဖြစ်ခဲ'' ဆိုတာမျိုးလို နတ်သုတေသီများသည် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက် သေသွားသောအခါ ''နတ်ဖြစ်သွားသလား၊ တစ္ဆေဖြစ်သွားသလား''ဆိုတာမျိုးကို အတိအကျမသိရဘဲနှင့် ''ကိုးကွယ်ရာအနေအထားမျိုး'' ဖြင့် ပြည်သူတို့အား အယူမှား၊ အကျင့်မှားများကို ကျင့်သုံးစေရန် မိမိတို့လုံ့လပယောဂဖြင့်အားထုတ်မှုများဆက်လက်ပြုနေကြမည်ဆိုလျှင်နောင်သံသရာအတွက် ဝန်လေးနိုင်ဖွယ်ရာ အမှုများကို ပြုရာ၊ ဖန်တီးရာကို ရောက်စေနိုင်သောကြောင့် နတ်ဝင်သည်၊ နတ်ထိန်းသည်တို့သည် သတိတရားကြီးစွာထား၍ သူတစ်ပါးကို တရားတော်နှင့်အညီ စောင့်ရှောက်သည့်အနေအားဖြင့် သူ့မှာ–

အာဗီဝမဖြစ်နိုင်သော အသက်မွေးဝမ်းကျောင်းပြုမှုမျိုးကို အသိတရားဖြင့် ရှောင်ရှားကြခြင်းသည်ပင် မိမိကိုယ်ကိုလည်း စောင့်ရှောက်ရာရောက်ပါလိမ့်မည်။

စစ်မှန်သောထေရဝါဒ ဗုဒ္ဓတရားတော်များကို စင်စင်ကြယ်ကြယ် သန့်သန့်ရှင်းရှင်း ဖြစ်ရလေအောင် ဗုဒ္ဓတရားတော်များကို အသက်နှင့်ထပ်တူ တန်ဖိုးထား၍ ထိန်းသိမ်းစောင့်ရှောက်လိုကြသော ဗုဒ္ဓဘာသာဝင် ရဟန်း, ရှင်, လူ, ပြည်သူပြည်သားတို့သည် ဘာသာတရားကိုးကွယ်မှုနှင့် နတ်ကိုးကွယ်မှု အလေ့အထတို့ နှစ်ခုအကြားဝယ် "အုတ်အရောရော ကျောက်အရောရော"ဖြစ်နေသော အဖြစ်မျိုးတွေမှ ကာကွယ်စောင့်ရှောက်နိုင်စေရန် ပုဂံခေတ်က သာသနာတော်ကို သူ့အသက်၊ သူ့စည်းစိမ်တမျှ မြတ်နိုးကြည်ညိုလှသော အနော်ရထာမင်းကြီး၏ စိတ်ဓာတ်မျိုးကို အာရုံပြုလျက် ဗုဒ္ဓတရားတော်များမှာ ဖော်ပြထားသော ဗုဒ္ဓ၏ အဆုံးအမများကို မိမိတို့၏ နှလုံးသားကိုယ်စီ၌ သန့်သန့်ရှင်းရှင်းစင်စင်ကြယ်ကြယ်ဖြစ်ရလေအောင် သဒ္ဓါဓာတ်, ဝီရိယဓာတ်, ပညာဓာတ်တို့ဖြင့် စောင့်ထိန်းထားနိုင်ကြပါစေ။



## အခန်း (၄)

### နတ်တို့အပေါ်၌ထားရှိသော မြန်မာတို့၏ ကရုဏာနှလုံးသား

မြန်မာတို့၏ ကရုဏာနှလုံးသားကို အနီးစပ်ဆုံးစကားလုံးနှင့် သုံးနှုန်းပြောဆိုရမည်ဆိုလျှင် အင်မတန်သိမ်မွေ့နူးညံ့လှသည်ဟု ဆိုရပေမည်။ ဖြစ်နိုင်ခြေရှိသော အနေအထားတစ်ခုကို ထောက်ပြရမည်ဆိုလျှင် မြန်မာတို့၏ ကရုဏာနှလုံးသားထဲသို့ အနှိုင်းမဲ့မဟာကရုဏာရှင်ဖြစ်တော်မူသော မြတ်ဗုဒ္ဓ၏ ကရုဏာအငွေ့အသက်တွေ စိမ့်ဝင်ယိုစီး၍များ နေရော့လေသလားဟု တွေးဆလောက်စရာပင်။ ဘယ်လောက်များ သိမ်မွေ့သလဲဆိုလျှင် ကမ္ဘာ့လူသားများ၏ အလယ်မှာ စံထားလောက်ရအောင်ပင် သိမ်မွေ့နူးညံ့လှသည်။ လူ့အသိုင်းအဝိုင်းတွေထဲမှာ လူတွေနှင့် အတူနေနေကြရသော မြန်မာတို့သည် ဖြစ်ပျက်နေသော မညီမျှမှုတွေ၊ နိုင်ထက်စီးနင်းပြုမူခံနေရမှုတွေကို တွေ့နေရ၊ မြင်နေရ၊ ကြားနေရသည့်အခါမျိုး၌ လျစ်လျူရှုရန် ခက်ခဲလှသော မြန်မာတို့၏ ကရုဏာနှလုံးသားသည် ထိုပြဿနာ၌ ပါဝင်ခြင်း၊ လျစ်လျူရှုခြင်း နှစ်မျိုးတွင် ပါဝင်ခြင်းဘက်မှ အားသာနေတတ်သည်။ သို့ဖြစ်၍ နိုင်ထက်စီးနင်းအပြုခံနေရသော လူတွေကို တွေ့နေကြရ၊ မြင်နေကြရ၊ ကြားနေကြရပြန်သောအခါ အနိုင်

အထက်အပြုခံနေရသူဘက်က အကူအညီပေးနိုင်လျှင်လည်း အကူအညီပေးလိုက်ကြသည်။ အကူအညီမပေးနိုင်သော အခြေအနေမျိုးမှာဆိုလျှင်လည်း အနိုင်အထက် အပြုခံနေရသူ၊ သို့မဟုတ် နှိပ်စက်ခံနေရသူများဘက်မှ တစ်နည်းမဟုတ်၊ တစ်နည်းနည်းဖြင့် ရပ်တည်နေတတ်ကြသည်။ ဤစိတ်ဓာတ်သည် မြန်မာလူမျိုးတို့၏ နှလုံးသားထဲ၌ ကိန်းအောင်းနေခဲ့သည်။ ထို့ကြောင့် တိကျသောအဓိပ္ပါယ်ကို ဖော်ညွှန်းပြောဆိုရန် ခက်ခဲလှသော မြန်မာတို့၏ ကရုဏာနှလုံးသားကို မြန်မာတို့၏ အခြေခံစိတ်ဓာတ်ဟုသာ ဆိုရပေမည်။

ဥပမာတစ်ခုကို တင်ပြပါရစေ၊ မြန်မာတို့သည် ဇာတ်ပွဲ၊ အငြိမ့်ပွဲစသော စိတ်ပျော်ရွှင်စရာ ဖျော်ဖြေရေးပွဲများကို စုပေါင်းကြည့်လေ့ရှိကြသည်။ တစ်ခါတလေ အတူအကွ စုပေါင်းပြီး ပွဲကြည့်ကြသောအခါ ဇာတ်လမ်းသဘောအရ အားနွဲ့သူ ကလေးသူငယ်များ သို့မဟုတ် အားနွဲ့သူ မင်းသား၊ မင်းသမီးများအား ပုဏ္ဏားများ၊ ရှင်ဘုရင်များ သို့မဟုတ် မှူးမတ်များက အနိုင်အထက်ပြု၍ ညှဉ်းပန်း၊ နှိပ်စက်နေသည်ကို မြင်ကြရသောအခါ နှိပ်စက်ခံနေရသူများအပေါ် သနားကြင်နာစိတ်များ ဖြစ်ပေါ်နေတတ်ကြသည်။ ထိုသနားကြင်နာသောစိတ်များသည် နှလုံးသားထဲ၌ ဖြစ်နေသည်ကို တစ်ခါတစ်ရံမထိန်းနိုင်ကြသည့်အဆုံးမှာ လက်ထဲမှာစားဖို့ ကိုင်ဆောင်ထားသော လိမ္မော်သီး၊ ကြံချောင်းစသည်တို့ဖြင့် သို့မဟုတ် ဖိနပ်စသည်တို့ဖြင့် ပစ်ပေါက်တတ်ကြသည်။ အားနွဲ့သူကို အားရှိသူက မတရားသဖြင့် အနိုင်အထက်ပြုပြီး နှိပ်စက်ညှဉ်းပန်းနေတာမျိုးတွေကို မကြည့်ချင်၊ မမြင်ချင်သည့်သဘောမျိုးကို ဖော်ညွှန်းပြခြင်းဖြစ်သည်။ မတရားပြုမှုနေခြင်းကို မကြိုက်နိုင်သည့် သဘောမျိုးဖြစ်သည်။ ဤစိတ်ဓာတ်မျိုးတွေသည် မြန်မာတို့၏ နှလုံးသားထဲ၌ ဟိုရှေးပဝေသဏီခေတ်တွေကတည်းက ရှိနေခဲ့သောကြောင့် သနားစရာကောင်းသူအား သနားကြင်နာတတ်သော ကရုဏာနှလုံးသားဟု ဆိုရပေမည်။

ဤကဲ့သို့သောစိတ်ဓာတ်မျိုးတွေ မြန်မာတို့၌ရှိနေခြင်းသည် ထိုခေတ်၊ ထိုအခါက မြန်မာတို့ ကိုးကွယ်ပူဇော်ပသနေသော နတ်ဦးရေတွေ၊ နတ်စာရင်းတွေ တစ်နေ့တခြားတိုးပွားလာရခြင်း၏ အခြေခံအကြောင်းတစ်ရပ်ဆိုလျှင်





များနိုင်မည်မဟုတ်ပါ၊ အဘယ်ကြောင့်ဆိုသော် သိမ်မွေ့လှသောမြန်မာတို့၏ ကရုဏာနှလုံးသားသည် အနိုင်ကျင့်ခြင်း၊ အကြမ်းဖက်ခြင်းဆိုသည့် မတရားသော အမွေအမူမျိုးတွေအပေါ်မှာ ဆိုက်ကိုလိုဂျီ (Psychology)သဘောအရတော်လှန်လိုသော စိတ်ဓာတ်မျိုးနှင့် တစ်နည်းမဟုတ် တစ်နည်းဖြင့် ဆက်စပ်နေသည်ဟု သိနိုင်ပေသည်။ ထို့ထက်ပိုမိုသော အကြောင်းခိုင်လုံမှုများကို သိလိုပါမူ ဒီထက်ပိုမိုကျယ်ပြန့်သော သုတေသနပြုမှုများကို ပြုလုပ်ကြရန်လိုပါလိမ့်မည်။

ရှေးကမြန်မာတို့၏ ယုံကြည်ချက်နှင့်ခံယူချက် ဤနှစ်ရပ်ပေါင်းစပ်ထားသော စိတ်ထားများကို ဉာဏ်မီသမျှလေ့လာကြည့်ရှုသောအခါ သေသူများနှင့်ပတ်သက်ပြီး၊ အစိမ်းသေ(ရုတ်တရက် အသတ်ခံရခြင်း၊ သစ်ပင်ထက်မှကျသေခြင်း၊ ရေနစ်၍ရုတ်တရက်သေဆုံးခြင်း စသည်များ) သေသူများသည် နတ်စိမ်းသော်လည်းကောင်း၊ တစ္ဆေသရဲသော်လည်းကောင်း ဖြစ်တတ်သည် သို့မဟုတ် ဖြစ်နိုင်ခြေရှိသည်ဟု ယူဆထားကြသည်။ အထူးသဖြင့် ရှင်ဘုရင်များ၊ မင်းညီ, မင်းသားများ၊ သူရဲကောင်းများနှင့် ထီးနန်းနှင့်ဆိုင်သော ပုဂ္ဂိုလ်များ ကံကြမ္မာဆိုးကြောင့် အစိမ်းသေ သေခဲ့ကြလျှင် နတ်စိမ်းတွေဖြစ်သွားသည်ဟု အများအားဖြင့် ယုံကြည်လျက် ရှိနေတတ်ကြသည်။ သာမန်လူများ အစိမ်းသေ သေလျှင်မူ တစ္ဆေသရဲတွေ ဖြစ်သွားကြသည်ဟု ယေဘုယျအားဖြင့် ယူဆထားတတ်ကြသည်။ သူဌေး, သူကြွယ်များ၊ ပစ္စည်းဥစ္စာရှိသူများ အစိမ်းသေသေလျှင်တော့ ဥစ္စာစောင့်များ ဖြစ်သွားတတ်ကြသည်ဟု ယေဘုယျအားဖြင့် ယုံကြည်ထားသူတွေလည်း ရှိနေတတ်ကြသည်။ ဗုဒ္ဓကျမ်းဂန်များအရမှာလည်း အစွဲအလမ်းတစ်ခုခုနှင့် သေရသောသတ္တဝါများသည် ပြိတ္တာသော်လည်းကောင်း၊ တိရစ္ဆာန်သော်လည်းကောင်း၊ တစ္ဆေသရဲတို့သော်လည်းကောင်း ဖြစ်နိုင်ကြောင်းကို ကျမ်းဂန်အထောက်အထားများအရ သိရပါသည်။ သို့သော် မြန်မာလူမျိုးတို့သည် အစိမ်းသေ သေသူများအပေါ် နတ်စိမ်းများဖြစ်သွားကြသည်ဟု ယူဆမှုပြုခြင်း၏ အဓိကအကြောင်းရင်းတို့မှာ –

၁။ အစိမ်းသေ သေသောသူအပေါ်၌ မေတ္တာသက်ရောက်နေခြင်း၊

၂။ သေသူအပေါ်မှာ သနားကြင်နာခြင်း၊ ကရုဏာများစွာဖြစ်နေခြင်း၊

၃။ သေသူအပေါ်၌ လေးစားအထင်ကြီးနေခြင်း၊

၄။ သေသူအပေါ်မှာ အားကိုးအားထားပြုလိုခြင်း၊

၅။ ထိုသူသေရခြင်းနှင့်စပ်၍ အုတ်အော်သောင်းတင်းဖြစ်ခြင်း၊

၆။ သေသူအတွက် စိတ်ထဲမှာစွဲနစ်နေအောင် ထိခိုက်ခံစားရခြင်းစသောအကြောင်းများနှင့် တစ်ကြောင်းမဟုတ်၊ တစ်ကြောင်းကြောင်းဖြင့် ဆက်စပ်နေကြောင်း တွေ့ရှိရပါသည်။[၃၄]

ဥပမာ–ပန်းပဲသမားမောင်တင့်တယ် သေဆုံးရမှုနှင့် ပတ်သက်ပြီး အခြေအနေအရပ်ရပ်ကို ကောက်ချက်ချကြည့်နိုင်သည်။ မောင်တင့်တယ်တို့ မောင်နှမသေဆုံးမှုနှင့်ပတ်သက်ပြီး မောင်တင့်တယ်အား မတရားသတ်ဖြတ်သော ရှင်ဘုရင်ကြီးအပေါ်မှာ ပြည်သူပြည်သားတို့ မခံမရပ်နိုင်အောင်ဖြစ်ခဲ့သည်။ ထိုမောင်နှမသေဆုံးမှုအတွက် နိုင်ငံတွင်းမှာလည်း အုတ်အော်သောင်းတင်း ရုတ်ရုတ်သဲသဲတွေဖြစ်သည်။ ဤမျှလောက်တွင်မကသေး ထိုမောင်နှမအပေါ်မှာ မေတ္တာစိတ်တွေ၊ သနားကြင်နာစိတ်တွေ တစ်နေ့တခြား ပိုကဲလာပြီး၊ မတရားသတ်ဖြတ်ခဲ့သော ရှင်ဘုရင်ကြီးအပေါ်မှာ မခံချင်တဲ့စိတ်တွေ၊ ဒေါသစိတ်တွေ၊ တော်လှန်ချင်တဲ့စိတ်တွေသည် တားဆီးမရနိုင်လောက်အောင်ဖြစ်ပေါ်နေခဲ့ကြသည်။

ဤမျှလောက်တွင်မကသေးဘဲ၊ သေသွားလေသူ မောင်နှမနှစ်ယောက်တို့အပေါ်မှာ ပြည်သူ၊ပြည်သားတို့၏ သံယောဇဉ်များသည် ပိုပြီးရင်းပိုလျက် စွဲလမ်းစိတ်တွေလည်း ဖြစ်ရှိနေခဲ့ကြသည်၊ မောင်တင့်တယ်သည် လူဘဝတုန်းက ခွန်အားဗလလည်းရှိ၊ အစွမ်းသတ္တိနှင့်လည်း ပြည့်စုံ၊ အားကိုးအားထားပြုလောက်သူလည်း ဖြစ်နေခဲ့လေတော့ နတ်ဘဝမှာလည်း တန်ခိုးအာနုဘော်တွေ၊ အစွမ်းသတ္တိတွေနှင့်ပြည့်စုံသော နတ်မင်းကြီးတစ်ပါးဖြစ်မှာပဲလို့ ယုံကြည်စိတ်တွေနှင့် ကိုးကွယ်ပူဇော်ပသလာခဲ့ကြသည်။ ထို့အပြင် ထိုမောင်နှမနှစ်ယောက်သည် စကားပင်မှာ နတ်ဖြစ်နေပြီး၊ သစ်ပင်အောက်ကို

၃၄။ အမျိုးသားပညာဝန်ဦးဖိုးကျား၊ ၃၇ မင်း၊ နာ ၆၉။





ရောက်လာသူတိုင်း လူကိုပဲဖြစ်ဖြစ်၊ ခွေးကိုပဲဖြစ်ဖြစ်၊ နွားကိုပဲဖြစ်ဖြစ်၊ ကျွဲကိုပဲဖြစ်ဖြစ် ဖမ်းစားနေသည်ဟု ကျော်စောလာပြန်တော့၊ ထိုမောင်နှမနှစ်ယောက်အပေါ်မှာ အားကိုးလိုစိတ်တွေ ပို၍တိုးပွားလာကြပြန်သည်။

မောင်တင့်တယ်တို့ နတ်မောင်နှမကို ကိုးကွယ်ပူဇော်ခြင်းနှင့်စပ်လျဉ်း၍ နောက်တစ်နည်း တွက်ဆလို့ရနိုင်တာကတော့ မောင်တင့်တယ်လို လူရိုး၊ လူကောင်းတစ်ယောက်ကို တရားစောင့်ပါသည်ဆိုသော ဘုရင်ဆိုသူများက နိုင်ထက်စီးနင်းပြု၍ မတရားစီစဉ်သတ်ဖြတ်တာကို ခံရလေခြင်းဟု ထိုဖြစ်ရပ်အပေါ်မှာ မကျေမနပ်ဖြစ်နေကြကြောင်းများကို တစ်နည်းတစ်ဖုံဖြင့် ထုတ်ဖော်ပြသလိုသည့် အနေမျိုးဖြင့်လည်းကောင်း၊ သေသူအတွက် အမှတ်တရကျောက်တိုင် စိုက်ထူလိုသည့်အနေမျိုးဖြင့်လည်းကောင်း အမှတ်ရမှုတစ်ခုခုသို့မဟုတ် အထိမ်းအမှတ်တစ်ခုခုကို ပြုထားလိုကြသည့်အနေအထားမျိုးဖြင့် မောင်တင့်တယ်တို့မောင်နှမကို အားကိုးရာအနေနှင့် ကိုးကွယ်လာကြခြင်းဖြစ်နိုင်ကြောင်း အမျိုးသားပညာဝန်ဦးဖိုးကျားက ကောက်ချက်ချထားသည်။

နတ်တွေနှင့်ပတ်သက်ပြီး သူတို့၏အတိတ်ဘဝအကြောင်းများကို တစေ့တစောင်း ပြန်လှန်၍ သုံးသပ်လေ့လာကြည့်ရှုသောအခါ နတ်အများစုသည် အစိမ်းသေ သေသူများဖြစ်ကြပြီး၊ သူတို့သေရသော ကိစ္စများနှင့်ပတ်သက်၍ ရင်နင့်ဖွယ်ရာ၊ ကရုဏာသက်စရာ၊ အုတ်အော်သောင်းတင်းဖြစ်စရာများနှင့် ရောထွေးပါဝင်နေသည်ကို တွေ့နိုင်သည်။ ကျမ်းဂန်သဘောအရလည်း အစိမ်းသေ သေသူများသည်လည်းကောင်း၊ ရိုးရိုးများနာရောဂါဖြင့် သေသူများသည်လည်းကောင်း အစွဲအလမ်းတစ်ခုခုကြောင့်ဖြစ်စေ၊ မကျေမချမ်းဖြစ်စရာအကြောင်းတစ်ခုခုကြောင့်ဖြစ်စေ သေဆုံးခဲ့ကြလျှင် ထိုအစွဲအလမ်းကြောင့် နတ်စိမ်းသော်လည်းကောင်း၊ တစ္ဆေ ၊ သရဲ၊ ပြိတ္တာသော်လည်းကောင်း ဖြစ်နိုင်ပါသည်။ သို့သော် သေသူများသည် လူတို့အား ခြောက်လှန့်ခြင်း၊ ဒုက္ခပေးခြင်းများကို ပြုနေကြမည်ဆိုလျှင် ထိုသေသူများသည် သို့မဟုတ် ထိုသတ္တဝါများသည် တစ္ဆေ၊ သရဲဖြစ်ဖို့အခွင့်အလမ်းများကပိုမိုအားသာလျက် ရှိနေသည်။ ထိုသေသူများသည် တစ္ဆေ၊ သရဲပင် ဖြစ်နေမည်

လော၊ တကယ်ပင် နတ်စိမ်းများဖြစ်နေမည်လော ဆိုသည်ကိုမူ ကိုယ်ပိုင်ဉာဏ်ဖြင့် စဉ်းစားစေလိုပါသည်။

မြန်မာနိုင်ငံမှာ နတ်ကိုးကွယ်မှုနှင့်စပ်ပြီး ကိုးကွယ် ပူဇော်ပသခံရသော နတ်တွေထဲတွင် မောင်တင့်တယ်တို့မောင်နှမသည် အဦးဆုံးတော့မဟုတ်ပါ။ သူတို့ထက်စောပြီး ကိုးကွယ်ပူဇော်ပသခံထားရသော နတ်တွေရှိခဲ့ကြောင်း သမိုင်းကြောင်းများအရ သိရသည်။ ဥပမာ၊ဗိဿနိုးစသော ဟိန္ဒူနတ်များနှင့် မြန်မာ့ရိုးရာဓလေ့နတ်များသည် မောင်တင့်တယ်တို့ နတ်မောင်နှမထက် များစွာစောပြီး အပူဇော်ခံခဲ့ရသည်။ ဗိဿနိုးနတ်မင်းကြီးဆိုတာ နန်းတွင်းသူ၊ နန်းတွင်းသားတွေ ကိုးကွယ်ပူဇော်ပသနေခဲ့သော ဟိန္ဒူနတ်ကြီးဖြစ်သည်။ မြန်မာများသည် နတ်များကို ခမ်းခမ်းနားနားကိုးကွယ်ပူဇော်ပသနည်းတွေကို နန်းတွင်းသူ၊ နန်းတွင်းသားများထံမှ တစ်ဆင့်ရလာခဲ့ကြဟန်တူပါသည်။ နန်းတွင်းသူ၊ နန်းတွင်းသားတို့ထံမှ တစ်ဆင့်ရလာခဲ့သော နတ်ကိုးကွယ်နည်းများကို မြန်မာမှုပြုပြီး မြန်မာ့နည်း၊ မြန်မာ့ဟန်ဖြင့် မင်းမဟာဂီရိနတ်မောင်နှမကို မင်းနှင့်ပြည်သူအားလုံး ခမ်းခမ်းနားနားကိုးကွယ် ပူဇော်ပသလာတတ်သော သဘောမျိုးဖြစ်နိုင်သည်ဟု ယူဆမိသည်။

သို့သော် ကိုးကွယ် ပူဇော်ပသနည်းများ ဆင်တူရိုးမှားဖြစ်နေသော်လည်း ကိုးကွယ်ရခြင်း ရည်ရွယ်ချက်အကြောင်းရင်းများကတော့ အနည်းငယ်ကွဲလွဲနေသည်ကိုတွေ့ရသည်။ ဦးထွေးမြင့် (ဘာသာပြန်)နှင့် ဦးတာညွန့်(သုတေသီ)တို့ရေးသော "မြန်မာ့မိရိုးဖလာဓလေ့ နတ်သမိုင်း"စာအုပ်၌ ကိုးကွယ်ရခြင်း၏ ရည်ရွယ်ချက်အကြောင်းရင်းများနှင့်စပ်ပြီး အောက်ပါအတိုင်း ဖော်ပြထားသည်–

'၃၇' မင်း နတ်များကို စီစဉ်ထားပုံမှာ ကွယ်လွန်သော ပုဂ္ဂိုလ်များ၏ ဝိညာဉ်တို့ကို ကိုးကွယ်မှုဖြစ်ပြီး၊ ဗြာဟ္မဏဝါဒ သိကြားနတ်မင်းကို အကြီးအကဲအဖြစ် ထည့်သွင်းထားလေသည်။ '၃၇'မင်း နတ်တို့တွင်ပါဝင်သော သိကြားမင်းနတ်မှာ ဗုဒ္ဓဘာသာ၌ပါရှိသော သိကြားမင်းမဟုတ်ပေ။ ဤနတ်များမှာလည်း ကွယ်လွန်သွားကြသော သူရဲကောင်းတို့၏ဝိညာဉ်များပင် ဖြစ်ကြသည်။ အများအားဖြင့် ဘုရင်များ၊ မှူးမတ်များ၏ ဝိညာဉ်များကို ကိုးကွယ်ပသကြခြင်းဖြစ်





သည်။ ယင်းတို့သည် ၁၃–ရာစုမှ ၁၇–ရာစုအတွင်းက အသက်ထင်ရှားရှိသော ပုဂ္ဂိုလ်များဖြစ်ခဲ့ပြီး၊ အချို့မှာ လွန်ခဲ့သော အနှစ်၂၀၀ ကမှ စတင်ပေါ်ပေါက်ခဲ့ပေသည်။ နတ်တစ်ပါးစီ၏ ထုံးစံ၊ ဓလေ့တစ်ခုစီကပ်၍ ပါနေတတ်သည်။ သီးခြားအဆောင်အယောင်၊ သီးခြားအာဟာရ၊ သီးခြား အဝတ်အစား၊ သီးခြားအကအခုန်၊ သီးခြားဇာတ်လမ်းများရှိပေရာ ဆိုင်ရာနေရာနှင့် ဆိုင်ရာအချိန်၌သာလျှင် ပူဇော်ပသကြရလေသည်။

မြန်မာနိုင်ငံ၌ လူအတော်များများက '၃၇' မင်း နတ် အကြောင်းကို ပြောဆိုနေကြသော်လည်း တကယ်လေ့လာမေးမြန်း စုံစမ်းကြည့်သောအခါ အတ္တုပ္ပတ္တိနှင့်သမိုင်းကို သိရှိသူ အလွန်နည်းပါးကြောင်း သိရသည်။ စာရေးသူ စုံစမ်းရသမျှနှင့် တွေ့ရှိရသမျှ အရုပ်တို့ကို အမှီပြု၍ ဤသုတေသနစာအုပ်ကို ရေးသားပါသည်။ မြန်မာတို့နှင့် အသေးစိတ်ဆွေးနွေးမေးမြန်းခဲ့ရပြီး၊ တော်စိန်နီကဲ့သို့ မြန်မာသုတေသီ၏ မှတ်ချက်၊ အဆို၊ အမိန့်များကိုလည်း နာယူခဲ့ပါသည်။ တော်စိန်နီက အောက်ပါအတိုင်းရှင်းပြပါသည် – "ယေဘုယျအားဖြင့် နတ်ရုပ်များသည် အသွင်အပြင်ခက်ထန် ကြမ်းကြုတ်မှုဖြစ်ကြပါသည်။ သစ်သားနှင့်ပြုလုပ်ထားသည်။ လူ၏မျက်နှာအသွင်အပြင်အတိုင်း ထုလုပ်ထားသည်"။[၃၅]

တစ်ဖန် ဟိန္ဒူများနှင့် မြန်မာများသည် နတ်ကိုးကွယ်ပုံအခြင်းအရာ အနည်းငယ် ကွဲပြားနေသော်လည်း ကိုးကွယ်ပူဇော်ပသရခြင်း၏ အကြောင်းရင်းအချို့တို့မှာ တူညီနေသည်ကို တွေ့ရပြန်သည်။ ဥပမာ၊ သေသူများအပေါ်မှာထားသော သနားကြင်နာစိတ်များ၊ လေးစားစိတ်များ၊ မြတ်နိုးစိတ်များ၊ အားကိုးစိတ်များဖြင့် နတ်ဘဝသို့ရောက်သွားကြသော နတ်များ၊ သို့မဟုတ် သူရဲကောင်းတို့၏ ဝိညာဉ်များကို ကိုးကွယ်ပူဇော်ပသကြခြင်းပင် ဖြစ်သည်။

---

၃၅။ ဦးထွေးဟန် (ဘာသာပြန်)။ မြန်မာ့မိရိုးဖလာဓလေ့ နတ်သမိုင်း။ နှာ ၂၇–၂၈ ။

ဤနေရာ၌ စိတ်ဝင်စားဖွယ်ကောင်းနေသော အချက်တစ်ချက်မှာ မြန်မာတို့ကိုးကွယ် ပူဇော်ပသထားသော နတ်များ၏ သမိုင်းကြောင်းများကို ပြန်လည်လေ့လာသုံးသပ်ကြည့်ရှုသောအခါ နတ်ဖြစ်သွားကြသည်ဟု ယူဆရသော ပုဂ္ဂိုလ်များမှာ အများစုအားဖြင့် ရှင်ဘုရင်များ၊ မင်းညီ၊ မင်းသားများ၊ သူရဲကောင်းများနှင့် ထီးနန်းနှင့်စပ်တဲ့ ပုဂ္ဂိုလ်တွေသာ နတ်အဖြစ်များနေသည်ကို တွေ့ရသည်။ ထီးနန်းနှင့် မစပ်သော ကုန်သည်၊ ပွဲစားနှင့် ဆင်းရဲသားဘဝတို့မှ နတ်ဖြစ်လာသော ပုဂ္ဂိုလ်များမှာ မရှိသလောက် ရှားမှရှား ဖြစ်နေခြင်းပင်ဖြစ်သည်။ '၃၇' မင်းတွင် ပါဝင်နေသော နတ်အများစုမှာလည်း ရှင်ဘုရင်များ၏ မတရားဒေါသကြောင့်၊ သို့မဟုတ် တစ်ချက်လွှတ်အမိန့်တော် ဥပဒေများကြောင့် သေခဲ့ကြရပြီး နတ်စိမ်းဖြစ်လာကြသူတွေ များသည်။ သေသူများ နတ်တကယ်ဖြစ်သည်၊ မဖြစ်သည်ဆိုတာကိုမူ အတိအကျမသိကြရသော်လည်း၊ ဤကဲ့သို့ ယုံကြည်ထားရသည်ကိုပင် ရှင်ဘုရင်များအပေါ်မှာ မကျေနပ်နိုင်သော စိတ်များကို အားမတန်မာန်လျှော့အနေမျိုးနှင့် စိတ်ပညာသဘောအရ ဖြေသိမ့်ခဲ့ကြရသည့် အနေအထားမျိုးမှာရှိနေကြောင်း ကောက်ချက်ချကြည့်နိုင်သည်။

ရှေးခေတ်အခါက ရှင်ဘုရင်များနှင့် အုပ်ချုပ်သူလူတန်းစားများသည် တရားဥပဒေများကို စီရင်ကြရာ၌ ''တစ်ချက်လွှတ်အမိန့်တော်'' ဥပဒေကို လက်ကိုင်ထားပြီး စီရင်ခဲ့ကြသည့် များယွင်းသောဓလေ့ကြောင့် သူတို့၏ တရားစီရင်မှုများသည် အစွန်းရောက်နေသည်ကို တွေ့နိုင်သည်။ ဤကဲ့သော ဖြစ်ရပ်မျိုးတွေသည် တစ်မှုလည်းမက၊ နှစ်မှုလည်းမက ထပ်ကာထပ်ကာ ဖြစ်နေခြင်းကြောင့် ပြည်သူတွေဘက်က ကြည့်မည်ဆိုပြန်တော့လည်း မခံမရပ်နိုင်အောင် ဖြစ်လောက်စရာပင်။ ရှေးခေတ်က တရားစီရင်မှုနှင့် စပ်ပြီး ဤနေရာ၌ ဥပမာလေးတစ်ခု ထုတ်ပြရမည်ဆိုလျှင် ပုဂံရာဇဝင်မှာ နာမည်ကြီးမင်းတစ်ပါးဖြစ်သော အလောင်းစည်သူမင်းကြီး (၄၇၄–၅၉၂)၏ တရားစီရင်မှုဆိုင်ရာ တစ်စိတ်တစ်ပိုင်းကို ကြည့်ရှုသုံးသပ်နိုင်သည်။ ပြစ်မှုသဘောအရ ပေါ့ပါးသော အပြစ်ဒဏ်လောက်သာ ပေးသင့်သောအမှုမျိုးကို သေဒဏ်အထိ





အပြစ်ပေးလိုက်သည့်ကိစ္စ၊ အမှုသဘောသွားကို စစ်ဆေးကြည့်လိုက်ပြန်တော့ အမှုက ရှင်ဘုရင်ခန္ဓာကိုယ်ပေါ်မှာ နေပြောက်ကျရောက်သောအမှု၊ တရားခံက ထီးတော်မိုး၊ စီရင်ချက်ချသူက ရှင်ဘုရင်၊ ချလိုက်သောစီရင်ချက်က သေဒဏ်။ ဤစီရင်ချက်အတွက် နောက်ထပ်အကျိုးဆက်အနေနှင့် ကွင်းဆက်ဖြစ်ပေါ်လာတာက မတရားမှုကို တော်လှန်လိုသောစိတ်ဓာတ်များ၊ နောက်ဆုံးဖြစ်ပေါ်လာသောအကျိုးရလဒ်က အပူဇော်ခံနတ်များ၊ ဒီလိုဖြစ်ရပ်မျိုးတွေသည် မြန်မာရာဇဝင်မှာ အပ်ကြောင်းများပင် ထပ်နေပြီဟု ဆိုနိုင်သည်။ တစ်ခါတစ်ရံ ရာဇဝင်သမိုင်းမျိုးဆိုတာ မပြောပြန်လျှင်လည်း ပြည်သူများမသိနိုင်၊ အမှန်ကို မသိရပြန်လျှင်လည်း မကြောက်သင့်သောအရာများကို အကြောက်တရားတွေ ဖြစ်နေတတ်သည်။ နတ်များကို ကိုးကွယ်နေသူများတွင် ၉၅ ရာခိုင်နှုန်းသည် အကြောက်တရားဖြင့် နတ်များကို ကိုးကွယ်နေတတ်ကြသည်။ အများစုသောနတ်တွေအကြောင်းကို ပြောရပြန်လျှင်လည်း ရင်နင့်စရာ၊ ''မပြောမပြီး မတီးမမြည်'' ဆိုတာမျိုးလို ဖြစ်နေသည်။ မရှိ၍ ဆင်းရဲ၍ ထီးတော်မိုးလေးဘဝနှင့် အသက်မွေးဝမ်းကျောင်းပြုနေခဲ့ရရှာသော ထီးတော်မိုးလေးတစ်ယောက်၏ ဘဝအကြောင်းပါ။ တရားစီရင်ရေးမှာ မျှမျှတတလိုလားသူတွေအတွက်တော့ အံ့သြလို့မဆုံး၊ ဝမ်းနည်းလို့မဆုံး ဖြစ်ကြပေမည်။ ထီးတော်မိုးလေးအတွက် မကျေနပ်တဲ့စိတ်တွေ၊ မခံချင်တဲ့စိတ်တွေဖြစ်ခဲ့ကြသည်။ သူ့အဖြစ်က ဒီလိုပါ ...။

## ရွှေကျွန်းတော်ရှင်နှင့် ကျောက်တောင်ကတော်တို့၏ ဘဝဖြစ်စဉ်

ပုဂံပြည်ရှင် အလောင်းစည်သူမင်းတရားကြီး (၄၇၄–၅၉၂) လက်ထက်တော်အခါက တစ်နေ့သောအခါမှာ အလောင်းစည်သူမင်းကြီး ဖောင်တော်ဖြင့် ဧရာဝတီမြစ်ကြောင်းအတိုင်း စုန်ဆင်းတော်မူလာခဲ့ရာ၊ ဆင်ပေါင်ဝဲအနီး ကြီးမားသော ဝဲကြီးထဲတွင် ဖောင်တော်ကြီး အမှတ်မထင် ရေလယ်မှာ ရပ်တန့်နေခဲ့သည်။ဖောင်တော်ကြီးရွေ့လျားနိုင်ရေးအတွက် ကမ်းထက်မှမင်းချင်းများက ဆင်များဖြင့် ဖောင်တော်ကြီးကို အပန်းတကြီးဆွဲယူနေစဉ် ထီးတော်

မိုးလေး တစ်ယောက်သည်လည်း အလောင်းစည်သူမင်းကြီးကို ထီးတော်မိုးပေးနေရသည်၊ အဲဒီနေ့မှာပဲ ထီးတော်မိုးလေးအတွက်ကံကဆိုချင်တော့ ထီးတော်ကိုသတိထားပြီး မိုးပေးနေပါလျက်နှင့် ဘုရင်ကြီး၏ခန္ဓာကိုယ်ပေါ်မှာ နေပြောက်ထိုးခံရတဲ့အဖြစ်မျိုးနှင့် ကြုံသွားရရှာသည်။ တကယ်တော့ ဘုရင်ကြီး၏ ခန္ဓာကိုယ်ပေါ်မှာ နေပြောက်ထိုးတာလောက်တော့ အပြစ်က ဒီလောက်ကြီးတော့လည်း မကြီးလှပါဘူး။ ဒါပေမယ့် ရှင်ဘုရင်အတွက်တော့ သိပ်ကြီးလေးသော အပြစ်ကြီးဟုယူဆဟန်ရှိသည်။ တိုတိုပြောရလျှင်တော့ တာဝန်လစ်ဟင်းမှုအတွက် သတ်စေ ပေါ့။ ''တစ်ချက်လွှတ်အမိန့်မျိုး''ဆိုတော့လည်း ဘယ်သူမှပြင်လို့မရ၊ ကယ်လို့ မရတဲ့ အမိန့်မျိုးဖြစ်သည်။

အခုထီးတော်မိုးလေးကို ပေးလိုက်သော ''သတ်စေအမိန့်'' နှင့် ပတ်သက်ပြီး အများဆုံး မကျေမနပ်ဖြစ်ခဲ့ရသူကတော့ ဘုရင်၏မိဖုရားတစ်ပါးလည်းဖြစ်၊ ထီးတော်မိုး၏ နှမတစ်ယောက်လည်းဖြစ်သည့် မိဖုရားငယ်တစ်ပါးပါ။ ဒီပြစ်မှုလောက်လေးနဲ့ ''သတ်စေအမိန့်''ကြီးကို ထုတ်ရကောင်းလားဟု မကျေမနပ်ဖြစ်ပြီး ဖောင်တော်ဦးကိုသွားပြီး အရွဲ့တိုက်သည့်သဘောနှင့် ခေါင်းဆေးသောကိစ္စ။ ပြဿနာတွေက ပိုတက်လာသည်။ ဖောင်တော်ဦးမှာ ခေါင်းဆေးတယ်ဆိုတာ ရှင်ဘုရင်တွေ အတွက်တော့ အမင်္ဂလာဖြစ်သည်။ ဘယ်နေမလဲ၊ ရှင်ဘုရင်ကြီး၏အမျက် တစ်ခါထွက်ရပြန်ပါသည်။မပြုအပ်သည်ကိုပြုသည့် မိဖုရားကိုလည်း ''သတ်စေ'' တစ်ချက်လွှတ်အမိန့်တော်ပဲပေါ့။

တရားမျှတသည်၊ မမျှတသည်ကို စိစစ်ပိုင်ခွင့်မရနိုင်သည့် ထိုခေတ်၊ ထိုအခါက ပုဂံပြည်သူတို့၏ဘဝသည် ''ဝမ်းနည်းရမှာလား၊ ဝမ်းသာရမှာလား'' ဆိုတာမျိုးလိုပါပဲ။ ပြောရမှာတောင် ခပ်ခက်ခက်ဟုပင် ဆိုရမည့်အဖြစ်မျိုးပါ။ ဘာကြောင့်လဲဆိုလျှင် အဲဒီမောင်နှမနှစ်ယောက်သည်လည်း ထုံးစံအတိုင်းပါပဲ။ သေပြီးနောက် မောင်နှမနှစ်ယောက်စလုံး နတ်စိမ်းတွေ ဖြစ်သွားကြသည်။ နတ်စိမ်းဘဝနှင့် ဖောင်တော်ကိုတားပြီး နယ်စား၊ ပယ်စားတောင်းကြ၍ ထီးတော်မိုးတစ်ဖြစ်လဲ နတ်ကို ဆင်ပေါင်ဝဲအနီးမှာ တည်ရှိသော ကျွန်းတော်ကို ပေးသနားပြီး၊ နှမတော်ကိုတော့ ဆင်ပေါင်ဝဲကမ်းစပ်မှာ စုပုံတည်ရှိနေတဲ့





ကျောက်ဆောင်ကျောက်သန့်ကို ပေးသနားတော်မူခဲ့ပါသည်။ အဲဒီအချိန်ကစပြီး နတ်မောင်နှမတို့၏ အမည်သည်လည်း ''ရွှေကျွန်းတော်ရှင်နတ်'' နှင့် ''ကျောက်တောင်ကတော်နတ်''ဟု အမည်တွေတင်ခဲ့ကြပါတယ်။[၃၆]

ဒီနတ်မောင်နှမနှစ်ယောက်တို့၏ ဘဝဖြစ်စဉ်လေးကို ဖတ်ပြီးတဲ့ အခါ ရင်ထဲမှာတော့ ဟာတာတာဖြစ်နေမိသလိုပဲ။ ရှင်ဘုရင်များ၏ ''တစ် ချက်လွှတ် အမိန့်ဥပဒေ''ရယ်၊ ထိုဥပဒေအရ အပြစ်ဒဏ်သင့်ခံရတဲ့ မောင်နှမ နှစ်ယောက်တို့၏ ဝမ်းနည်းဖွယ် ဖြစ်ရပ်လေးတွေရယ်၊ ပြည်သူတွေ၏ စာနာ တတ်သော နှလုံးသားရိုက်ခတ်သံတွေရယ်၊ ဒါတွေကို ပေါင်းစပ်ကြည့်လိုက်မည် ဆိုလျှင်တော့ သူတို့၏ဘဝ၊ သူတို့၏ဖြစ်စဉ်လေးတွေသည် ရင်နင့်စရာပါ။ ရင်နာစရာပါ။ ဒါပေမယ့် ဒီကိစ္စမျိုးတွေဆိုတာ စာနာတတ်သူတို့အတွက် စာနာ ပေးရုံကလွဲလျှင် သက်ဦးဆံပိုင်ခေတ်မှာ ဘာမှမတတ်နိုင်ကြပါ။ တရားသဘော နှင့် ဆင်ခြင်ကြည့်မည်ဆိုလျှင်တော့ ''သမ္ဗေသတ္တာ ကမ္မသကာ'' ပဲပေါ့။

ဤသို့ဤနှယ် အထက်မှာဖော်ပြခဲ့ပြီးဖြစ်သော အကြောင်းများကြောင့် ဗုဒ္ဓဘာသာဝင်တို့အတွက် ဗုဒ္ဓမမ္မနှင့်အညီ နတ်ကိုးကွယ်မှုနှင့်စပ်ပြီး စဉ်းစား စရာ၊ ဆင်ခြင်စရာ၊ တွေးတောစရာတွေ အများကြီးရှိလာသည်။မောင်တင့်တယ် တို့ နတ်မောင်နှမသေစဉ်က၊ ထီးတော်မိုးတို့ နတ်မောင်နှမနှင့် အခြားအခြား သော နတ်လောင်းနတ်လျာများသေစဉ်က ထိုသူတို့သည် တကယ်ပင်နတ်ဖြစ် သည်၊ မဖြစ်ဘူးဆိုတာ ဘယ်သူမှုတိတိကျကျသိကြတာတော့ မဟုတ်ပါ။ တကယ်ပင် အောက်တန်းစားနတ်များ ဖြစ်သွားကြသည်ပဲထားဦး၊ သို့မဟုတ် တစ္ဆေမျိုး၊ ပြိတ္တာမျိုးဖြစ်သွားကြသည်ပဲထားဦး၊ ၎င်းနတ်များ၏ဘဝသည်လည်း သို့မဟုတ် တစ္ဆေများ၊ ပြိတ္တာများ၏ ဘဝများသည်လည်း သင်္ခါရသဘောတရား အရ ယခုတိုင် ထိုဘဝများ၌ ရှိချင်မှရှိပေတော့မည်။ အကယ်၍များ မောင်တင့်တယ်တို့ မောင်နှမ၊ ထီးတော်မိုးတို့ မောင်နှမနှင့် အခြားအခြားသော

---

[၃၆] ဦးထွေးဟန်(ဘာသာပြန်)။ မြန်မာ့မိရိုးဖလာဓလေ့ နတ်သမိုင်း။ နှာ ၁၆၇-၁၆၈။

နတ်လောင်းများသည် နတ်မဖြစ်ဘဲ၊ တစ္ဆေမျိုး၊ ပြိတ္တာမျိုးများ ဖြစ်နေခဲ့ကြမည်ဆိုလျှင် အခုလောက်ဆို ထိုထိုဘ၀များမှ ဤဤဘ၀မျိုးသို့ ရောက်ကောင်း ရောက်နေကြပေလိမ့်မည်။ ဉာဏ်နှင့်ယှဉ်ပြီးစဉ်းစားသင့်ပါသည်။

ဗုဒ္ဓဘာသာ၀င် မြန်မာလူမျိုးတို့သည် နတ်ကိုးကွယ်မှုများနှင့်စပ်လျဉ်းပြီး ဉာဏ်ယှဉ်၍ မစဉ်းစားတတ်ကြဘူးဆိုလျှင် ဆက်လက်၍ နတ်တွေကို ကိုးကွယ်ပူဇော်ပသနေကြခြင်းဖြင့် နတ်တို့ကို ခတုံးလုပ်ပြီး စီးပွားရှာနေသူတို့အား တစ်ဖက်တစ်လမ်းမှ အားပေးရာရောက်နေခြင်း၊ မိမိကိုယ်ကိုမိမိလည်း အယူမှား၊ လမ်းမှားများဆီသို့ မရောက်ရောက်အောင် တွန်းအားများပေးနေသလို ဖြစ်နေခြင်းစသော အကြောင်းများကြောင့် ဗုဒ္ဓဘာသာ၀င်ကောင်း တစ်ယောက်ဖြစ်လိုသူတို့အတွက် တရားနှင့်မလျော်ညီသော ကိုးကွယ်ပူဇော်ပသနေခြင်းများကို သတိတရားဖြင့် ရှောင်ရှားသင့်လှသည်။ ကိုယ့်ကိုယ်ကို ယုံကြည်စိတ်များ တိုးပွားလာနိုင်အောင် ပရိတ်တရားများကို ရွတ်ဖတ်ပွားများကြသော အခါမျိုး၌လည်းကောင်း၊ တရားဓမ္မများကို နာကြားကြသောအခါမျိုးတို့၌လည်းကောင်း နတ်ဒေ၀ါတို့အား လေးလေးစားစား ဖိတ်မန်ခြင်း၊ အမျှပေးဝေခြင်း၊ မေတ္တာပို့ခြင်းများကို ပြုလုပ်ခြင်းဖြင့် မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးအား တရားနှင့် လျော်ညီသော အစောင့်အရှောက်များကို ပေးနေရာရောက်ကြောင်း သိစေချင်စမ်းလှပါသည်။ သတိတရားများဖြင့် အယူမှားတွေကို ယုံကြည်တတ်သော မိစ္ဆာဘေးဆိုးတို့မှ လွတ်ကင်းနိုင်ကြပါစေ။



## အခန်း (၇)

### အနော်ရထာလို မင်းတရားမျိုး

ပုဂံရာဇ၀င်မှာထင်ရှားကျော်ကြားလှသော အနော်ရထာမင်းတရားကြီးကို မြန်မာပြည်သူပြည်သားများ မသိသူမရှိသလောက်ပါ။ အနော်ရထာမင်းကြီးသည် တိုင်းပြည်နှင့်လူမျိုးအတွက် ပေးဆပ်ရဲသောသတ္တိ၊ ဆောင်ရွက်နိုင်စွမ်းရှိသောဗျတ္တိမျိုးကလည်းရှိ၊ နိုင်ငံနီးနေ ရှင်ဘုရင်တွေကလည်း ရှိသေလေးစား၊ အားထားလောက်သော စစ်သည်အင်အားကလည်းပြည့်စုံ နိုင်ငံနှင့်လူမျိုးအတွက် တောင့်တင်းခိုင်မာသော ဥစ္စာဓနအင်အားကလည်းရှိဆိုတော့ သူ့လိုရှင်ဘုရင်မျိုးက တိုင်းသားနှင့်ပြည်သူများကို တစ်သွေးတည်း၊ တစ်သားတည်းဖြစ်အောင် ဆောင်ရွက်ပေးနိုင်ခြင်းမှာ အံ့စရာတော့မဟုတ်ပါ။ တကယ်အံ့အားသင့်ဖွယ်ကောင်းနေသည့်အချက်မှာ သူ၏ဥစ္စာဓနအင်အား၊ စစ်အင်အားများ ပြည့်စုံကြွယ်၀မှုအတွက် မာန်မထောင်ဘဲ၊ အတ္တမဖက်ဘဲ စေတနာသန့်သန့်နှင့် တိုင်းပြည်နှင့်လူမျိုး၊ ဘာသာနှင့်သာသနာကို ဂုဏ်တက်အောင် ပြုလုပ်ပေးနိုင်ခြင်းဖြစ်သည်။ သူ၏ ဖြူစင်သော စေတနာတွေ၊ မှန်မြတ်သော စိတ်ထားတွေ၊ တည်ကြည်သော ဂုဏ်သိက္ခာတွေကို မေ့ပျောက်

လို့ မရနိုင်အောင်ရှိနေသည်။ ထို့ကြောင့် သမိုင်းဆရာများသည် အနော်ရထာမင်းကြီးကို မြန်မာ့သမိုင်းမှာ ထူးကဲသော ရှင်ဘုရင်ကြီးတစ်ပါးဟု တညီတညွတ်တည်း မှတ်တမ်းတင်ထားခဲ့ကြသည်။

စူးရှထက်မြက်သော အသိဉာဏ်နှင့် မြင်နိုင်စွမ်းရှိသော အနော်ရထာမင်းကြီးသည် တိုင်းပြည်တွင်းမှာ ဖြစ်ချင်တိုင်းဖြစ်နေသော နတ်ကိုးကွယ်မှုနှင့်ပတ်သက်ပြီး အစွန်းရောက်နေမှုများကို စုံစမ်းစစ်ဆေးနိုင်ခဲ့သည်။ သူ့အမြင်၊ သူ့အတွေး၊ သူ့အသိ၊ သူ့အာရုံ၊ သူ့အတွေ့အကြုံများအရ နတ်ကိုးကွယ်မှုမျိုးဆိုသည်မှာ မိစ္ဆာအယူမှားမျိုး သာဖြစ်ကြောင်း၊ လောကအကျိုးစီးပွား၊ သံသရာအကျိုးစီးပွားများကို ပျက်စီးစေနိုင်ကြောင်းကို သူသိထားပြီးဖြစ်သည်။ နတ်ကိုးကွယ်ပူဇော်ပသမှုမျိုးကို မသိကျိုးကျွန်ပြု၍ ခွင့်ပြုထားလိုက်မည်ဆိုလျှင် မှားယွင်းသော အယူဝါဒများ တဖြည်းဖြည်းကြီးထွားလာမည်ကို ပြည်သူတွေအတွက် အနော်ရထာမင်းကြီး စိုးရိမ်မိသည်။ ထင်ထားသည့်အတိုင်းပင် နတ်ကိုးကွယ်မှုများသည် ဆိုးသည်ထက် ဆိုးဝါးလာသည်။ ပြည်သူ၊ ပြည်သားတွေအတွက် လွဲမှားသော အယူဝါဒကြောင့် ပစ္စုပ္ပန်, သံသရာ နှစ်ဖြာသော ဆိုးကျိုးများဖြစ်သွားစေနိုင်၍ သူမှ မကယ်လျှင် ဤကိစ္စမျိုး၌ ကယ်မည့်သူမရှိနိုင်ကြောင်း သူသိလိုက်ပြီး၊ မုန့်လေး, ပန်းလေးကအစ၊ နတ်များကို တစ်စတစ်စ ပူဇော်ပသလာခဲ့ကြရာမှ အချို့နေရာများမှာ တိရစ္ဆာန်တွေနှင့် လူသားတို့၏ အသက်အသွေးတို့ကိုပါ နတ်တို့အားပူဇော်ပသကြလျက် ကြီးလေးသော မကောင်းမှုများကို ပြုရဲလာကြသည်အထိရောက်သွားကြသော သမိုင်းဖြစ်ရပ်တွေကို အနော်ရထာမင်းကြီး သတိရနေမိသည်။ ဤသို့သောအခြေအနေများကြောင့် အနော်ရထာမင်းကြီးအတွက် ရွေးချယ်စရာ အခြားနည်းလမ်းမရှိတော့၊ တိုင်းပြည်အတွက်၊ လူမျိုးအတွက်၊ ဘာသာ, သာသနာအတွက်၊ လုပ်သင့်, လုပ်ထိုက်တာတွေကို လုပ်ရုံပဲရှိတော့သည်ဟု အနော်ရထာမင်းကြီး သန္နိဋ္ဌာန်တစ်ခုချခဲ့ရတော့သည်။

ငါးရာငါးဆယ် ဇာတ်နိပါတ်တော်များမှာလာသော သင်ခန်းစာတွေကို လေ့လာကြည့်ရပြန်တော့လည်း နတ်ကိုးကွယ်မှုနှင့်ပတ်သက်ပြီး အယူမှား





များကို ယူမှားမိ၊ အယူမှားများသို့ လိုက်မှားမိကြသော ရှင်ဘုရင်ဆိုသူများနှင့် ကောက်ကျစ်သော စိတ်ထားရှိကြကုန်သော အချို့သော အကြံပေးအရာရှိ ပုဏ္ဏားများကြောင့် ယဇ်နတ်ပူဇော်မှုများကို ပြုလုပ်ကြရာဝယ် လူအသက်ပေါင်းများစွာ၊ ကျွဲ, နွား, ဆင်, မြင်းစသော တိရစ္ဆာန်တို့၏ အသက်ပေါင်းများစွာကို စတေးလျက် ထိုသတ္တဝါတို့၏သွေးဖြင့် ယဇ်နတ်ပူဇော်ခဲ့ကြသော သာဓကတွေကို တွေ့နေကြရပြန်သည်။ နတ်တို့ကို ကိုးကွယ်မှား၍ သမိုင်းမှာ မည်းမှောင်မည်မျှ ဆိုးဆိုးဝါးဝါးဖြစ်ခဲ့ရသည်ဆိုသော သမိုင်းအထောက်အထားများကို လေ့လာကြည့်ရှုပြန်တော့လည်း သမိုင်း၏ ဒဏ်ရာဒဏ်ချက်တွေကို ကုစားဖို့ခက်လောက်အောင်ပင် ဖြစ်ခဲ့ရသော သာဓကတွေကလည်း ရှိနေခဲ့သည်။ ဤသာဓကတွေထဲမှ အဆိုးဆုံးတွေ့ရှိရသော ဒေသတစ်ခုမှာ မြောက်အမေရိကတိုက်၊ မက္ကဆီကို(Mexico)နိုင်ငံရှိ အက်ဇတက်(Aztecs)လူမျိုးတို့၏ လူအသက်ပေါင်းများစွာတို့၊ အသားအသွေးတို့ဖြင့် ယဇ်နတ်ပူဇော်ခဲ့သော ထိတ်လန့်ဖွယ်ရာဖြစ်ရပ်များပင်ဖြစ်သည်။ မှားယွင်းသော အလေ့အကျင့်ကြီးတစ်ခုကို ပြုလုပ်ခဲ့ကြ၍ မက္ကဆီကိုသမိုင်းမှာ ဖျက်၍မရသော အမဲစက်ကြီးတစ်ခု ထင်ကျန်နေရစ်ခဲ့သည်၊ ဤဖြစ်ရပ်နှင့် ပတ်သက်ပြီး အမျိုးသားပညာဝန် ဦးဖိုးကျားက ''၃၇ မင်း'' စာအုပ်မှာ အောက်ပါအတိုင်း ဖော်ပြထားသည်။

အမေရိကတိုက်၊ မက္ကဆီကိုပြည်၊ အက်ဇ်တက် (Aztecs)လူမျိုးတို့သည် လူကို ယဇ်နတ်ပူဇော်တတ်ကြသည်။ ယခုအခါ ထိုမက္ကဆီကိုမြို့ပြတိုက်တွင် ကျောက်ယဇ်ပလ္လင်တစ်ခုသိမ်းထားသည်၊ အဝိုင်းပုံ အချင်း(၇)ပေမျှကျယ်သည်။ ထိုပလ္လင်ပေါ်တွင် လူပေါင်းတစ်သန်းကျော် ယဇ်ပူဇော်ခဲ့ဖူးလေသည်။[၃၇]

မြန်မာနိုင်ငံတွင်လည်း ယဇ်နတ်ပူဇော်ခြင်းများ၊ လွဲမှားစွာယုံကြည်သော နတ်ကိုးကွယ်မှုများ တစ်ခါတစ်ရံ၌ အတော်ကြီးဆိုးဝါးလာတတ်သည်ကို သမိုင်းကြောင်းများအရ သိရသည်။ မနေသာလှတော့သည့်အဆုံး ရှေးမြန်မာမင်းများသည် အမျိုး, ဘာသာ, သာသနာအတွက် နတ်များကို နှိမ်နင်းခဲ့ရဖူး

၃၇။ အမျိုးသားပညာဝန်ဦးဖိုးကျား၊ '၃၇'မင်း။ နှာ ၁၂၈-၁၂၉။

သည်။ နတ်ကိုးကွယ်မှုများကို နှိမ်နင်းရာ၌ ထင်ရှားလှသော ရှေးဘုရင်မင်းများအနက် အနော်ရထာမင်းကြီး (၄၀၆-၄၃၉)သည် ရှေ့တန်းမှပါဝင်နေသည်ကို တွေ့နိုင်သည်။

နတ်ကိုးကွယ်မှုနှင့် စပ်လျဉ်း၍သိမှတ်စရာတစ်ခုမှာ ပုဂံသေဉ်လည်ကြောင်မင်းသည် မင်းမဟာဂီရိနတ်မောင်နှမကို ပုပ္ပါးတောင်တွင် နတ်ကွန်းနတ်နန်းပေး၍ ဘုရင့်အမိန့်တော်နှင့် နှစ်စဉ်နတ်ပွဲများအကြီးအကျယ် ပြုလုပ်စေသကဲ့သို့ အနော်ရထာမင်းကြီးသည်လည်း ကနဦးအစောပိုင်း၌ မန္တလေးမြို့၏ မြောက်ဘက်အရပ်၌ရှိသော တောင်ပြုံးဒေသတွင် ရွှေဖျဉ်းညီနောင်တို့အတွက် နတ်ကွန်းနတ်နန်းပေး၍ ဘုရင့်အမိန့်တော်နှင့် နှစ်စဉ်နတ်ပွဲများ အကြီးအကျယ် ပြုလုပ်စေခဲ့သည်။ ဤသည်မှာလည်း အကြောင်းရှိပါသည်။ တောင်ပြုံးအရပ်တွင် ဆုတောင်းပြည့်စေတီတည်စဉ်က အုတ်နှစ်ချပ်လပ်ခဲ့ရသည့် ကိစ္စအတွက် ရွှေဖျဉ်းညီနောင်တို့ ညီအကိုနှစ်ယောက် အကွပ်မျက်ခံခဲ့ရမှုနှင့်ပတ်သက်၍ အနော်ရထာမင်းကြီးသည် ညီအစ်ကိုနှစ်ယောက်အတွက် စိတ်မကောင်းဖြစ်ခဲ့ရ၍ နတ်စိမ်းများဖြစ်နေကြသည်ဆိုသောစကားကို ထောက်ထားလျက် ကရုဏာတရားဖြင့် ထိုညီအစ်ကိုနှစ်ယောက်အတွက် နတ်ကွန်းနတ်နန်းကိုပေး၍ ဘုရင့်အမိန့်တော်ဖြင့် နတ်ပွဲများကို နှစ်စဉ်အကြီးအကျယ်ပြုလုပ်ရန် ခွင့်ပေးလိုက်ခြင်းဖြစ်သည်။ သို့သော် နောင်အခါ၌ နတ်ကနားပွဲများသည် လိုအပ်သည်ထက်ပို၍ လွန်ကဲလာသောကြောင့် နတ်ကိုးကွယ်မှုများကို အကြီးအကျယ်နှိမ်နင်းခဲ့ရသည်။[၃၈]

အနော်ရထာမင်းကြီးသည် သတ္တိ၊ ဗျတ္တိနှင့်လည်းပြည့်စုံ၊ ရဲရင့်၊နိုင်မြဲသော ဘာသာသာသနာ စိတ်ဓာတ်ကလည်းပြည့်ဝ၊ တိုင်းပြည်နှင့် လူမျိုးအတွက် အနစ်နာခံရဲ၊ ကိုယ်ကျိုးစွန့်ရဲသော ကရုဏာနှလုံးသားမျိုးကလည်း ရှိထားပြီးသူဖြစ်၍ ဘုရားသာသနာတော်အတွက် လုပ်သင့်၊ လုပ်ထိုက်သည်များကို ကိုယ်ကျိုးမဖက်ဘဲ အကောင်းဆုံးဖြစ်အောင် လုပ်ပြနိုင်ခဲ့သော ရှင်ဘုရင်ကြီး

၃၈။ အမျိုးသားပညာဝန်ဦးဖိုးကျား။ ၃၅ မင်း၊ နှာ ၉၈။





တစ်ပါးဖြစ်သည်။ အရှင်အရဟံ၏ အဆုံးအမနှင့် ဩဝါဒတော်များကို ယုံကြည်စိတ်ဖြင့် ရိုရိုသေသေ လေးလေးစားစားခံယူလျက် ဓမ္မဝိနယနှင့်မညီသော အယူဝါဒများနှင့် လွဲမှားသော နတ်ကိုးကွယ်ပူဇော်ပသမှုများကို တရားတော်နှင့်အညီ နှိမ်နင်းနိုင်ခဲ့သူဖြစ်သည်။

အနော်ရထာမင်းကြီးသည် သာသနာတော် သန့်ရှင်း၊ တည်တံ့၊ ပြန့်ပွားရေးအတွက် ဆောင်ရွက်သင့်သည်များကို တစ်ပေါင်းတည်းဆောင်ရွက်နိုင်ခဲ့သည်။ဥပမာ-ဘိုး၊ ဘေး၊ဘီ၊ ဘင်၊ ရှင်ဘုရင်များ လက်ထက်က အကြွင်းအကျန်များဖြစ်ကြသော အရည်းကြီးဂိုဏ်းသား အရည်းကြီးရဟန်းများကိုလည်းကောင်း။ အရည်းကြီးဝါဒနှင့်ဆိုင်သော ကိုးကွယ်မှုဓလေ့ထုံးစံနှင့် ကျင့်ထုံးများကိုလည်းကောင်း၊ မိစ္ဆာဖလာဆိုင်ရာ နတ်ကိုးကွယ်မှုများကိုလည်းကောင်း နှိမ်နင်းနိုင်ခဲ့သည်။ ဤသို့သတ္တိရှိရှိဖြင့် ဆောင်ရွက်နိုင်ခြင်းသည် အနော်ရထာမင်းကြီး၏ တိုင်းပြည်နှင့်လူမျိုးအပေါ်မှာထားရှိသော ဖြူစင်သောစေတနာ၊ တိုင်းပြည်နှင့်လူမျိုးကို ကြီးပွားစေချင်သော မှန်မြတ်သည့်ဆန္ဒတွေကြောင့်ဖြစ်သည်။အနော်ရထာမင်းကြီး၏ ခိုင်မြဲသော ဤစိတ်ဓာတ်၊ဤစေတနာ၊ဤဆန္ဒတွေကြောင့် စင်ကြယ်မြင့်မြတ်သော ဗုဒ္ဓဘာသာတရားဖြင့် တိုင်းပြည်ကို ငြိမ်းချမ်းသာယာစေခဲ့သည်။ မှန်ကန်သောမှုကို ချမှတ်လျက် တိုင်းပြည်ကို တိုးတက်စည်ပင် သာယာဝပြောစေခဲ့သည်။ စစ်မှန်သောဘာသာတရားကို ပုဂံပြည်သူတို့၏ နှလုံးသားထဲဆီသို့ရောက်အောင် ဆောင်ရွက်ပေးနိုင်ခဲ့သည်။ ထိုခေတ်ထိုအခါက ပုဂံပြည်သူတို့၏ အယူသီးလှသော ကိုးကွယ်မှုများကို အကြမ်းမဖက်သောနည်းဖြင့် အနော်ရထာမင်းကြီး ကိုင်တွယ်ဖြေရှင်းပုံတို့သည်လည်း တကယ်ပင်အတုယူစရာဖြစ်သည်။ အဲဒီခေတ် အဲဒီအချိန်က ပုဂံပြည်မှာဖြစ်ပျက်နေသော အနေအထားတစ်ခုကို စာမျက်နှာလှန်၍ ပြန်လည်ကြည့်ရှုသုံးသပ်ကြည့်မည်ဆိုလျှင် -

ထိုအခါက လူတို့သည် မိမိတို့၏အိမ်ရှေ့တွင် နတ်အိမ်ငယ်များဆောက်လုပ်၍ နတ်ရုပ်များသွင်းထားကာ နေ့စဉ်မပြတ် အစားအစာတင်သပူဇော်လေသည်။ ထိုအခါက မောင်တင့်တယ်နတ်မောင်နှမနတ်များ ထင်ရှား

ခေတ်စားသောအခါတည်း။ ထိုအခါ အနော်ရထာမင်းသည် မင်းမိန့်ဖြင့် ထိုနတ်အိမ်တို့ကို ဖျက်စေ၍ နတ်ရုပ်တို့ကို သံကြိုးဖြင့် စုရုံးချည်တွဲကာ ယခုပုဂံရွှေစည်းခုံဘုရားတစ်နေရာ၌ စုထားလေသည်။ ယခုတိုင် ရင်ပြင်တော်၏တစ်ထောင့်တွင် '၃၇'မင်း နတ်များရှိလေသည်။[၃၉] လူတို့သည် မင်းမိန့်ကို မတော်လှန်ဘဲ လိုက်နာကြပြီးနောက်၊ မိမိတို့အိမ်တွင်း၌ အုန်းသီးများဆွဲကာ နတ်တို့၏ ကိုယ်စားအဖြစ်ဖြင့်လည်းကောင်း၊ ပသပူဇော်ခြင်းအဖြစ်ဖြင့်လည်းကောင်း ကိုးကွယ်ပူဇော်ပသထားကြလေသည်။[၄၀]

ထိုမှတစ်ပါးလည်းရှေးကျသော တောင်သူကြီးမင်း(၂၉၃-၃၂၆)လက်ထက်လောက်က ထုလုပ်ကိုးကွယ်သော ဘုရားမဟုတ်၊ နတ်မဟုတ် အရုပ်များ။ အခြားနတ်ရုပ်များတို့ကိုလည်း အနော်ရထာမင်းက စုရုံးသိမ်းလှောင်ထားလေ

၃၉။ ရင်ပြင်တော်၏တစ်ထောင့်တွင်'၃၇'မင်းနတ်များရှိသည်ဆိုရာ၌ ရွှေစည်းခုံစေတီ၏ အရှေ့တောင်ထောင့်ကို ဆိုလိုပါသည်။ အဆောက်အအုံအဝင်ဝ၌ "ဘိုးတော်သိကြားနှင့် '၃၇'မင်းနတ်နန်း" ကမ္ပည်းရေးထိုးထားသော်လည်း ယနေ့ခေတ်၌ စင်စစ်တွေ့ရှိရသော နတ်ရုပ်စာရင်းမှာ '၂၉'ပါးသာ ရှိပြီး၊ နတ်စာရင်းအရေအတွက်မှာ '၃၃'ပါးမျှသာရှိသည်။ သို့သော် ယခုတွေ့ရှိရသော နတ်ရုပ်များမှာ သေးသေးကွေးကွေးနတ်ရုပ်လေးများသာဖြစ်၍ အချို့နတ်ရုပ်များမှာ အနော်ရထာမင်း၏ အမိန့်တော်ဖြင့်ထားရှိခဲ့သော မူလနတ်ရုပ်များ ပျောက်ဆုံးသွားခဲ့၍ နောင်အခါမှ တစ်ဦးတစ်ယောက်ကသော်လည်းကောင်း၊ သက်ဆိုင်ရာများမှသော်လည်းကောင်း အစားပြန်ထည့်ထားခဲ့သော နတ်ရုပ်များသာ ဖြစ်ဟန်ရှိသည်ဟု ယူဆရပါသည်။ အဆောက်အအုံမှာလည်း သဘာဝမိုးဒဏ်၊ လေဒဏ်ကြောင့်သော်လည်းကောင်း၊ စစ်ဘေးစစ်ဒဏ်ကြောင့်သော်လည်းကောင်း ပျက်စီးသွား၍ အသစ်ပြန်လည်ဆောက်တည်ထားဟန်ရှိပြီး၊ အာရုံခံတန်ဆောင်းငယ်နှင့်တူသော အလျား(၅)ခန်း၊ အနံ(၂)ခန်း (အလျား ၅၀ ပေ၊အနံ ၂၀ ပေခန့်)ဖြင့် တည်ဆောက်ထားသော တစ်ထပ်အဆောက်အအုံငယ်တစ်ခုကို တွေ့ခဲ့ရသည်။

၄၀။ ဤအချက်ကိုထောက်ရှုလျက် "မြန်မာ့ရိုးရာဓလေ့များ၌ ဘယ်အချိန်ကစတင်ပြီး နတ်အုန်းသီးများကို အိမ်တွင်း၌ချိတ်ဆွဲ၍ မင်းမဟာဂီရိအား ပူဇော်ပသမှုများပြုလုပ်ခဲ့ကြသနည်း"ဟု တစ်စုံတစ်ယောက်ကမေးလာသော် သင့်တော်သောအဖြေကိုပေးနိုင်ရန် ခိုင်လုံသောအထောက်အထားဟု ဆိုရပေမည်။





သည်။ ထိုလှောင်ထားရာကား ယခုတိုင် ပုဂံတွင်ရှိသော နတ်လှောင်ကျောင်းပင်ဖြစ်သည်။[၄၁] ထိုနတ်လှောင်ကျောင်းကို တောင်သူကြီးမင်း တည်သည်ဟု အဆိုရှိသည်။ ဤကျောင်းမှာ ဟိန္ဒူဘုရားကျောင်းပုံဖြစ်၍ ဗိဿနိုးနတ်မင်းအား ဆောက်လုပ်ပူဇော်ဟန်ရှိလေသည်။ အပြင်ဘက်က ထိုနတ်ကြီး၏ ဖြစ်တော်စဉ် ၁၀ ရုပ်ကို ကျောက်ရုပ်များ ထုလုပ်ထားရာ ၉ ခုမြောက်အရုပ်မှာ ရှင်တော်ဂေါတမဘုရားရုပ်ပုံ ဖြစ်လေသည်။[၄၂]

"နတ်လှောင်ကျောင်း" ဟူ၍လည်းကောင်း၊ "နတ်လျှောင်းကျောင်း" ဟူ၍လည်းကောင်း အမည်တွင်ခဲ့သော ဟိန္ဒူဘုရားကျောင်း၏ အထည်ကိုယ်သည် မူလလက်ရာများအတိုင်းသာ တည်ရှိနေဆဲဖြစ်ပြီး၊ ကျောင်းတော်၏ရှေ့မျက်နှာစာမှာ ဘုရားနှင့်ဆက်စပ်လျက်ရှိသော အုတ်ခုံကို တွေ့မြင်နေရသေး၍ ရှေးယခင်အခါများက ထိုနေရာတွင် ဟိန္ဒူများဝတ်ပြုရာ အာရုံခံတန်ဆောင်းတစ်ခုရှိနိုင်ကြောင်း ခန့်မှန်းသိရှိနိုင်သည်။ ထိုဘုရားကျောင်းနှင့် ကပ်လျက်မြောက်ဘက်အရပ်တွင် "နတ်လှောင်ကျောင်း" ဟူသော ခေါင်းစီးဖြင့် ကမ္ပည်း

၄၁။ "နတ်လှောင်ကျောင်း" သို့မဟုတ် "နတ်လျှောင်းကျောင်း"ဟု အမည်တွင်သော ဟိန္ဒူဘုရားကျောင်းသည် ညောင်ဦးရွှေစည်းခုံဘုရား၏ အရှေ့တောင်ထောင့်အရပ်တွင်တည်ရှိသော "၃၇ မင်းနတ်နန်း"နှင့် တခြားစီဖြစ်ပြီး၊ ရွှေစည်းခုံစေတီကြီး၏ အနောက်တောင်ထောင့်အရပ် (၄)မိုင်ခန့်အကွာအဝေးမှာတည်ရှိသော ပုဂံသဗ္ဗညုဘုရား၏ အနောက်ဘက် (၁)ဖာလုံခန့်တွင် တည်ရှိသည်။ ပုဂံမြေမှာကြီးပြင်းလာခဲ့သော မောင်ကြည်စိုး(ကားမောင်းသူ)၏ ပြောပြချက်အရ သူငယ်စဉ်က နတ်လှောင် ကျောင်းအတွင်း၌ ပါးစပ်ပြဲပြဲ၊ မျက်လုံးပြူးပြူးနှင့် လျှာထုတ်လျက်ရှိသော နတ်ရုပ်အချို့(၁၅၊၂၀ရုပ်ခန့်)ကို တွေ့ခဲ့ရသေးကြောင်း ပြောပြပါသည်။ သို့သော်ယခုအခါ ထိုနတ်လှောင်ကျောင်းလိုဏ်ဂူအတွင်း၌ လေးဖက်လေးတန် ထုလုပ်ထားသော ဗိဿနိုးနတ်မင်း၏ ရုပ်တုများ (နတ်ရုပ် ၄-ခု)မှအပ အခြားဘာနတ်ရုပ်မျှ မတွေ့ရတော့ပေ၊ လိုဏ်အဝင်ဝ၌ ထုလုပ်ထားသော ဗိဿနိုးနတ်မင်း၏ လျောင်းနေဟန် နတ်ရုပ်ထုကို အစွဲပြု၍ ထိုကျောင်းကို နတ်လျှောင်းကျောင်းဟုလည်း အမည်တွင်ကြောင်း ပုဂံသားတို့ထံမှ လေ့လာသိရှိခဲ့ရသည်။

၄၂။ အမျိုးသားပညာဝန် ဦးဖိုးကျား။ ၃၇ မင်း။ နှာ ၁၃၀-၁၃၁။

ထိုးစိုက်ထူထားသော ကျောက်စာတိုင်တစ်ခုကိုလည်း တွေ့ရှိရသည်။ ကျောက်စာတိုင်တွင် ရေးထိုးထားသည့်စာများမှာ အောက်ပါအတိုင်းဖြစ်သည်-

ပုဂံရှိ ဗြာဟ္မဏာဝင် ဟိန္ဒူဝါဒ ဗိဿနိုးကိုးကွယ်ဝင် တိုင်းရင်းသားများ ဝတ်ပြုရာ ဘုရားကျောင်းပင်ဖြစ်၏။ ရှေ့ဆောင်နှင့် အပြင်နံရံရှိခဲ့ကြောင်း လက်ရှိနံရံအပေါ်ပိုင်းတွင် ပေါင်းကူးအစအနများ ကျန်ရှိနေသည့်အထောက် အထားတွေ့ရှိနိုင်ပါသည်။ ဘေးပတ်လည်မုတ်တပ် အချိုင့်များအတွင်းတွင် ဗိဿနိုးနတ်မင်း၏ ဖြစ်တော်ပေါင်း အဝတာရ ကိုယ်ပွားရုပ်တုများ ကျန်ရှိပါသည်။[၄၃]

အနော်ရထာမင်းကြီး၏ ဘုရားသာသနာပေါ်၌ ထားနိုင်သော စိတ်ထားမျိုး၊ ရတနာသုံးပါးအပေါ်၌ ဉာဏ်ဖြင့်သက်ဝင်ယုံကြည်မှုမျိုးသည် ပြော၍မပြီး၊ ချီး၍မကုန်နိုင်အောင်ရှိလှသည်။ အနော်ရထာမင်းကြီး၏ ကျေးဇူးတရားတို့သည် မြန်မာပြည်သူတို့အတွက် ပေးဆပ်၍ မကုန်နိုင်လောက်အောင် ပင်ရှိနေသည်။ ဗုဒ္ဓတရားတော်နှင့်အညီ စစ်မှန်သောအကျင့်မှန်၊ ဖြူစင်သော အယူမှန်တို့ကို မြန်မာပြည်သူပြည်သားတို့အား ကျင့်ကြံပွားများအားထုတ်ခွင့် များရအောင် ကူညီဆောင်ရွက်ပေးနိုင်ခဲ့သော အနော်ရထာမင်းကြီး၏ ကျေးဇူး တရားတို့ကို နောင်းခေတ်လူတို့ ဘယ်ပုံဘယ်နည်းဖြင့် ပြန်လည်၍ ကျေးဇူးပေး ဆပ်သင့်သည်ကို သိချင်မှ သိကြပေမည်။

မြန်မာရာဇဝင်မှာ အကျိုးမများလှသော နတ်ကိုးကွယ်မှုများကို တိုင်းပြည်နှင့် လူမျိုး၊ ဘာသာနှင့်သာသနာအတွက် ထိထိရောက်ရောက် နှိမ်နှင်း ပေးနိုင်ခဲ့သော ရှင်ဘုရင်များနှင့် သမိုင်းကြောင်းများကို ပြန်လည်သုံးသပ် လေ့လာကြည့်ရှုသောအခါ အနော်ရထာမင်းကြီးတစ်ပါးတည်းတော့ မဟုတ်ပါ။ ဟံသာဝတီဆင်ဖြူရှင်ဟု အမည်တွင်ခဲ့သော ဘုရင့်နောင်မင်းကြီး(၉၁၂-၉၄၃)

၄၃။ Feb. 3, 2007 နေ့က ပုဂံတွင်ရောက်ခဲ့စဉ်က နတ်လှောင်ကျောင်း အနီးတွင် စိုက်ထူထားသော ကျောက်စာတိုင်မှာ ကမ္ပည်းရေးထိုးထားသော စာတန်းကို ရေးကူးတင်ပြထားပါသည်။





လည်း တစ်ပါးအပါအဝင်ပင်ဖြစ်သည်။ ဤဘုရင့်နောင်မင်းကြီးလက်ထက်မှာ မြန်မာနိုင်ငံတွင် နတ်ကိုးကွယ်မှုများသည် အတော်ကြီးကို ဆိုးဝါးလာပြန်သည်။ ဤအခြေအနေများကို တွေ့နေရ၊ မြင်နေရသော ဘုရင့်နောင်မင်းတရားကြီး သည်လည်း တိုင်းပြည်နှင့်လူမျိုး၊ ဘာသာနှင့်သာသနာအတွက် အမြော်အမြင် ကြီးကြီးဖြင့် နတ်ကိုးကွယ်သူတွေကို ထိထိရောက်ရောက် နှိမ်နင်းပေးခဲ့ရပြန် သည်၊ထိုခေတ်၊ထိုအခါတုန်းက နတ်ကိုးကွယ်မှုနှင့်စပ်ပြီး ဖြစ်ပျက်နေပြန်သည်က-

ပုဂံ၊ ရွာသာ၊ စလေ၊ ပုခန်းငယ်၊ သရေခေတ္တရာ(?) သေရောက်စသော အရပ်တစ်ပိုက်၌ ပုပ္ပါးနတ်အား(မင်းမဟာဂီရိအား) နှစ်စဉ် ပွဲလမ်းကြီးစွာပြု၍ ကျွဲဖြူ၊ နွားဖြူ ဆိတ်ဖြူ၊ ဝက်၊ ကြက်များစွာသတ်၍ သေအရက်နှင့်တကွ တင်ပပူဇော်ကြ လေသည်။ လူတို့လည်း သောက်စား၊ မူးယစ်၊ အလွန်ကြမ်းတမ်းကြသည်။ ဤသို့အသက်သတ်နှင့် သေအရက်စသည် တင်မြှောက်၍ နတ်ကိုးကွယ်ခြင်းကို ဘုရင့်နောင်သည် မင်းမိန့်ဖြင့် နိုင်နင်းစွာ တားမြစ်ဖျက်ဆီးလိုက်သည်။[၄၄]

မြန်မာရာဇဝင်၌ နောက်ပိုင်းမင်းဆက်များဖြစ်ကြသော အင်းဝ အနောက်ဘက်လွန်မင်းတရားကြီး(၉၆၇-၉၉၈)နှင့် အင်းဝနောက်ဆုံးမင်းဆက် ဟံသာဝတီပါမင်းတရားကြီး (၁၀၉၅-၁၁၁၃)တို့၏ လက်ထက်များ၌လည်း မြို့တွင်းမြို့ပြင်ရှိ နတ်ရုပ်၊ နတ်ကွန်း၊ နတ်နန်း၊ နတ်အိမ်တို့ကို သိမ်းနုတ်၍ နတ်တို့ကို နှိမ်နင်းနိုင်ခဲ့ကြောင်း သမိုင်းကြောင်းများအရ သိနိုင်သည်။

ရှေးမြန်မာမင်းများသည် ကိုယ်ကျိုးစွန့်လျက် သတ္တိ၊ ဇွဲတွေဖြင့် နတ် ကိုးကွယ်မှုများကို ပြည်သူတို့၏ အကျိုးစီးပွားအတွက် မင်းမိန့် မင်းအာဏာဖြင့် နှိမ်နင်းသွားခဲ့ကြသလို၊ ရှေးရှေးစာဆို ကဝိအကျော်အမော်တို့သည်လည်း ကလောင်လက်နက်ဖြင့် ပြည်သူတို့အား အသိတရားများကို တိုးပွားစေခဲ့ကြ သည်။ ထိုကဝိစာဆိုပညာရှင်များတို့တွင် အင်းဝခေတ်စာဆိုအကျော် အရှင် မဟာရဋ္ဌသာရဆရာတော်သည် တစ်ပါးအပါအဝင်ဖြစ်ခဲ့သည်။ ဗုဒ္ဓဘာသာဝင် ပြည်သူ၊ပြည်သားများအပေါ် နတ်ကိုးကွယ်မှုနှင့်စပ်လျဉ်း၍ အယူမတိမ်းစောင်း

၄၄။ အမျိုးသားပညာဝန်ဦးဖိုးကျား၊ ၃၇ မင်း၊ နှာ ၁၃၃။

စေလိုသော အရှင်မဟာရဋ္ဌသာရဆရာတော်သည် မှားယွင်းသော ကိုးကွယ်မှုမျိုးကို စွန့်နိုင်ခြင်း၊ ပယ်နိုင်ခြင်းမျိုးဆိုသည်မှာ သတိတရား၊ အသိတရားရှိသူတို့သာ စွမ်းနိုင်ကြ၍ မြန်မာပြည်သူ၊ ပြည်သားတို့အား သတိတရားရပြီး၊ အသိတရားများရှိစေလိုသော ဆန္ဒမွန်ဖြင့် ဘူရိဒတ်ဇာတ်ပေါင်းခန်းပျို့မှာ အောက်ပါအတိုင်း သတိပေးဆုံးမတော်မူခဲ့ပါသည် –

ထိုမှတစ်ပါး၊ နတ်ဝင်များမူ၊ ထင်ရှားသည့်၊ သေသောပါက၊ အယူမလွဲ၊ နတ်ဖြစ်မြဲဟု၊ ဝမ်းထဲပြွတ်ပြွတ်၊ မှတ်ဘိရကား၊ ဗူးကရားနှင့်၊ မှန်းထားမည်ရည်၊ နတ်အိမ်တည်၍၊ အကြည်အညို၊ နတ်ကိုချည်းသာ၊ လုံးပန်းရှာ၏၊ ရတနာသုံးပါး၊ အမြတ်အားမူ၊ များများမယုံ၊ အာရုံနှောင့်နှေး၊ နှစ်ခွတွေးလျက်၊ နာရေးဖျားတာ၊ ရောက်သောခါလည်း၊ ကြမ္မာဘုံဟောင်း၊ အိမ်မကောင်းကို၊ မြဲကြောင်းပင့်ကူ၊ ထောက်တို့ဟူသား၊ အလှူသီတင်း၊ ဆည်းပူးခြင်းကို၊ စင်းစင်းမပြု၊ နတ်ကုစုန်းရှယ်၊ အကယ်ကယ်သို့ ရယ်ဖွယ်ဘို့ကြီး၊ မရှက်သီးဘဲ၊ ကနားပွဲနှင့်၊ ဝတ်လဲဖြူနီ၊ ပန်းသီးပန်းနှစ်၊ ဆင်ကာရစ်လျက်၊ လက်ရှစ်လက်ဝန်း၊ တဖျင့်သန်းတည့်၊ သွမ်းမှုန်းမသိ၊ မျက်စိသံလည်၊ နတ်ရူးသည်ဟု၊ မတည်မတ့်၊ လွှင့်ပုံ့နှလုံး၊ သူမိုက်ထုံးလည်း၊ စွဲသုံးလေ့လာ၊ မကျင့်ရာသည့်၊ မိစ္ဆာယောင်ယိယောင်တမ်းတည်း။[၄၅]

အဝိဇ္ဇာမာတ်ခံ အားကြီးလှသော လူသားတို့၏ မှားယွင်းသော ယုံကြည်ကိုးကွယ်မှုမျိုးတို့သည် လူတို့၏ မှားယွင်းသော အယူအမြင်များနှင့် သက်ဆိုင်နေသည့်အတွက်ကြောင့် ထိုအယူမျိုးကို နှိမ်နင်းနိုင်ဖို့ဆိုသည်မှာ လွယ်ကူလှသည်တော့မဟုတ်ပါ။ သို့သော် အနော်ရထာမင်းကြီးနှင့် ရှေးရှေးက ဗုဒ္ဓဘာသာဝင်မင်းများသည် စစ်မှန်သောသဒ္ဓါတရားဖြင့် ဗုဒ္ဓ၏ အဆုံးအမများကို ဉာဏ်နှင့်ယှဉ်ပြီး သက်ဝင်ယုံကြည်ထားပြီးဖြစ်၍ နတ်ကိုးကွယ်ခြင်းသည် အယူမှားကို ဖြစ်စေခြင်း၊ အကျိုးမဲ့များကို ဖြစ်စေခြင်းစသော အကြောင်းများကြောင့် ပြည်သူတို့၏ အကျိုးစီးပွားအတွက် ဆောင်ရွက်သင့်၊ ဆောင်ရွက်ထိုက်

၄၅။ အရှင်မဟာရဋ္ဌသာရ။ ဘူရိဒတ်ဇာတ်ပေါင်းခန်းပျို့၊ ပိုဒ်ရေ ၆၁။





သည်များကို ရဲရဲရင့်ရင့် ပြတ်ပြတ်သားသားပင် ဆောင်ရွက်ခဲ့ကြသည်။ဤကဲ့သို့ တိုင်းပြည်နှင့် လူမျိုး၊ ဘာသာနှင့်သာသနာအတွက် တရားလမ်းကြောင်းမှ မတိမ်းမစောင်းစေဘဲ ဆောင်ရွက်ခဲ့ကြပုံများသည် ဉာဏ်သတိနှင့်ယှဉ်၍ ကြည့်တတ်၊ မြင်တတ်၊ ဆင်ခြင်တတ်ကြမည်ဆိုလျှင် ထိုသူတို့၏ အသိဉာဏ်သည် အဝိဇ္ဇာမာတ်ခံအားကြီးလှသော သာမန်လူသားများထက် သာလွန်အရည်အချင်းရှိသော ကဝိလက္ခဏာရှိသူများဟု၍ ဂုဏ်ပြုရေးသားလိုပါသည်။ အနော်ရထာမင်းတို့လို စိတ်ထားမျိုး စာဖတ်သူတို့၏ နှလုံးသားမှာ အမြဲတမ်း ကိန်းအောင်းနိုင်ပါစေ။ မြတ်စွာဘုရား၏ တရားတော်များသည်လည်း တရားတော်များကို ရှိရှိသေသေ လေးလေးစားစားဖြင့် ကျင့်သုံးနေထိုင်ကြသော ဗုဒ္ဓဘာသာဝင်တို့အား ဘေးအန္တရာယ်များ မကျမရောက်နိုင်အောင် အမြဲတမ်း ကာကွယ်စောင့်ရှောက်နိုင်ပါစေ။



## အခန်း (၆)

### သတိတရားရှိသော လူသားတို့၏ စိတ်စွမ်းအား

နတ်များကို ကြောက်အားပိုလျက် ကြောက်ကြောက်လန့်လန့်ဖြင့် ကိုးကွယ်ပူဇော်ပသနေကြရသော ဗုဒ္ဓဘာသာဝင်မြန်မာလူမျိုးတို့သည် အားကောင်းလှသော ရိုးရာအစဉ်အလာများကို ပယ်နိုင်ဖို့ဆိုသည်မှာ သတိတရားလည်းရှိ၊ အသိတရားလည်းရှိပါမှ ဖြစ်နိုင်ပေမည်။ ဗုဒ္ဓတရားတော်အရ သတိတရားဆိုသည်မှာ ဘယ်သောအခါမှ ပိုသည်ဟူ၍ မရှိပါ။ သတိတရားသည် အစောင့်အရှောက်ပေးနိုင်သောတရားတို့တွင် အကောင်းဆုံးထဲက အကောင်းဆုံးတရားဟု ဆိုနိုင်ပေသည်။ မိမိကိုယ်ကိုလည်းကောင်း၊ သူတစ်ပါးကိုလည်းကောင်း အစောင့်အရှောက်များပေးရာမှာ အစွမ်းအာနုဘော်များ ကြီးမားလှသည့်အတွက်ကြောင့် သတိတရား၏တန်ဖိုးကို သိထားကြသော ကမ္ဘာအရပ်ရပ်ရှိ အသိဉာဏ်ရှိကြသော လူသားတို့သည် သတိအားကောင်းလာအောင် လေ့ကျင့်ခန်းပေးနေသော သင်တန်းများကို မမောနိုင်၊ မပန်းနိုင်ဘဲ တ[illegible]ရောက်နေကြသည်။ ထိုသင်တန်း၏ အမည်ကို မြန်မာလိုဖော်ပြရမည်ဆိုလျှင်

''စုပေါင်းတရားထိုင်ခြင်း''ဟု ခေါ်ဆိုနိုင်သည်။

သတိတရားအားကောင်းအောင် လေ့ကျင့်ထားကြသော ပုဂ္ဂိုလ်တို့သည် လူ့ဘောင်လူ့လောကထဲမှာပဲ နေကြရစေကာမူ နေ့စဉ်ဖြစ်ပျက်နေသော လောကသဘာဝတွေကိုလည်းကောင်း၊ လောကဓာတ်ခံပေါ်မှာ ငိုပြ၊ ရယ်ပြနေကြသော လောကလူသားတွေကိုလည်းကောင်း သတိယှဉ်ပြီး ကြည့်တတ်၊ မြင်တတ်ကြလေသည်။ မှားသည်ကို မှားမှန်း၊ မှန်သည်ကိုမှန်မှန်း သိနိုင်ပေသည်။ အမှားနည်းအောင် မိမိကိုယ်ကို မိမိစောင့်ရှောက်တတ်ခြင်း၊ သူတစ်ပါးကိုလည်း အမှားသံသရာမလည်ရအောင် စောင့်ရှောက်ကူညီတတ်ခြင်း စသော အကျိုးတရားများသည် သတိတရားရှိထားခြင်း၏ အကျိုးကျေးဇူးများပင် ဖြစ်သည်။

သတိနှင့်နေသောစိတ်သည် စွမ်းအားရှိ၏။ လုံခြုံ၏။ တစ်စုံတစ်ခုကို မလွှဲမကင်းသာ၍ ပြုလုပ်ရတော့မည်ဆိုလျှင် အမှား၊ အမှန်ကို ခွဲခြားသိနိုင်၏။ ''သင့်တော်၊ မတော်၊ အကျိုးရှိ၊ မရှိ'' ဉာဏ်နှင့်ယှဉ်၍ ခွဲခြားကြည့်နိုင်၏။ သတိတရားမှ ပေါက်ဖွားလာသော ဆင်ခြင်တုံ၊ မြော်မြင်တုံတရားတို့သည် အရာရာကို စဉ်းစဉ်းစားစားပြုလုပ်တတ်သည်။ ပြုလုပ်သည့် အမှုကိစ္စတို့၌ အမှားနည်းပြီး အမှန်တရားဘက်သို့ ရပ်တည်ရဲသည့် စိတ်ဓာတ်မျိုးကို မွေးဖွားပေးနိုင်၏။ သတိတရား အစောင့်အရှောက်ထားသောစိတ်သည် လောကလူသားတို့ရယူလိုသည့် သို့မဟုတ် ရောက်လိုသည့်ပန်းတိုင်များဆီသို့ အရောက်လှမ်းနိုင်သည့် ခွန်အားတွေကို မွေးဖွားပေးနိုင်၏။ ထိုခွန်အားတွေဖြင့် ဘဝအထွတ်အထိပ်သို့ အရောက်သွားနိုင်၏။ တိတိကျကျရေးရမည်ဆိုလျှင် သတိ၏စွမ်းအားတို့သည် ပြောပြ၍ မကုန်နိုင်အောင် များပြားလှ၏။

အဘိဓမ္မာတရားတော်အရ ကံ၊ စိတ်၊ ဥတု၊ အာဟာရတည်းဟူသော အကြောင်းတရားလေးပါးတို့သည် လူသားတို့အား ''ကောင်း ဆိုး နှစ်တန်''ကို ဖြစ်စေရန် ပြုပြင်စီမံပေးနေသည့် တရားများဖြစ်ကြသည်။ ဤလေးပါးတွင်လည်း စိတ်သည် အင်အားအကြီးမားဆုံးဖြစ်ပြီး၊ လူသားတွေကို လွှမ်းမိုးထားနိုင်၏။ အရာရာမှာ ဖြစ်ချင်တာလည်းစိတ်၊ မဖြစ်ချင်တာလည်းစိတ်၊ ကြောက်





တာလည်းစိတ်၊ မကြောက်တာလည်းစိတ်၊ မုန်းတာလည်း စိတ်၊ ချစ်တာလည်းစိတ်မို့ စိတ်မပါလျှင် ဘယ်အရာမျှ မပြီးနိုင်အောင်ဖြစ်နေ၏။ ပဋိစ္စသမုပ္ပါဒ်တရားတော်အရ အဝိဇ္ဇာဓာတ်ခံထားသော ကံသင်္ခါရတရားတွေကြောင့် စိတ်ဖြစ်၊ စိတ်ကြောင့် သတ္တဝါတွေဖြစ်၊ သတ္တဝါတွေနှင့်အတူ အကျိုး၊ အပြစ်တွေ၊ ထူးဆန်းသော ဖြစ်ရပ်တွေ၊ ထူးဆန်းသော ယုံကြည်မှုတွေသည် စိတ်ကိုမှီ၍ ဖြစ်နေရ၏။ အနှစ်ချုပ်ပြောရလျှင်တော့ စိတ်သည် အရာရာကို ဦးဆောင်နေ၏။ ဤအခြေအနေများကို သဗ္ဗညုတဉာဏ်တော်ဖြင့် ကောင်းစွာမြင်တော်မူသော မြတ်စွာဘုရားသည် ''စိတ္တေန နီယတေ လောကော – လောကကြီးကို စိတ်သည် ဦးဆောင်နေ၏'' ဟု ဟောတော်မူခဲ့၏။

လူသားတို့၏ စိတ်အမူအရာတွေသည် ဆန်းကြယ်လှ၏။ ဆန်းကြယ်ပုံကို သိနိုင်သောအရာတို့သည်လည်း များစွာရှိနေ၏။ ဥပမာ–တစ်မိတည်းမှ ပေါက်ဖွားလာသော အမွှာညီအစ်ကိုနှစ်ယောက်တို့သည် ရုပ်ချင်းချွတ်စွပ်တူကောင်းတူပေမည်။ သို့သော် စိတ်ထားချင်းကတော့ တစ်ယောက်နှင့်တစ်ယောက် မတူနိုင်။ အဘယ်ကြောင့်ဆိုသော် ထိုသူနှစ်ယောက်တို့၏ စိတ်သည် မတူကြသောကြောင့်ဖြစ်သည်။ တစ်ဖက်မှကြည့်လျှင် စိတ်သည်ခွန်အားကြီးတာမှန်သော်လည်း ထိုစိတ်ကိုပင် အလေ့အကျင့်ကောင်းတွေပေးပြီး စိတ်ထားတွေတူညီလာအောင် ပြုလုပ်ပေးမည်ဆိုလျှင် ပြုလုပ်လို့ ရနိုင်ပြန်၏။ ဘယ်လိုလုပ်မလဲလို့ တစ်ဦးတစ်ယောက်က မေးလာခဲ့လျှင် စိတ်ကိုယုံကြည်မှုတစ်ခုတည်းဆီသို့ ရောက်အောင်၊ သို့မဟုတ် အသိအမြင်တစ်ခုတည်းဆီသို့ ရောက်အောင် သတိတရားများဖြင့် ကြိုးစားပေးရမည်ဖြစ်၏။ ဥပမာ–လောကီရေးရာ အတန်းပညာကိုသင်ယူရာ၌ ပညာ၏ တန်ဖိုးကြီးမားမှုကို ကျောင်းသား၊ ကျောင်းသူများ စိတ်မှာ သတိတရားရှိလာအောင် လေ့ကျင့်ပေးရပါမည်။ ကျောင်းသား၊ ကျောင်းသူများသည် ကိုယ့်ကိုယ်ကို ကျောင်းသားဟူသော အမှတ်သညာ၊ ကျောင်းသူဟူသော အမှတ်သညာ၊ ထိုသညာမျိုး၊ ထိုသတိမျိုး ရှိလာကြပြီဆိုလျှင် ထိုကျောင်းသား၊ ထိုကျောင်းသူတို့သည် ပညာရေးနယ်ပယ်မှာ ပိုမို၍ထူးချွန်လာကြကြောင်းကို တွေ့ရသည်။

မမွေရေးရာ၌လည်း မငြိမ်မသက်ဖြစ်နေသော စိတ်ကို ငြိမ်သက်လာအောင်၊ စုစုစည်းစည်း ဖြစ်လာအောင် သတိအလေ့အကျင့်များကို ပြုလုပ်ပေးရပါသည်။ သတိအလေ့အကျင့်ကောင်းများ ဖြစ်လာအောင် လုံ့လစိုက်ပြီး အားထုတ်နေခြင်းမျိုးတွေကို သတိပဋ္ဌာန်တရား အားထုတ်သည်ဟု ဆိုကြသည်။ သတိအလေ့အကျင့်ကောင်းများကို ရရှိပြီးသော ယောဂီပုဂ္ဂိုလ်တို့၏စိတ်သည် အသိတရား၊ အမြင်တရားတူညီလာသည့်အတွက်ကြောင့် တရားအသိနှင့် စပ်ဆိုင်လာလျှင် စိတ်နေစိတ်ထားများလည်း တူညီနေကြသည်ကို တွေ့ကြရသည်။ ဥပမာ-လက္ခဏာရေးသုံးပါးကို ဝိပဿနာဉာဏ်ဖြင့် သိထားပြီးဖြစ်ကြသော ယောဂီများသည် နိဗ္ဗာန်ကိုရောက်လိုသော စိတ်ထားချင်းများလည်း တူညီလာကြောင်း သိနိုင်သည်။

မည်သို့ပင်ဖြစ်စေ လူသားများ၏စိတ်သည် တကယ်ပဲဆန်းကြယ်သည်ဆိုတာကို အထူးဖော်ပြဖွယ်ပင် လိုမည်မထင်။ ဆန်းကြယ်သည့်စိတ်ကြောင့် ယုံကြည်မှုအမျိုးမျိုးတွေ ဖြစ်နေရခြင်းသည်လည်း မယုံကြည်နိုင်လောက်အောင်ပင် ရှိနေပါ၏။ စိတ်ဦးဆောင်နေသော လူသားများ၏ ယုံကြည်စွဲလမ်းမှုတို့ကြောင့် ကြီးကျယ်သော အကျိုးကျေးဇူးတွေ ဖြစ်ထွန်းလာနိုင်သလို ကြီးမားသော ဆုံးရှုံးမှုမျိုးသို့လည်း ရောက်သွားနိုင်သည်။ ယုံကြည်စွဲလမ်းမှုတို့ကြောင့် ထူးဆန်းသောတန်ခိုး၊ ထူးဆန်းသောအံ့ဖွယ်တို့ကို ပြနိုင်ကြသလို၊ ယုံကြည်စွဲလမ်းမှုတို့ကြောင့် ကြောက်ရွံ့ထိတ်လန့်ဖွယ်ရာ၊ တုန်လှုပ်ချောက်ချားဖွယ်ရာတို့အပြင်၊ မယုံကြည်နိုင်လောက်အောင်ပင် ဝမ်းနည်းပက်လက်ဖြင့် ငိုကြရ၊ ရယ်ကြရသူများကိုလည်း တွေ့နိုင်သည်။ နောက်ဆုံးကုန်ကုန်ပြောရလျှင် ထိုယုံကြည်မှုစွမ်းအားဖြင့် တစ်ဖက်သားကို တက်ကြွရွှင်လန်းလာအောင် ဖမ်းစားနိုင်သလို၊ အထိတ်တလန့်ဖြစ်အောင်လည်း စိတ်ကို ချောက်ချားပြနိုင်သည်။

ဥပမာတစ်ခုဆိုကြပါစို့၊ ရွာထိပ်က ညောင်ပင်ကြီးမှာ တစ္ဆေ၊ သရဲတွေရှိတယ်လို့ ကလေးငယ်တစ်ယောက်အား ခြောက်လှန့်ထားခဲ့လျှင် တစ္ဆေ၊ သရဲတို့သည် ညောင်ပင်ကြီးမှာ တကယ်မရှိသော်လည်း ထိုကလေးငယ်၏





စိတ်ထဲမှာ တစ္ဆေ၊ သရဲတွေ တကယ်ပင်ရှိနေသည်ဟု စွဲလမ်းယုံကြည်မှုတွေ ဖြစ်သွားတော့သည်။ ထိုစွဲလမ်းယုံကြည်မှုတွေ ရှိသွားပြီဖြစ်သဖြင့် ထိုစွဲလမ်းနေသောစိတ်ကပင် လေတိုက်လို့ ညောင်ရွက်ပဲလှုပ်လှုပ်၊ ညောင်ကိုင်းပဲလှုပ်လှုပ် ထိုကလေးအတွက် တစ္ဆေခြောက်နေသည်ဟုပင် ထင်နေတော့သည်။ ထိုနည်းတူစွာပင် ရွာထိပ်က ညောင်ပင်ကြီးမှာ ရက္ခစိုးနတ်မင်းကြီးရှိတယ်။ ရွာစောင့်နတ်မင်းကြီးရှိတယ်။ ထိုနတ်မင်းကြီးတွေသည် သူတို့အား မကိုးကွယ်၊ မပူဇော်၊ မပသသူ ရွာသူရွာသားများကို ဖမ်းစားနေသည်၊ ပြုစားနေသည်ဟု ယုံကြည်ထားကြသော ရွာသူ၊ ရွာသားတို့အတွက် အစားမှားလို့ ဗိုက်နာတာကအစ ခေါင်းခဲတာပဲဖြစ်ဖြစ်၊ ခါးကိုက်တာပဲဖြစ်ဖြစ်၊ ဘာပဲဖြစ်ဖြစ် နတ်များဖမ်းစားထားသည်ဟု ထင်နေတတ်ကြသည်။ ''ဥပါဒါန်ကြောင့် ဥပဒ်ရောက်'' ဆိုသည့်အဖြစ်မျိုးတွေ ဖြစ်နေကြရတော့သည်။

''ဥပါဒါန်ကြောင့် ဥပဒ်ရောက်''နေကြရသော ဗုဒ္ဓဘာသာဝင်များ မြန်မာပြည်မှာ တစ်ပုံတစ်ပင်ကြီး ရှိနေပါသည်။ နတ်မတင်လို့၊ နတ်အုန်းသီးမဆွဲလို့ ခေါင်းပဲကိုက်နေရသလိုလို နတ်ဖမ်းစားလို့ အဖျားရောဂါပဲရနေရသလိုလို၊ နတ်ဖမ်းစားထား၍ မူးချင်၊ အော့ချင်၊ အန်ချင် ဖြစ်နေရသလိုလို။ ယုတ်စွအဆုံး လူငယ်ဘာသာဘာဝအရ သူတို့ချစ်မြတ်နိုးသော သူနှင့်လွဲခဲ့ရ၍ဖြစ်လာသော စိတ်သောကကြောင့် ငိုချင်၊ ရယ်ချင် ဖြစ်နေတာကအစ နတ်ဖမ်းစားထား၍ ဖြစ်ရတာပဲဟု ဥပါဒါန်ရောက်နေသူတွေကလည်း များမှများ၊ နတ်ကို မရိုမသေပြုမိ၍ နတ်ကိုက်ခံရသည်ဆိုသော ကောလာဟလသတင်းတွေကလည်း မြန်မာပြည်အရပ်ရပ်မှာ မကြားချင်မှအဆုံး။ ဒီဥပါဒါန်အစွဲရှိနေသူတွေကို ချေချွတ်နိုင်ဖို့ဆိုသည်မှာ ဉာဏ်သတိမရှိသူတို့အတွက် လွယ်ကူလှသည့်အရာတော့မဟုတ်ပေ။ သို့သော် သတိရှိပြီး၊ ဉာဏ်ယှဉ်နိုင်သူတို့အတွက်မှာတော့ ခက်လှသည်ဟုလည်း မဆိုသာပါ။ ထို့ကြောင့် သတိတရားဖြင့် ကိုယ့်ကိုယ်ကို စောင့်ရှောက်ပေးခြင်း၊ အသိတရားဖြင့် လမ်းမှန်ရောက်အောင် တည့်မတ်ပေးခြင်းမှလွဲ၍ အခြားနည်းလမ်းများရှိနိုင်မည်မဟုတ်ပါ။ ကိုယ့်ကိုယ်ကိုစောင့်ရှောက်လိုသော ပုဂ္ဂိုလ်မျိုးတွေကို သတိတရား

များ အားကောင်းလာအောင် သတိပဋ္ဌာန်တရားများ ပွားများအားထုတ်ကြရန် တိုက်တွန်းကြရပေမည်။

နတ်ကိုးကွယ်ခြင်းနှင့် ဆက်စပ်နေသောကိစ္စများထဲတွင် ''နတ်ပူးခြင်းဆိုသည့်ကိစ္စ''၊ ''နတ်ဖမ်းစားခြင်းဆိုသည့်ကိစ္စ''တို့မှာ စိတ်ပညာသဘောထားအရ စိတ်ဝင်စားဖွယ်ကောင်းလှသည်။ နတ်ပူးခံရသည့် အခါမျိုး၊ နတ်ဖမ်းစားခံရသည့်အခါမျိုးတွေမှာ ဖြစ်နေသောစိတ်နေ့,စိတ်ထားများကို ပညာရှင်များ သုတေသနပြုသင့်သည်။ ဗုဒ္ဓဘာသာကျမ်းစာများမှာ သတ္တဝါများကို မြင်နိုင်သော သတ္တဝါ၊ မမြင်နိုင်သောသတ္တဝါဟူ၍ အုပ်စုနှစ်စုခွဲခြားပြထားသည်။ မမြင်နိုင်သောသတ္တဝါတို့တွင် နတ်များအပါအဝင် တစ္ဆေ၊ သရဲများကိုလည်း မြန်မာတို့က နာနာဘာဝသတ္တဝါများဟု ပြောဆိုလေ့ရှိကြ၏။ ထိုနာနာဘာဝများသည် တစ်ခါတစ်ရံ အချင်းချင်းလည်း၊ လိမ်လည်လှည့်ပတ် ပြောဆိုတတ်ကြကြောင်း မွန်ပြည်နယ်၊ ချောင်းဆုံမြို့နယ်၊ ကမာကေးရွာ၊ ကမာကေးဘုရားတန်ဆောင်း၌ တစ်ခါတစ်ရံမှာသာ လာရောက်ပြီး သီတင်းသုံးလေ့ရှိသော ဆရာတော်ကြီးတစ်ပါးက အမိန့်ရှိဖူးသည်ကို အမှတ်ရနေမိသည်။

တစ်ခါက ကမာကေးရွာ၊ ဒီပါရုံကျောင်း၌ စာရေးသူသည် တစ်နှစ်ခန့် စာချဘုန်းကြီးလေးဘဝနှင့် နေထိုင်ခဲ့ဖူးသည်။ အဲဒီအခါက ကိုရင်ကြီးတစ်ပါးသည် ညကြီးမင်းကြီး သရဲဝင်ပူးသည်။ သရဲ, တစ္ဆေများကို နိုင်နင်းသည်ဟု ကျော်ကြားလှသော ဆရာတော်ကြီးတစ်ပါးက ပင်လယ်ကမ်းစပ်အနီး တောင်ကုန်းလေးပေါ်မှာတည်ရှိသော ဘုရားဓမ္မာရုံမှာ တိုက်တိုက်ဆိုင်ဆိုင် သီတင်းသုံးနေခဲ့သည်။ ထိုကဲ့သို့သတင်းစကားကို ကြားသိထား၍ ထိုကိုရင်ကြီးကို ချော့ခေါ်ပြီး စာချဘုန်းကြီးငယ်အချို့နှင့် ဆရာတော်ကြီးထံ သွားရောက်ခဲ့ကြသည်။ ဆရာတော်ကြီးကို အကျိုးအကြောင်းလျှောက်ထားပြီး အကူအညီတောင်းကြသောအခါ ဆရာတော်ကြီးက ထိုကိုရင်ကြီး အခြေအနေကိုကြည့်ပြီး ရေမန်းတစ်ခွက်တိုက် လိုက်သည်။ ရေမန်းရေတစ်ခွက်သောက်ပြီးသောအခါ တစ်ခဏချင်းဆိုသလိုပဲ ထိုကိုရင်ကြီးသည် အကောင်းပကတိဖြစ်သွားခဲ့သည်။ ခဏအကြာမှာ ထိုကိုရင်ကြီးကို ဖြစ်ပျက်သွားတဲ့ အခြေအနေများကို





အကြောင်းအကျိုး မေးကြည့်ကြတော့ ထိုကိုရင်ကြီးက သူဘာမျှမသိရတဲ့ အကြောင်းကို ပြောပြသည်။ ထိုအခါဆရာတော်ကြီးက စာရေးသူတို့အား အမိန့်ရှိခဲ့သည်မှာ ~

နာနာဘာဝများဟာ သူတို့၏ ဘဝအမှန်ကို ပြောခဲတယ်၊ တစ္ဆေကလည်း သူ့ကိုယ်သူ ညောင်ပင်စောင့်နတ်မင်းကြီးပါ။ ဒီကောင် ငါ့ကိုမရိုမသေလုပ်လို့ ဝင်ပူးတာပါ။ ငါ ဒီကောင်ကို မကျေနပ်ဘူး။ ဒီကောင် ငါ့ကို တောင်းပန်ရမယ်။ တောင်းပန်တဲ့အခါမှာလည်း အမဲသားတစ်ပိဿာနှင့်ပွဲတင်ရမယ် စသည်ဖြင့် ပြောတတ်ကြတယ်။ ထိုနည်းတူစွာပဲ နတ်ကလည်း သူ့ကိုယ်သူတစ္ဆေ၊သရဲ ပြောချင်ပြောတာ၊ အခု ဒီကိုရင်ကြီးကို ဝင်ပူးနေတာက နတ်လည်းမဟုတ်ဘူး။ သရဲလည်းမဟုတ်ဘူး။ တစ္ဆေလည်းမဟုတ်ဘူး။ ရွာသူပါ။ သူ့သမီးကို ကိုရင်က စိတ်မဝင်စားလို့ ကိုရင်ကို စိတ်အနှောင့်အယှက်ဖြစ်အောင် လုပ်တာပါ။ ရူးအောင်လုပ်တယ်ပဲ ဆိုကြပါစို့။ စိတ်မပူကြပါနဲ့။ ကိုရင်က ဘုန်းကံရှိပါတယ်။ သူတို့ ကိုရင်ကို ရူးအောင် မလုပ်နိုင်ကြပါဘူး။ [၄၆]

ပရိယာယ်ကြွယ်ဝလှသော နာနာဘာဝတို့၏ ဘဝအမှန်ကို ဘုရားမှလွဲ၍ မည်သူမျှအတိအကျ သိနိုင်မည်မဟုတ်ပါ။ ထို့ကြောင့် နတ်ဝင်သည်၊ နတ်ပူးသည်ဆိုသည့်ကိစ္စတွေမှာ နတ်က ကိုယ်ထဲကို တကယ်ဝင်တယ်၊ မဝင်ဘူး ဆိုတာကို ဘယ်သူမျှ အတတ်မပြောနိုင်ပါ။ သို့သော် တစ်ခုထူးခြားနေတာက နတ်ပူးခံနေရသူ၊ နတ်အကကို ကနေသူတို့၏ စိတ်ထဲမှာတော့ တစ်မျိုးတစ်မည် ဖြစ်နေတတ်သည်ဆိုသည့်ကိစ္စမှာ ထင်ရှားနေပြန်သည်။ ဖြစ်နိုင်ခြေရှိတာက နတ်ကနားပွဲများသို့ သွားရောက်၍ ကြည့်နေသူတို့၏ စိတ်သန္တာန်၌ နတ်တို့၏ အသုံးအဆောင်၊ နတ်တို့၏ အခြံအရံပစ္စည်းများသည် လူတွေ၏စိတ်ကို တစ်နည်းမဟုတ်တစ်နည်းဖြင့် ညို့ယူဖမ်းစားထားသည့်သဘောကို တွေ့နေ

၄၆။ စာရေးသူ၏ ကိုယ်တွေ့ဖြစ်ရပ်၊ မွန်ပြည်နယ်၊ ချောင်းဆုံမြို့နယ်၊ ကမာကေးရွာနှင့် တော်ကပိုးရွာနီးရှိ (အဲဒီအချိန်အခါက) ပင်လယ်ကမ်းစပ် တောင်ကုန်းပေါ်မှာတည်ရှိသော စေတီတော်ရင်ပြင်ဓမ္မာရုံ၌ ခေတ္တသီတင်းသုံးနေသော ဆရာတော်ကြီးတစ်ပါး၏ ဩဝါဒစကား။

ရခြင်းဖြစ်သည်။

ဥပမာ – နတ်ကနားပွဲ၊ နတ်ပွဲများ၌ နတ်စင်တွင် နတ်ရုပ်များ၊ နတ်အဝတ်အဆင် တန်ဆာများ၊ နတ်အဆောင်အယောင်များနှင့် နတ်အသုံးအဆောင်အမျိုးမျိုးတို့ကို ချိတ်ဆွဲပြသထားခြင်းသည်လည်း လူတို့၏စိတ်ကို ဖမ်းညို့ထားနိုင်ရန် အရေးကြီးသောအချက်တစ်ချက်ပင်ဖြစ်ကြောင်း ကောက်ချက်ချကြည့်နိုင်သည်၊ နတ်ကနားပွဲလာသူတို့သည် အရုပ်ကခပ်ဆိုးဆိုး၊ မျက်နှာက ခပ်ထန်ထန်ဖြစ်နေသော နတ်ရုပ်များ၊ နီနန့်နန့်၊ စိမ်းဖန့်ဖန့်အရောင်များ ခြယ်သထားသော နတ်ကိုယ်တော်များ၏ မျက်နှာများကို မဝံ့မရဲကြည့်ရင်း မြင်ကြရသည့် အာရုံများကြောင့် နတ်တို့တကယ်ပင်ရှိနေသည်ထင်သည့် အယူအဆဘက်သို့ စိတ်အာရုံများက မဝံ့မရဲရောက်နေတတ်ကြသည်။ နတ်ကတော်များဆီသို့လည်း စိတ်အာရုံများက မသိမသာ ညွှတ်နေတတ်ကြသည်။ ထိုလူတွေ၏ စိတ်တွေ ထိတ်ထိတ်ပျာပျာဖြစ်နေစဉ်မှာ လူတွေ၏ စိတ်ကို တက်ကြွစေနိုင်သော နတ်ဒိုး၊ နတ်ဆိုင်းများကို အကွက်ကျကျ မြိုင်မြိုင်ကြီးတီးပေးလိုက်သောအခါ ကြည့်နေသူတို့၏ စိတ်တွေသည် လှုပ်လှုပ်ရှားရှားတွေဖြစ်လာသည်။ အချို့များဆိုလျှင် ကြက်သီးတဖြန်းဖြန်းပင် ထနေတတ်ကြသည်။ ''အဲဒီအခါမျိုးတွေမှာ နတ်ကတော်တွေနှင့်အတူ ကချင်၊ ခုန်ချင်သောစိတ်တွေ ဖြစ်လာတော့တာပါပဲ''ဟု တစ်ခါက တောင်ပြုံးပွဲကို သွားရောက်ခဲ့ဖူးသူတစ်ယောက်က ပြောပြခဲ့ဖူးသည်။

တရားသတိ မရှိနိုင်ရာကြသေးသော လူသားတို့အတွက် ဤအခြေအနေမျိုးတွေသည် ဖြစ်လေ့ဖြစ်ထရှိနေသော သဘောတရားပင်ဖြစ်သည်။ ဥပမာ၊ စုန်း, ကဝေတွေကို နှိမ်နှင်းနိုင်သည်ဆိုသော ပယောဂဆရာတစ်ယောက်သည် သူ၏အိမ်မှာ လူရိုးများ၊ ဦးခေါင်းခွံများ၊ ဦးချိုများကို ချိတ်ဆွဲပြသထားရာ မြင်ရသူတို့အတွက် ကျောချမ်းစရာ၊ ထိတ်လန့်စရာ၊ ကြောက်မက်ဖွယ်ရာတို့ကို ဖြစ်သွားစေနိုင်သလို ထိုဆရာအပေါ်မှာလည်း စုန်း, ကဝေများကို တကယ်နှိမ်နင်းနိုင်သော ဆရာကြီးတစ်ဆူဟူ၍ အထင်ရောက်သွားတတ်ကြသည်။





ထိုနည်းတူစွာပင် နတ်က, ရာမှာ၊ သို့မဟုတ် နတ်ကနားပေးရာမှာ နတ်ဆိုင်းကို ပံ့ပိုးထားပြီး၊ ထိုနတ်ဆိုင်း၏ အတီးအမှုတ်၊ စည်းချက်ဝါးချက်တို့သည် လူတွေ၏စိတ်ကို လှုပ်လည်းလှုပ်ရှားနိုင်သလို၊ ချောက်လည်းချောက်ချားနိုင်သည်။ ဥပမာ၊ အရက်သည် လူ၏စိတ်ကို တွေဝေမေ့လျော့စေပြီး၊ ရူးသွပ်စေနိုင်သလို လူတစ်ယောက်၏ ကိုယ်အမူအရာ, နှုတ်အမူအရာကိုလည်း မထိန်းနိုင်၊ မသိမ်းနိုင်သောအဖြစ်မျိုးသို့ရောက်အောင် ပို့ဆောင်ပေးနိုင်သည်။ သဘောတရားတွေကို လေ့လာကြည့်ရှုသောအခါ နတ်ဆိုင်း၊ နတ်သီချင်းတို့၏ အတီးအမှုတ် ပယောဂများသည် လူသားတို့၏စိတ်ကို မည်ရွေ့မည်မျှ အတိုင်းအတာအထိ ဖမ်းညှို့နိုင်စွမ်းရှိသည် ဆိုသည်ကိုမူ နတ်သီချင်း၊ နတ်ဆိုင်းများကို နားထောင်ဖူးသော မြန်မာတစ်ယောက်အတွက် သိနိုင်ပါသည်။ နားမထောင်ဖူးသူများအတွက် နတ်ချော့၊ နတ်ပင့်၊ နတ်မြှောက်၊ နတ်တင်သီချင်းများကို နားထောင်ကြည့်ပြီး မည်မျှပါဝါရှိကြောင်း ကိုယ်တိုင်လေ့လာနိုင်သည်။

ဤမျှမကသေးပါ။ အတီး, အမှုတ်, အသံအမျိုးမျိုးတို့တွင် နတ်ဆိုင်းသံသည် အခြားအခြားသော ဆိုင်းသံတို့ထက် ပိုမို၍ စိတ်ကို လှုပ်ရှားချောက်ချားစေနိုင်သည်။ နတ်ဒိုး၊ နတ်ဆိုင်းတို့ကို ဂရုပြု၍နားထောင်ကြည့်ပါလျှင် နတ်ကို မယုံကြည်နိုင်သူများပင် လိုက်လှဲတုန်လှုပ်၊ ရိုးတိုးရွတအထိ ဖြစ်လာတတ်သည်။ သဘင်သည်, အကသည်တို့သည် တီးသံ မှုတ်သံကို ကြားရသောအခါ လက်လှုပ်ခြေလှုပ်ဖြစ်လာတတ်ကြသလို၊ လက်ဝှေ့သမားတို့သည်လည်း လက်ဝှေ့လေးခင်းဆိုင်းသံကို ကြားရလျှင် မနေနိုင်၊ မထိုင်နိုင်သည့် လက်ဝှေ့ထိုးချင်သော စိတ်များဖြစ်ပေါ်လာတတ်ကြသလို၊ နတ်ဒိုး နတ်ဆိုင်းသံများကို ကြားရသောအခါမှာလည်း က,ချင် ခုန်ချင်စိတ်များ ဖြစ်ပေါ်လာခြင်းသည် နတ်များ၏အစွမ်းကြောင့်မဟုတ်ဘဲ၊ ဆိုင်းတူရိယာ (ဂီတအနုပညာ)များ၏ အစွမ်းကြောင့် ဖြစ်သည်ဆိုတာကိုမူ မည်သူမျှ ငြင်းနိုင်မည် မဟုတ်ပါ။ ဆိုင်းတူရိယာ၏ စွမ်းပကားကား မည်မျှကြီးမားကြောင်းကို သိနိုင်ပါသည်။

နတ်ကိုးကွယ်မှုနှင့်စပ်၍ စေ့စေ့စပ်စပ် စူးစမ်းလေ့လာထားသော

အမျိုးသားပညာဝန် ဦးဖိုးကျားသည် တောင်ပြုံးပွဲနှင့် ရတနာ့ဂူနတ်ပွဲများသို့ ကိုယ်တိုင်သွားရောက် လေ့လာခဲ့ပြီး၊ စွမ်းပကားကြီးမားလှသော နတ်ဆိုင်းနှင့် ပတ်သက်ပြီး အကျိုးသက်ရောက်မှုများကို အောက်ပါအတိုင်း မှတ်တမ်းတင်ထားခဲ့သည် –

အရက်သေစာနှင့် ဆိုင်းတို့မှာ လူတို့စိတ်ကို လွတ်သွားအောင်ပြုတတ်ကြောင်း တွေ့ရလေသည်။ ထိုနတ်ပွဲ နတ်စင်ရှေ့တွင် များသောအားဖြင့် အရက်သေစာ ခပ်မူးမူးရှိသူတို့သည် ဆိုင်းကို တစ်မူးဖိုး၊ တစ်မတ်ဖိုးစသည် တီးပါဆို၍ ကခုန်ကြလေသည်။ ရှေးဦးစွာ နတ်ဆိုင်း ရိုးရိုးတီးသောအခါ ဆိုင်းအလိုက် ခုန်ပေါက်၍ ကြမ်းကြမ်းကကြသည်။ ဆိုင်းချခါနီး၌ ဆိုင်းသော့၍ တီးပေးလိုက်သောအခါ အလွန်ကြမ်းတမ်းစွာ ခုန်ပေါက်၍ကပြီး သတိမေ့လျော့သွားတတ်လေသည်။ ထိုအခါ အနီးရှိမိတ်ဆွေ၊ အစောင့် စသူတို့က ထိုသို့စိတ်လွတ်၍ မချုပ်တည်းနိုင်သူတို့ကို ဖမ်း၍ပွေ့ပိုက်လိုက်ရလေသည်။ လူစိတ်ပျောက်သလောက်ပင် ဖြစ်သွားရသည်။

ထို က,သူတို့သည် ယိုးဒယားအသွား တီးပေးသောအခါ ဖြည်းဖြည်းအေးအေးပင် ကကြသည်။ နတ်ဒိုးတီးပေးသောအခါ ခပ်ကြမ်းကြမ်းခုန်ပေါက်၍ ကကြသည်။ ဆိုင်းချခါနီး ဆိုင်းသော့၍ အကြမ်းဆုံးတီးပေးလိုက်သောအခါ လူစိတ်ပျောက်သွားလေသည်။ သို့မဟုတ် ပျောက်ခါနီးလောက် ဖြစ်သွားလေသည်။ ဤကိုထောက်၍ ဆိုင်းသည် နတ်ကိစ္စ၌ အရေးပါသော အချက်တစ်ခုဖြစ်ကြောင်း တွေ့ရသည်။ ထိုမှတစ်ပါးလည်း နတ်ဝင်သည်တို့မှာ အများအားဖြင့် မိန်းမများဖြစ်ကြသည်။ မိန်းမတို့စိတ်မှာ ယောကျ်ားတို့ထက် နုနယ်ကြသည်။ ယုံကြည်လွယ်သည်။ ကြောက်တတ်သည်။ သူတစ်ပါး၏အလို၊ အပြင်ပယောဂ၏ အလိုတို့သို့ လိုက်လျောလွယ်သည်။

စုပေါင်းကြည့်လိုက်သော် (၁) နတ်ရုပ်၊ နတ်တန်ဆာစသော ရုပ်ပါရုံအသိုင်းအဝိုင်း အခမ်းအနားများ၊ (၂) စိတ်ကိုလှုပ်ကြွစေတတ်သော အထိုးအမှတ်မျိုး၊ (၃) နတ်ဝင်သည်၏ ညွတ်ပြီးသောစိတ်၊ ယုံကြည်စိတ်၊ ဤအချက်တို့သည် ထိုနတ်ဝင်သည်၏စိတ်ကို မှုချပြုပြင် ဆွဲငင်သောအချက်တို့ စင်စစ်ဖြစ်





လေသည်။ နတ်အကယ်ဝင်ရောက်သည်၊ မဝင်ရောက်သည် အပထား၍ ထို (၃) ချက်တို့ကပင် နတ်ဝင်သည်တို့၏စိတ်ကို ထူးခြားစွာ ပြောင်းလဲဆွဲငင်နိုင်သည်ကား အမှန်ပင်ဖြစ်သည်။[၄၇]

ဤသို့ နတ်ဝင်သည်တို့သည် နတ်တို့ကို အခမ်းအနားများဖြင့် သိုက်သိုက်ဝန်းဝန်း နတ်ကနားများပေး၍ ရှေ့တန်းမှ နတ်တို့ကို ကိုးကွယ်ပူဇော်ပသနေကြသော်လည်း ထိုနတ်ဝင်သည်များ၊ နတ်ကတော်များသည် သူတို့ကိုယ်တိုင်မှာမူ နတ်တို့ကို တကယ်ယုံကြည်သည်၊ မယုံကြည်သည်ဆိုသည့်ကိစ္စကိုကား စဉ်းစားစရာတွေ အများကြီးဖြစ်ခဲ့ရသည်။ နတ်ဝင်သည်တို့သည် တကယ်ယုံကြည်၍ နတ်များကို ပူဇော်ပသနေခြင်းလော၊ သို့မဟုတ် စီးပွားရေးသဘောအရ အစားချောင်၍ နတ်တို့ကို ပူဇော်ပသနေခြင်းလော ဆိုသည့်ကိစ္စကိုမူ အတိအကျပြောရန် ခက်လှသည်။

တစ်ခါတစ်ရံ၌ ဖြစ်နေတတ်သည်မှာ နတ်ဝင်သည်တို့သည် နတ်တို့ကို ဗန်းပြပြီး စီးပွားရှာစားလိုမှုအတွက် နတ်တို့အား ကိုးကွယ်ဟန်ပြ၍ ပူဇော်ပသနေကြသော်လည်း နတ်ဝင်သည်များ ကိုယ်တိုင်ကမူ နတ်တို့ကို မယုံကြည်နိုင်ဘဲရှိနေသည်ကို တွေ့ရှိရပြန်သည်။ ဤသို့သော အခြေအနေမျိုးတွေကို ဉာဏ်နှင့်ယှဉ်၍ သိနိုင်ရန်၊ သတိပြုနိုင်ရန် အမျိုးသားပညာဝန် ဦးဖိုးကျားရေးသော သူ၏ '၃၇' မင်း စာအုပ်၌ အောက်ပါအတိုင်း ဖော်ပြထားသည်ကို တွေ့ရသည် –

ကျွန်ုပ်တို့နေရင်းအရပ် နီဗျာန်ရွာတွင် ဒေါ်ရောင်ခေါ် နတ်ဝင်သည် နတ်ကတော်ကြီးတစ်ယောက်ရှိဖူးသည်။ တစ်ခါသော် ၎င်း၏အိမ်ကို မီးလောင်ကျွမ်းလေရာ နတ်တို့သည် မကာကွယ်,မကူညီနိုင်ကောင်းလောဟု အိမ်ရှေ့မှ နေ၍ '၃၇' မင်းနတ်တို့ကို တစ်ဦးစီ၊ တစ်ဦးစီ နာမည်ကိုခေါ်ကာ ကျကျနနဆဲဆို ရန်တွေ့နေလေတော့သတည်း။[၄၈]

---

၄၇။ အမျိုးသားပညာဝန်ဦးဖိုးကျား။ ၃၇ မင်း။ နှာ ၉၅-၉၇။

၄၈။ အမျိုးသားပညာဝန်ဦးဖိုးကျား။ ၃၇ မင်း။ နှာ ၁၀၃။

ဤကဲ့သို့ နတ်တို့ကို ဆဲဆို၊ ရန်တွေ့ခဲ့သော နတ်ကတော်ကြီးကို နတ်များက ဖမ်းစားသည်ဆိုသည့် နောက်ဆက်တွဲသတင်းစကားကိုမူ မကြားရ၊ မသိခဲ့ရပေ။နတ်များသည် နတ်ကတော်ကြီးကို ကြောက်၍လော၊ ချစ်၍လော။ ထိုမေးခွန်းမျိုးကို မေးမည်ဆိုလျှင်လည်း မေးစရာပါပင်။ တစ်ခါတစ်ရံ နတ်ဆိုသည့် သတ္တဝါ(နတ်အမည်ခံသတ္တဝါ)တို့သည်လည်း လူတွေကို ပြန်ပြီးကြောက်ရသည့် အဖြစ်မျိုးတွေလည်း ရှိနေတတ်သည်။ လူက ကြမ်းပြသောအခါ နတ်များသည် ထိုလူမျိုးကို ပြန်ကြောက်ရသော သဘောမျိုးရှိ၍ ''လူကြမ်း နတ်ကြမ်းမခံနိုင်''ဆိုသည့် မြန်မာစကားပုံတစ်ခု ပေါ်လာခဲ့ဟန်ရှိသည်။ လူကြမ်းလာလျှင် နတ်ကြမ်းများ မခံနိုင်သည့် အညာအရပ်က စိတ်ဝင်စားစရာ အဖြစ်အပျက်လေးတစ်ခုကို ဤနေရာမှာ တင်ပြလိုက်ပါသည်။

တစ်ခါက ရွှေဘိုနယ်က ရွာတစ်ရွာမှာ ''မောင်မူး''ဟု ခေါ်သောအမူးသမားတစ်ယောက် ရှိခဲ့ဖူးသည်။ သူသည် အမြဲတမ်းလိုလို မူးရူးနေသဖြင့် သူ့ကို ရွာသားများက ''မောင်မူး''ဟု ခေါ်လို့လွယ်သည့် နာမည်လေးတစ်ခုကို ပေးထားခဲ့ကြသည်။ မောင်မူးနေသော ရွာနှင့်မနီးမဝေးမှာ ညောင်ပင်ကြီးတစ်ပင်ရှိပြီး၊ အဲဒီညောင်ပင်ကြီးအောက်မှာ နတ်ရုပ်ကြီးတစ်ရုပ်လည်း ရှိနေသည်။ အဲဒီနတ်ရုပ်ကြီးကို ရွာနီးချုပ်စပ်ရွာသူ၊ ရွာသားများက ကိုးကွယ်နေခဲ့ကြသည်။ ကိုးကွယ်နေရသည့် အကြောင်းရင်းကတော့ အဲဒီနတ်ရုပ်ကြီးအနီးမှာ မဖွယ်မရာပြုသော ရွာထဲက ကလေးပဲဖြစ်ဖြစ်၊ လူကြီးပဲဖြစ်ဖြစ် အဲဒီနတ်ရုပ်ကြီးက စိတ်ဆိုးပြီး လူတွေကို ဖမ်းစားနေသည်ဆိုသော သတင်းကြောင့်ပင်ဖြစ်သည်။ နတ်ရုပ်ကြီးအနီးမှာ ခင်းကြီး၊ ခင်းငယ်စွန့်သည့် နွားကျောင်းသား၊ ကျွဲကျောင်းသားကအစ မည်သူကိုမဆို အဲဒီနတ်ကြီးက ဖမ်းစားနေသည်ဆိုသော ကောလာဟလ သတင်းစကားတွေက ထွက်နေလေတော့ ရွာသူ၊ ရွာသားတွေသည် သူတို့၏ ကလေးတွေကအစ ရွာသူရွာသားတွေကို အဲဒီနတ်ကြီးက မဖမ်းစားရအောင်ဆိုပြီး ဘာမသိ၊ ညာမသိအဖြစ်မျိုးနှင့် ကိုးကွယ်ပူဇော်ပသနေခဲ့ကြသည်။

အဲဒီသတင်းကို မောင်မူးလည်း ကြားနေရသည်။ ဒါကြောင့် မောင်မူးသည် တမင်သက်သက် နတ်ရုပ်ကြီးနားလာပြီး ခင်းကြီး၊ ခင်းငယ်





စွန့်သည်။ ဒါပေမယ့် ဒီလိုပြုမူသည့်အတွက်ကြောင့် သူ့ကို ဘယ်နတ်ကမှ လာပြီး မဖမ်းစားပါ။ ဒီတော့လည်း မောင်မူးက ရွာသူ၊ ရွာသားတွေသည် ထင်မိထင်ရာစွဲလမ်းပြီး ဒီနတ်ရုပ်ကြီးကို တန်ခိုးရှင်နတ်ကြီးတစ်ပါးထင်ပြီး ကိုးကွယ်နေကြတာပဲဟု သိရှိသွားပြီး၊ ဒီနတ်ရုပ်ကြီးကို ဆွဲလှဲပစ်ဖို့ အကြံထုတ်သည်။ ဒါပေမယ့် ရွာသားများသိရှိသွားလျှင် သူ့ကိုဝိုင်းပြီး အပြစ်တင်ကြမှာမို့ နတ်ရုပ်ကြီးကို ဆွဲလှဲပစ်ဖို့ အကြောင်းမခိုင်လုံသေး၍ အကြံမရဖြစ်နေခဲ့သည်။ နောက်ဆုံးတော့ အကြံတစ်ခုရသွားခဲ့သည်။

တစ်နေ့မှာ ညနေစောင်း ကျွဲကျောင်းသား၊ နွားကျောင်းသားများ အိမ်သို့ ပြန်သွားကြသည့်အခါ ညောင်ပင်ကြီးအနီးမှာ အဖော်ကွဲပြီး ကျန်နေခဲ့သော ကျွဲပေါက်လေးတစ်ကောင်ကို မောင်မူးသွားတွေ့သည်။ အကြံတစ်ခုရပြီး အဲဒီကျွဲပေါက်ကလေးကို ချော့ဖမ်းသည်။ နောက်ပြီး အဲဒီကျွဲပေါက်ကလေးကို နတ်ရုပ်ကြီး၏ခါးမှာ ကြိုးနဲ့ခိုင်ခိုင်ချည်ထားခဲ့ပြီး၊ နတ်မင်းကြီးကိုလည်း ရှိရှိသေသေနှင့် ''အရှင်နတ်မင်းကြီး၊ ကျွန်ုပ်မှာ အရှင်နတ်မင်းကြီးကို ပူဇော်ပသရန် သား၊ ငါး စသည် တစ်စုံတစ်ရာမရှိပါ၍ ဤကျွဲပေါက်ကလေးကိုပဲ အရှင်နတ်မင်းကြီးကို ပူဇော်ပသခဲ့ပါတယ်''ဟု ပြောပြီး ကျွဲပေါက်ကလေးကို နတ်ရုပ်ကြီး၏ခါးမှာ ကြိုးနှင့်ချည်ပစ်ထားခဲ့ပြီး အိမ်ကိုပြန်လာခဲ့သည်။

ကျွဲပေါက်ကလေးသည် အိမ်ပြန်ချိန်တန်တော့ အားနှင့်ရုန်း၏။ ဒါပေမယ့် ကြိုးကခိုင်နေတော့ လွယ်လွယ်နှင့် ရုန်းမရဖြစ်နေသည်။ နောက်ဆုံး အားထည့်ပြီးရုန်းလိုက်တော့ နတ်ရုပ်ကြီးသည် အရင်းမှ ကျွတ်ထွက်ပါလာပြီး ကျွဲပေါက်လေးနောက်မှာ တလိမ့်တုံးပမာ လိမ့်မျောပါလာသည်။ တလိမ့်ခေါက်ကွေး ပါလာရင်း ချုံတွေပေါ်သည့် နေရာအရောက်မှာ နတ်ရုပ်ကြီးသည် ချုံတွေနှင့်ငြိပြီး ချုံတစ်ခုပေါ်မှာ ကြိုးပြတ်ပြီး ကျန်နေခဲ့သည်။

တစ်ပတ်လောက်ကြာတော့မှ နတ်က နတ်ကတော်ကိုပူးပြီး ပြော၏။ ''ငါ့ကို ကယ်ပါ၊ ငါအခု ချုံကြားထဲမှာ ရောက်နေတယ်။ ကောင်လေးတစ်ယောက်က ငါ့ကို ကျွဲပေါက်လေးတစ်ကောင်နဲ့ ပူဇော်ပသသွားတာ။ သူကတော့ ငါ့ကို ကျွဲပေါက်ကလေးနဲ့ ပူဇော်ရှာသားပဲ၊ ငါကိုက ကျွဲပေါက်ကလေး

ကို မနိုင်တာပါ'' ဟူ၍ ပြောရှာသည်။ ၅၉

ဒီလိုကျပြန်တော့လည်း နတ်များသည် သနားစရာကောင်းသော သတ္တဝါများ ဖြစ်နေသည်ကို တွေ့ရပြန်သည်။ အဲဒီချိန်ကစပြီး ရွှေဘိုနယ်မှာ နတ်များ သိပ်ပြီးမသောင်းကျန်းရဲကြတော့ပေဟု ပြောစမှတ်ပြုခဲ့ကြသည်။ မည်သို့ပင်ရှိစေ၊ နတ်ယုံကြည်မှုအစွဲသည် အရိုးများထဲအထိပင် စွဲနေပြီဖြစ်၍ မိရိုးဖလာ ဗုဒ္ဓဘာသာဝင်တို့၏ နှလုံးသားမှ လွယ်လွယ်နှင့်တော့ ပယ်နိုင်မည် မဟုတ်ပါ။ သို့သော် သတိတရားရှိ၍ ဗုဒ္ဓ၏ အဆုံးအမတော်အတိုင်း လိုက်နာကျင့်သုံးနေထိုင်ကြသော ဗုဒ္ဓဘာသာဝင်တို့သည်သာ မှားယွင်းသော ကိုးကွယ်မှုများ၊ လွဲမှားဖောက်ပြန်သော ဘာသာအယူဝါဒများ၊ အကျိုးမဲ့ကို ဖြစ်စေသော ကိုးကွယ်မှုများကို ဖယ်ရှားနိုင်ကြသည်သာ။ ထို့ကြောင့် သူတော်ကောင်းတရားများ အားမနည်းမီ၊ မသူတော်တရားများ အားမကောင်းမီ ဗုဒ္ဓဘာသာဝင်တို့သည် သာသနာ့အမွေအနှစ်များ မပျောက်ပျက်၊ မပျက်စီးရလေအောင် သတိတရားတွင် ဉာဏ်ယှဉ်လျက် ကိုယ့်ကိုယ်ကိုလည်း သတိဖြင့်ကာကွယ်၊ သတိတရားမဲ့နေသူတို့အားလည်း တတ်နိုင်သမျှ အကာအကွယ်များကို ပေးကြခြင်းဖြင့် ဗုဒ္ဓဘုရားရှင်တော်သည် ပါရမီတော်'၁၀'ပါးကို ဘဝတွေ အသင်္ချေတိုင်အောင် ဖြည့်ကျင့်ပြီးမှ တည်ထားနိုင်ခဲ့သော မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီး မြန်မာပြည်၌ ခိုင်သည်ထက်ခိုင်အောင်၊ မြဲသည်ထက်မြဲအောင် ကောင်းမွန်စွာ စောင့်ရှောက်နိုင်ကြပါစေ။ မြတ်ဗုဒ္ဓ၏ အဆုံးအမ သြဝါဒများ မြန်ပြည်အနှံ့မှသည် ကမ္ဘာအရပ်ရပ်ဆီသို့ စည်ပင်ထွန်းကားပြန့်ပွားနိုင်အောင် ဓမ္မဒူတလုပ်ငန်းများကို စုပေါင်းအားဖြင့် ဆောင်ရွက်နိုင်ကြပါစေ။

---

၅၉။ ဤဖြစ်ရပ်သည် အညာဒေသမှာ တကယ့်ဖြစ်ပျက်ခဲ့သည်



သူတော်ကောင်းစာတတ်ခံရှိသူတို့သည် မိမိ, သူတစ်ပါးတို့ တစ်စုံတစ်ခုသော အန္တရာယ်ကြောင့် ဆင်းရဲဒုက္ခကျရောက်ရနိုင်သည့် ကိစ္စမျိုး၌ လျစ်လျူရှုမထားနိုင်ပေ။



## အခန်း (၇)

### မေတ္တာဖြင့်ခံယူ၍ ကရုဏာနှလုံးသားဖြင့် ပေးဆပ်ခြင်း

နတ်ကိုးကွယ်မှုနှင့်ပတ်သက်၍ သမိုင်းကြောင်းများကို ပြန်လှန်၍ သုံးသပ်ကြည့်မည်ဆိုလျှင် အနော်ရထာမင်းကြီးသည်လည်း ကနဦးအစပိုင်း၌ နတ်များကို ကိုးကွယ်ပူဇော်ပသခဲ့သူ သို့မဟုတ် ကိုးကွယ်ပူဇော်ပသမှုကို အားပေးခဲ့သူ ရှင်ဘုရင်တစ်ပါးဖြစ်သည်ဟုဆိုနိုင်သည်။ အရှင်အရဟံ၏ ဂုဏ်ကျေးဇူးကြောင့် ဗုဒ္ဓဘာသာဝင် ရှင်ဘုရင်တစ်ပါးဖြစ်လာခဲ့သည့် အချိန်မှစ၍ ကိုးကွယ်သင့်သောအရာ၊ မကိုးကွယ်သင့်သောအရာတို့ကို ဉာဏ်ဖြင့် ပိုင်းပိုင်းခြားခြား သိနိုင်ခဲ့ပြီဖြစ်၍ နတ်ကိုးကွယ် ပူဇော်ပသမှုများကို သတိတရားဖြင့် ရှောင်ရှားနိုင်ခဲ့သည်။ ဘုရား၏ကျေးဇူး၊ ဆရာ၏ ကျေးဇူးတော်များကို ဦးခေါင်းထက်တွင် အမြဲတင်လျက် ထိုကျေးဇူးတော်များကို ပေးဆပ်လို၍ တိုင်းပြည်ပြု သာသနာပြုလုပ်ငန်းများကို ဆရာ၏ အဆုံးအမဩဝါဒတော်အတိုင်း အားသွန်ခွန်စိုက်ပြုလုပ်ဆောင်ရွက်ခဲ့သည်။ ဤသည်ပင်လျှင် အနော်ရထာမင်းကြီး၏ သာသနာအတွက် ကျေးဇူးတရားကို ပြန်လည်ပေးဆပ်ခြင်းဟု ဆိုနိုင်သည်။

ပေးဆပ်ခြင်းတရားမျိုးဆိုတာ လူတိုင်းလုပ်နိုင်သောအရာမျိုးတော့ မဟုတ်ပါ။ ဆိုလိုတာက ပေးဆပ်ခြင်းတရားမျိုးကို လူတိုင်းမလုပ်နိုင်ပါ၊ လက်ဆောင်ပစ္စည်းတစ်ခုကို ခံယူဖို့ လွယ်ကူသော်လည်း ထိုလက်ဆောင်ပစ္စည်းကို ခံယူမှုအတွက် ပြန်လည်ပေးဆပ်ရခြင်း အလုပ်က ပို၍ခက်ခဲပါသည်။ သူတစ်ပါးထံမှ အကူအညီတစ်ခုကို ခံယူဖို့ လွယ်ကူသော်လည်း ထိုအကူအညီအတွက် ပြန်လည်ပေးဆပ်နိုင်ဖို့ မလွယ်ဘူးဟု ဆိုလိုပါသည်။ အဘယ်ကြောင့်ဆိုသော် ခံယူခြင်းနှင့် ပေးဆပ်ခြင်း တရားသဘောနှစ်ခုတို့သည် တန်ဖိုးချင်း မတူညီနိုင်သည့်အတွက်ကြောင့်ဖြစ်သည်။ ဥပမာ–လူတစ်ယောက်သည် မိဘနှစ်ပါးထံမှ ငွေတစ်ကျပ်ဖိုးတန်သောပစ္စည်းနှင့် မေတ္တာတရားကို ခံယူထားသည်ဆိုကြပါစို့။ နောက်ဆုံးမှာ ထိုသူသည် ထိုမိဘနှစ်ပါး၏ အစောင့်အရှောက်ဖြင့် ကြီးပွားချမ်းသာလာခဲ့သည်။ ကြီးပွားချမ်းသာလာခဲ့သော ထိုသူသည် မိဘနှစ်ပါး၏ကျေးဇူးကို ပေးဆပ်လို၍ မိဘနှစ်ပါးအား ငွေတစ်ကျပ်ကို သို့မဟုတ် တစ်ကျပ်ဖိုးတန်သောပစ္စည်းကို ပြန်လည်ပေးဆပ်ခဲ့သည်ဆိုပါစို့။ ထိုသူ၏ပေးဆပ်ခြင်းသည် ထိုက်တန်သောပေးဆပ်ခြင်း၊ တန်ဖိုးတူညီသော ပေးဆပ်ခြင်းမျိုးဟု ဆိုနိုင်ပါမည်လော။

နောက်ဥပမာတစ်ခုမှာ–ပညာရေးမှာ လုံးဝစိတ်မဝင်စားတော့သော ကျောင်းသားတစ်ယောက်သည် ဆရာတစ်ယောက်ထံမှ တစ်နာရီတန်သော အချိန်နှင့် တစ်ရက်တစ်နာရီနှုန်းဖြင့် တစ်လပိုင်းအချိန်ကို ဆရာထံမှ ရယူခဲ့သည်ဆိုကြပါစို့။ ပထမပိုင်း တစ်နာရီအချိန်ဖြင့် ဆရာသည် ပညာရေး၌ လုံးဝစိတ်မဝင်စားတော့သောကျောင်းသားအား အားပေးခြင်း၊ ဖျောင်းဖျခြင်း၊ လမ်းမှန်သို့ ရောက်အောင် ပို့ဆောင်ခြင်းစသည်တို့ဖြင့် တစ်နာရီအချိန်ကို ကျောင်းသားအား ပေးခဲ့သည်။ ဒုတိယပိုင်းဖြစ်သော တစ်လပိုင်းအချိန်ဖြင့် ထိုကျောင်းသားအား လိုအပ်သော ဘာသာရပ်များအတွက် သင်ကြားပေးခြင်း၊ လမ်းမှန်ရောက်အောင် တည့်မတ်ပေးခြင်း၊ လိုအပ်သောအကူအညီများကို ပေးခြင်း စသည်ဖြင့် နာရီ(၃၀)တန်သော အချိန်ကို ထိုကျောင်းသားအား ပေးခဲ့ပြန်သည်။ ထိုဆရာ၏ စောင့်ရှောက်ပေးလိုက်သော ကျေးဇူးတို့ကြောင့်





နောင်တစ်ချိန်မှာ ထိုကျောင်းသားသည် ပညာတတ်ပြီး၊ ချမ်းသာကြွယ်ဝကာ တက္ကသိုလ်ကြီးတစ်ခုမှ ပါမောက္ခချုပ်ကြီးတစ်ယောက် ဖြစ်လာခဲ့သည်။ ထိုအခါ ငယ်စဉ်က စာသင်ပေးခဲ့သော ထိုဆရာအား ကျေးဇူးပြန်ဆပ်လို၍ (၃၁)နာရီတန်သောအချိန်ကို ဆရာအားပြန်လည်ပေးဆပ်သည်ဆိုပါစို့၊ ထိုပါမောက္ခကြီး၏ ပြန်လည်ပေးဆပ်ခြင်းသည် တန်ဖိုးညီသောပေးဆပ်ခြင်းမျိုးဟု ဆိုနိုင်ပါမည်လော။

နောက်တစ်ခုက ကျေးဇူးတရားကို ပြန်လည်ပေးဆပ်ခြင်းဆိုရာမှာ လောကသဘောအရ ကြီးပွားခြင်း၊ ချမ်းသာခြင်း၊ ဆင်းရဲခြင်းတို့အပေါ်မူတည်ပြီး ပြောရတာမျိုးဖြစ်၍ တန်ဖိုးညီဖို့ ခက်လှသည်။ ထို့ပြင် ကျေးဇူးတရားကို ပြန်လည်ပေးဆပ်ရာမှာ ကျေးဇူးပြုသူကိုသာ ပြန်လည်ပေးဆပ်ခြင်းနှင့် ကျေးဇူးပြုသူနှင့် ဆက်နွယ်နေသော အခြားအခြားသောတာဝန်ကိစ္စများကို ပြုလုပ်ပေးခြင်းဖြင့် ပြန်လည်ပေးဆပ်ခြင်းဟူ၍ ပေးဆပ်ခြင်းနှစ်မျိုးရှိနိုင်ပါသည်။ ဥပမာ– ရဟန်းသံဃာတော်တစ်ပါးသည် မိမိနေထိုင်သီတင်းသုံးဖူး၊ စာလည်း သင်ခဲ့ဖူးသော ကျောင်းတိုက်ကို ပြန်၍ကျေးဇူးပေးဆပ်ခြင်းနှင့် ထိုကျောင်းတိုက်မှာနေစဉ် သာသနာ့ကျေးဇူးကို ခံယူခဲ့ပြီး၊ ထိုကျေးဇူးကို ပြန်လည်ပေးဆပ်သောအားဖြင့် မိမိကိုယ်ကို စောင့်စောင့်ထိန်းထိန်းဖြင့် ပရိယတ္တိစာပေများကို ကြိုးကြိုးစားစားသင်ယူခြင်း၊ ရောက်သည့်နေရာ၊ ရောက်သည့်ကျောင်းတိုက်၌ စည်းကမ်းတကျနေထိုင်ခြင်း၊ ပရိယတ္တိသို့မဟုတ် ပဋိပတ္တိလုပ်ငန်းများကို စွမ်းနိုင်သမျှ ကျင့်ကြံပွားများအားထုတ်ခြင်း၊ ပရဟိတလုပ်ငန်းများကို စွမ်းစွမ်းတမံဆောင်ရွက်နိုင်ရန် လိုအပ်သောပညာရပ်များကို ဆည်းပူးခြင်း၊ ထိုပညာရပ်များ၊ ထိုအတွေ့အကြုံများ၊ ထိုအစွမ်းသတ္တိများဖြင့် မြတ်ဗုဒ္ဓ၏ သာသနာတော်မြတ်ကြီးကို ရောက်သည့်နေရာ၌ ကျရာတာဝန်များကို စွမ်းနိုင်သမျှ တက်တက်ကြွကြွဆောင်ရွက်ခြင်းဖြင့် သာသနာ့ကျေးဇူးကို ပေးဆပ်ခြင်းဟူ၍ နှစ်မျိုးရှိနိုင်ကြောင်းကိုလည်း သိနိုင်ပါသည်။

သို့သော် သာသနာလောက၌ ဖြစ်နေတတ်သည်မှာ အချို့ဆရာတော်၊ သံဃာတော်များသည် မိမိက ကျေးဇူးပြုထား၍ မိမိကိုသာ သို့မဟုတ် မိမိ ပိုင်ဆိုင်သော ကျောင်းတိုက်ကိုသာ ကျေးဇူးပေးဆပ်မှ ကျေးဇူးပြုသည်မည်ခြင်း၊ ကျေးဇူးပေးဆပ်သည်မည်ခြင်းဟု အသိအမှတ်ပြုနိုင်သော ဆရာမျိုးနှင့် ဘယ်နေရာမှာပဲနေနေ၊ သာသနာတော်ကျေးဇူးကို ဘယ်နေရာမှာပဲ ပေးဆပ် ပေးဆပ်၊ သာသနာတော်၏ ကျေးဇူးတရားများကို ပေးဆပ်နေကြတာပဲဟု ယူဆနိုင်သော ဆရာမျိုး၊ ဤဆရာနှစ်မျိုးတို့၏ စိတ်ထားများတွင် ဘယ်ဆရာ၏ စိတ်ထားသည် သာလွန်ကြီးကျယ်ကြောင်း ဉာဏ်နှင့်ယှဉ်၍ကြည့်နိုင်ပါသည်။

အချို့သော ဆရာတော်၊သံဃာတော်များမှာမူ တပည့်များကို မိမိတို့၏ ကျဉ်းမြောင်းလှသော အဝန်းအဝိုင်းလေးထဲမှ ဘယ်မှမထွက်စေဘဲ၊ တပည့်များ အား မိမိနှင့်အတူ နေစေခဲ့ကြသည်။ ပညာရချိန်၌ ပညာများကို ရခွင့်မပေး၊ ဗဟုသုတရချိန်၌ ဗဟုသုတများကို ရခွင့်မပေးလိုကြသော ထိုဆရာမျိုးနှင့် နေကြရရှာသော ထိုတပည့်များ၏ အနာဂတ်သည် ''သဗ္ဗေသတ္တာ ကမ္မ သကာ''– ကံတရားလို့ပဲ ဆိုရပေတော့မည်လော။ တပည့်များအား ရင်အုပ် မကွာ စောင့်ရှောက်လိုသည်ဆိုလျှင်လည်း အတတ်ပညာများကို ကိုယ်တိုင် သင်ကြားပေးနိုင်က ကိုယ်တိုင်ပဲ သင်ကြားပေးခြင်း၊ ကိုယ်တိုင်မစွမ်းနိုင်ပါက သင်ကြားနိုင်အောင် စီမံပေးခြင်း၊ ပြုလုပ်ပေးခြင်းဖြင့် တပည့်များ၏ အဓိပ္ပါယ်ရှိ လာမည့် အနာဂတ်မျိုးကို ဖန်တီးပေးသင့်ပါသည်။ ဖန်တီးပေးတော်မူကြပါ အရှင်မြတ်တို့ဘုရား။

တစ်ဦးတစ်ယောက်အကျိုးများဖို့ထက် အများကြီးပွားချမ်းသာရေးကို လိုလားကြသော ပုဂ္ဂိုလ်တို့သည် သာသနာတော်အကျိုး၊ တိုင်းပြည်နှင့် လူမျိုး အကျိုးကို ဉာဏ်နှင့်ယှဉ်၍ ကြည့်ကြမည်ဆိုလျှင် ဖြစ်သင့်သည်မှာ သာသနာ့ ဘောင်နေ ရဟန်း, သံဃာတော်များသည်လည်းကောင်း၊ လူ့ဘောင်, လူ့လောကနေ မိဘများ၊ ဆရာများနှင့် အသင်းအဖွဲ့ခေါင်းဆောင်များသည် လည်းကောင်း ကျဉ်းမြောင်းလှသော ဂိုဏ်းစွဲ၊ ပုဂ္ဂိုလ်စွဲ၊ ဌာနစွဲ၊ ငါစွဲများကို မထားကြဘဲ၊လူမျိုး၊ ဘာသာ၊ သာသနာတို့၏ အသရေကို မညှိုး, မမှိန်ရအောင်





ကြည့်သင့်ပါသည်။ အနစ်နာခံသင့်ပါသည်။ ပေးဆပ်သင့်ပါသည်။ ဤကဲ့သို့ ပြုလုပ်ပေးနိုင်ပါမှ ဘာသာနှင့်သာသနာ၊ တိုင်းပြည်နှင့်လူမျိုးသည် ကမ္ဘာ အလယ်မှာ ဂုဏ်ထည်၍ မြန်မာလူမျိုးတို့ ကိုးကွယ်နေသော ထေရဝါဒဗုဒ္ဓ သာသနာတော်သည် ကမ္ဘာ့အလယ်မှာ တင့်တယ်, ခံ့ညားလျက် နေမင်း တစ်ဆူ၊ လမင်းတစ်ဆူပမာ ထွန်းလင်းမြဲ ထွန်းလင်းနေနိုင်ပေလိမ့်မည်။ တောက်ပမြဲ တောက်ပနေနိုင်ပေလိမ့်မည်။ ဗုဒ္ဓသာသနာတော် တည်တံ့ပြန့်ပွား နိုင်ရေးသည် ခေါင်းဆောင်ကောင်းတို့၏ အမြော်အမြင်ကြီးမားမှုများ၊ ပြည်သူ တို့၏ သာသနာအပေါ်၌ သစ္စာရှိမှုများနှင့် များစွာစပ်ဆိုင်နေပါသည်။

ဘာသာသာသနာနှင့် ပတ်သက်လာလျှင် မြန်မာ့သမိုင်းမှာ မြင့်မြတ် သော စိတ်ဓာတ်မျိုးကို မွေးမြူနိုင်သူတို့တွင် မင်းကြီးအနော်ရထာနှင့် အရှင် အရဟံကိုယ်တော်တို့သည် သမိုင်း၌ ထင်ရှားခဲ့သူတွေဖြစ်သည်။ အရှင်အရဟံ သည် သူ့ကျောင်း၊ သူ့ကန်၊ သူ့ဝန်းကျင်၌သာ ကျောင်းဆောက်ခြင်း၊ ရေတွင်း, ရေကန်တူးခြင်း၊ ဘုရားစေတီတည်ခြင်းမျိုးကို ပြုစေလိုခြင်းမဟုတ်ဘဲ၊ တစ် တိုင်းပြည်လုံးမှာ လိုအပ်နေသော မြို့ရွာများမှာ စေတီ၊ တန်ဆောင်း၊ဘုရား၊ ကျောင်း၊ကန်များကို တည်စေလို၊ ဆောက်စေလိုသူဖြစ်သည်။ သို့သော် အရှင် အရဟံနှင့် မင်းကြီးအနော်ရထာတို့၏ နှလုံးသားမှာ တူညီနေသော ခံယူချက် ကတော့ လက်ရှိအခြေအနေ၌ ဘုရားတည်ခြင်း၊ ကျောင်းဆောက်ခြင်းတို့ထက် ပို၍အရေးကြီးနေသောအချက်မှာ မိစ္ဆာအယူများ၊ အရည်းကြီးများကို နှိမ်နင်း၍ ပြည်သူတို့ အတွက် အကျိုးမများနိုင်သော နတ်ကိုးကွယ်မှုများကို ဦးစွာပယ်ရှား ပစ်ရန် သဘောတူညီမှုကို ရရှိထားကြသည်။ ဤကိစ္စမျိုးကို ပြုနိုင်ဖို့အတွက် ဆရာ၊ ဒကာ နှစ်ဦးစလုံးမှာ ပြုရဲသည့် သတ္တိ၊ ပြုနိုင်သည့် ဗျတ္တိ၊ ပြုချင်သည့် ဆန္ဒ၊ ပြုလိုသည့် စေတနာ၊ ပျော့ပျောင်းသည့် ကရုဏာနှလုံးသားစသော စိတ်ဓာတ်စွမ်းရည်များကိုလည်း ပိုင်ဆိုင်ထားကြသည်။ ပျော့ပျောင်းလွန်းသော နှလုံးသားဓာတ်ခံရှိသူသည် သတ္တိ,ဗျတ္တိနှင့် ဆောင်ရွက်ရမည့်ကိစ္စများ၌ အကျိုး မပြီးနိုင်သလို၊ ခက်ထန်သောနှလုံးသား ဓာတ်ခံရှိသောသူသည် ကရုဏာ တရားဖြင့် ဆောင်ရွက်သင့်သောကိစ္စမျိုး၌ အကျိုးမသက်ရောက်နိုင်ပေ။

ထိုအချိန်၊ ထိုအခါက အနော်ရထာမင်းကြီး၏ နှလုံးသားသည် အရှင်အရဟံ၏ဂုဏ်တော်၊ ကျေးဇူးတော်တို့ကြောင့် ပြည်သူပြည်သားတို့၏ အကျိုးကို လိုလားသောမေတ္တာစွမ်းရည်၊ အယူမှားများကြောင့် ပြည်သူပြည်သားတို့အား ဘေးဒုက္ခ မရောက်စေလိုသော ကရုဏာစွမ်းရည်တို့အပြင်၊ ထိုထိုကိစ္စတို့ကို ဆောင်ရွက်ကြရာမှာလည်း ပြည်သူ၊ ပြည်သားတို့အပေါ်၌ သည်းခံခြင်း၊ ခွင့်လွှတ်ခြင်း၊ အမျက်မထွက်ခြင်း၊ ရန်ငြိုးမထားခြင်း၊ ပြည်သူတို့၏သဘောထားကို နားလည်ပေးနိုင်ခြင်းစသော တရားစွမ်းရည်များနှင့် ပြည့်ဝနေပြီဖြစ်၍ တရားစောင့်သော ဖခင်မင်းတရားကြီး၏ အရိုက်အရာကို ခံယူရမည်ဖြစ်သော သားကြီးသြရသနှင့် သမီးငယ်တို့အပေါ် ဖြူစင်သော မေတ္တာ၊ နွေးထွေးသော ကရုဏာတရားတို့ဖြင့် စောင့်ရှောက်ထားသကဲ့သို့ ပြည်သူပြည်သားများ အပေါ်မှာလည်း သားသမီးရင်းချာကဲ့သို့ တစ်သွေးတည်း၊ တစ်သားတည်း၊ တစ်ရောင်တည်း၊ တညီတည်း၊ တညွှတ်တည်းဖြစ်အောင် ကရုဏာနှလုံးသားနှင့် စောင့်ရှောက်နိုင်သော အနော်ရထာမင်းကြီးကဲ့သို့ သာသနာပြုမင်းကောင်းမင်းမြတ်တို့သည် သမိုင်းမှာ ရှားမှရှားဟုဆိုရပေမည်။

သူတော်ကောင်းဓာတ်ခံရှိသူတို့သည် မိမိ, သူတစ်ပါးတို့ တစ်စုံတစ်ခုသောအန္တရာယ်ကြောင့် ဆင်းရဲဒုက္ခကျရောက်ရနိုင်သည့် ကိစ္စမျိုး၌ လျစ်လျူရှုမထားနိုင်ပေ။ အန္တရာယ်ကို ကြိုတင်၍ကာကွယ်နိုင်က ကာကွယ်ပေးကြသည်။ အန္တရာယ်ကို ကြိုတင်၍ မကာကွယ်နိုင်ပါက အန္တရာယ်မှ လွတ်ရာလမ်းကို ညွှန်ကြားပေးကြသည်။ ဤသည်တို့မှာ သူတော်ကောင်းတို့၏ ဓမ္မတာဟု ဆိုရပေမည်၊ အနော်ရထာမင်းကြီးသည် သူတော်ကောင်းဓမ္မတာရှိသော မင်းမျိုး (လူသားမျိုး) ဟုဆိုရပေမည်။ မှားယွင်းသော ယုံကြည်စွဲလမ်းမှု တစ်ခုကြောင့် ပစ္စုပန်နှင့် နောင်တမလွန်သံသရာတို့မှာ မတရားသောအဖြစ်မျိုး၊ ဆင်းရဲသောအဖြစ်မျိုးတွေကို ပုဂံပြည်သူပြည်သားတို့အား မတွေ့စေချင်၊ မဖြစ်စေချင်သူမှာ အနော်ရထာကြီး၏ မူလစိတ်စေတနာဖြစ်သည်။ လောက သံသရာမှာ လောကီ လောကုတ္တရာ အကျိုးစီးပွားတွေကို ဆုတ်ယုတ်စေနိုင်သော မှားယွင်းသော ကိုးကွယ်မှုမျိုးတွေကိုလည်း မတွေ့လို၊ မမြင်လိုသော ပုဂ္ဂိုလ်သည်လည်း





အနော်ရထာမင်းကြီးပင်ဖြစ်သည်။ သူ့စိတ်၊ သူ့ဆန္ဒ၊ သူ့အတွေး၊ သူ့အာရုံတို့မှာ ကိုယ်တိုင်လည်း တရားစောင့်သော မင်းအဖြစ်ကို ခံယူလိုသည်။ ပြည်သူပြည်သားတို့အားလည်း တရားနှင့်အညီနေထိုင်သော ဗုဒ္ဓ၏သားတော်၊ သမီးတော်တွေအဖြစ် တွေ့လို၊ မြင်လိုသည်။

ဤကဲ့သို့သော အခြေအနေမျိုးတွေကြောင့် အနော်ရထာမင်းကြီး အတွက် ရွေးချယ်စရာ တစ်လမ်းပဲ ရှိတော့သည်။ ထိုနည်းလမ်းကတော့ ဟိန္ဒူနတ်ရုပ်များ၊ ပြည်တွင်းဖြစ်နတ်ရုပ်များကို သံကြိုးဖြင့် စုရုံးချည်နှောင်ပြီး ရွှေစည်းခုံဘုရား၏ ထောင့်တစ်နေရာမှာ စုရုံးပြီး ထားလိုက်ရသည့်အဖြစ်မျိုး ဖြစ်သည်။ ထိုနေရာမှာ ယနေ့မျက်မှောက်ခေတ်၌ လူသိများသော ''ဘိုးတော်သိကြားနှင့် ၃၇ မင်းနတ်နန်း''ဟု ကမ္ပည်းထိုးထားသော အဆောက်အအုံပင် ဖြစ်နိုင်သည်။ ညောင်ဦး ရွှေစည်းခုံဘုရားရောက်သောအခါ ထိုနတ်ရုပ်များကို ဝင်ရောက်ကြည့်ရှုနိုင်သည်။ ရှေးကျသော တောင်သူကြီးမင်းလက်ထက်လောက်က ဘုရားမဟုတ် နတ်မဟုတ်အရုပ်များနှင့် အခြားအရုပ်များတို့ကိုလည်း အနော်ရထာမင်းက စုရုံးသိမ်းလှောင်၍ ထားလိုက်လေသည်။ ထိုလှောင်ထားရာအရပ်သည် ယခုပုဂံသဗ္ဗညုဘုရားအနီးတွင် တည်ရှိသော ''နတ်လှောင်ကျောင်း'' ပင်ဖြစ်သည်။[၅၀]

အနော်ရထာမင်းကြီးသည် ပုဂံပြည်သူပြည်သားတို့၏ ပစ္စုပ္ပန်၊ သံသရာနှစ်ဖြာသော အကျိုးစီးပွားကို လိုလားတော်မူလှ၍ ဤကဲ့သို့ ပြုရငြားသော်လည်း ပြည်သူ၊ ပြည်သားတို့သည် မိမိတို့၏ နှလုံးသားထဲမှာ အရိုးစွဲနေပြီဖြစ်သော မှားယွင်းသည့် ကိုးကွယ်ပူဇော်ပသမှုမျိုးတွေကို လွယ်လွယ်နှင့်မစွန့်၊ မပယ်နိုင်အောင် ရှိနေကြသည်။ မင်းကြီး၏ အမိန့်ကို မတော်လှန်ရဲ၍ လိုက်နာနေကြရသော်လည်း သူတို့၏ အိမ်တွင်းမှာမူ အုန်းသီးများ ချိတ်ဆွဲကာ နတ်တို့၏ ကိုယ်စားအဖြစ်လည်းကောင်း၊ ပူဇော်ပသခြင်း အဖြစ်မျိုးဖြင့်လည်းကောင်း ကိုးကွယ်မြဲ ကိုးကွယ်နေခဲ့ကြသည်။

---

၅၀။ အမျိုးသားပညာဝန်ဦးဖိုးကျား။ ၃၇ မင်း။ နှာ ၁၃၁။

မည်သို့ပင်ပြုကြပါစေ၊ ဖြူစင်သောမေတ္တာ၊ စစ်မှန်သော စေတနာတို့ဖြင့် ပြုလုပ်ဆောင်ရွက်ခဲ့သော အနော်ရထာမင်းတရားကြီးသည် ပုဂံပြည်သူ၊ ပြည်သားတို့၏ လုပ်ရပ်များအတွက် ဒဏ်လည်းမခတ်ခဲ့၊ ညှဉ်းလည်း မညှဉ်းဆဲခဲ့ အကျဉ်းထောင်သို့လည်းမချခဲ့ အသက်ကိုလည်း မသတ်ခဲ့ကရုဏာစိတ်ကိုသာ မွေးမြူကာ '၃၇' မင်း နတ်တို့၏ ရုပ်ပုံများကို ရွှေစည်းခုံစေတီ တံတိုင်းအတွင်း ထောင့်တစ်ထောင့် တစ်နေရာ အဆောက်အအုံအတွင်းမှာ ထားပေးခဲ့သည်။ ''အတွင်း အပြင်'' နတ်ဟု သတ်မှတ်ခေါ်ဆိုကြခြင်းနှင့် ပတ်သက်၍ သတ်မှတ်ပြောဆိုနေကြခြင်းမှာ အနော်ရထာမင်းကြီးက အထက်၌ဖော်ပြပြီးဖြစ်သော ရွှေစည်းခုံစေတီတော်ကြီး၏ တံတိုင်းအတွင်း၌ ရုပ်ပုံနှင့်တကွထားရှိပြီးဖြစ်သော'၃၇'မင်းနတ်များကို ''အတွင်း'၃၇'မင်း''နတ်ဟု သတ်မှတ်ပြောဆိုကြပြီး၊ သံကြိုးဖြင့် စုရုံးချည်နှောင်ကာ ရွှေစည်းခုံဘုရား၏ ထောင့်တစ်နေရာမှာ စုရုံးပြီးထားလိုက်ရသော နောက်တိုးနတ်များကို ရည်ညွှန်း၍ ''အပြင်'၃၇'မင်း'' ဟု ခေါ်ဆိုခဲ့ကြသည်။[၅၁]

အနော်ရထာမင်းတရားကြီး၏ အမြော်အမြင်ကြီးမားမှုတို့သည် အံ့ဖွယ်ရှိပါပေစွ၊ ဤ '၃၇' မင်းကို ဘုရားတံတိုင်းအတွင်းမှာ ထားရခြင်း၏ ရည်ရွယ်ချက်ကို အမျိုးသားပညာဝန် ဦးဖိုးကျားက အောက်ပါအတိုင်း ကောက်ချက်ချထားသည် -

ထားသောရည်ရွယ်ချက်မှာ နတ်တို့သည် ဘုရား၏ အခြံအရံမျှသာဖြစ်ကြောင်း၊ ဘုရားက ပိုမိုမြင့်မြတ်ကြောင်း ထင်ရှားပြရန်လည်းကောင်း၊ ထိုအခါက နတ်ကိုးကွယ်ခြင်း အားကြီးနေရာ၊ နတ်များကို ပူဇော်ရန်လာရင်း ဘုရားကိုလည်း တွေ့ကြုံပူဇော်ကာ တဖြည်းဖြည်းဘုရားကို ကြည်ညိုမှုဖြစ်လာအောင်သော်လည်းကောင်း၊ အစောင့်အရှောက်အနေဖြင့်သော်လည်းကောင်း ထားသည်ဟု ထင်ရန်ရှိသည်။ [၅၂]

အထက်ပါစကားရပ်၌ ဘုရား၊ စေတီ၊ ပုထိုးများကို စောင့်ရှောက်ရန် နတ်များကို အစောင့်အရှောက်အရာမှာ ထားလိုက်ခြင်းနှင့်ပတ်သက်၍ နောင်တစ်ချိန်မှာ နတ်တို့ကို အကြီးအကျယ်ပူဇော်ပသသော ရှင်ဘုရင်မျိုး ပေါ်ပေါက်ခဲ့လျှင်သော်မှ ၎င်းတို့ကိုးကွယ်ပူဇော်ပသနေသော နတ်များကိုယ်တိုင်က စောင့်ရှောက်ပေးရသော ပုဂံရှိ ဘုရား၊ စေတီ၊ ပုထိုးတို့ကို မဖျက်ဆီးဝံ့စေရန် ကြံတင်၍ ရည်ရွယ်ဟန်တားထားတာမျိုးလည်း ဖြစ်နိုင်ကြောင်းကို အမျိုးသားပညာဝန် ဦးဖိုးကျားက ယူဆထားပါသည်။

ဤနည်းဖြင့် အနော်ရထာမင်းတရားကြီးသည် ဗုဒ္ဓသာသနာတော်အတွက် အမြော်အမြင်ကြီးမားပုံ၊ ပုဂံသာသနာတော်၏ အရှင်သခင်သဖွယ်ဖြစ်သော အရှင်အရဟံ၏ ကျေးဇူးတရားများကို ဂုဏ်းစွဲ၊ ပုဂ္ဂိုလ်စွဲမထားဘဲ၊ ဖြူဖြူစင်စင်၊ စင်စင်ကြယ်ကြယ်ဖြင့် ပြန်လည်ပေးဆပ်ပုံ၊ သာသနာတော်အတွက် လိုအပ်လာမည်ဆိုလျှင် အသက်နှင့်လဲ၍ပင် ကျေးဇူးတရားများကို ပေးဆပ်သွားခဲ့ပုံတို့ကို လေ့လာသိရှိခွင့်ရခဲ့သောကြောင့် အနော်ရထာမင်းကြီး၏ သာသနာတော်အတွက် ပြုလုပ်ဆောင်ရွက်ရဲသည့်သတ္တိ၊ ဆောင်ရွက်နိုင်စွမ်းရှိသော အရည်အချင်းတို့ကို အကြိမ်ကြိမ်ချီးမွမ်းဂုဏ်ပြုမိပါသည်။ အနော်ရထာမင်းကြီး ပြုပြုခဲ့သမျှသော ကုသိုလ်အဝဝတို့အတွက် ဝမ်းမြောက်ဝမ်းသာ သာဓုအနုမောဒနာတွေ အကြိမ်ကြိမ်ခေါ်မိပါသည်။ အနော်ရထာမင်းကြီး၏ ဖြူစင်သည့် စိတ်စေတနာ၊ အေးမြသည့်မေတ္တာဓာတ်နှင့် နိုင်မာသောစိတ်ဓာတ်တို့ကို အသိဉာဏ်နှလုံးသားဖြင့် နားလည်နိုင်စွမ်းရှိသည့် ဗုဒ္ဓဘာသာဝင်များ ဖြစ်နိုင်ကြပါစေ။

---

[၅၁]။ အနော်ရထာမင်း၏ လက်ထက်၌ ယေဘုယျအားဖြင့် အပြင်(၃၇)မင်းနတ်ဟု ခေါ်ဝေါ်ပြောဆိုခဲ့ကြသော်လည်း အပြင်(၃၇)မင်းနတ် အရေတွက်မှာ(၃၇)မင်း မပြည့်သေး၊ ပုဂံနောက် ပင်းယ၊ အင်းဝ၊ တောင်ငူခေတ်တို့ရောက်မှ (၃၇)မင်း ပြည့်အောင် ထပ်ဖြည့်ထားသည်ကို တွေ့ရှိရသည်။

[၅၂]။ အမျိုးသားပညာဝန်ဦးဖိုးကျား။ ၃၇ မင်း။ နှာ ၁၃၁။



## အခန်း (၇)

### လောကကတစ်ဖက် ဘုရားကတစ်ဖက် ဖြစ်နေခဲ့လျှင်

လောက၌ ကိုးကွယ်မှုဘာသာတရားနှင့်ကင်း၍ နေနိုင်သော လူသတ္တဝါသည် မရှိသလောက်ပင်ရှိသည်။ အယူဝါဒတစ်ခုကို လက်ခံထားမိပြီဆိုလျှင် မှားသည်ဖြစ်စေ၊ မှန်သည်ဖြစ်စေ ထိုအယူဝါဒကို စွဲလမ်းနေမိတတ်သည်။ လောကရှိ ဘာသာတရားတို့ကို သဘောတူရာပေါင်း၍ အုပ်စုဖွဲ့ထားမည်ဆိုလျှင် ကြောက်၍ကိုးကွယ်ထားရသော ဘာသာတရား၊ ခင်မင်လေးစား၍ ကိုးကွယ်ထားရသော ဘာသာတရားနှင့် သိ၍ကိုးကွယ်ထားသော ဘာသာတရားဟူ၍ အကြမ်းဖျင်းအားဖြင့် သုံးမျိုးရှိနိုင်သည်။ နတ်များကို ကိုးကွယ်သူများနှင့် ဖန်ဆင်းရှင်(ပြဟ္မာများ၊ ထာဝရဘုရားများ)ကို ကိုးကွယ်သူများသည် အကြောက်တရားကို အခြေခံ၍ ကိုးကွယ်ကြရသူများဖြစ်သည်။ အကြောက်တရားဖြင့် ကိုးကွယ်ထားရသော ဘာသာတရားသည်လည်းကောင်း၊ မိရိုးဖလာအစဉ်အလာမို့ မိဘကို ခင်မင်သည့်စိတ်ဖြင့် ကိုးကွယ်ထားရသော ဘာသာတရားသည်လည်းကောင်း များသောအားဖြင့် အသိဉာဏ်အားနည်းသူများအတွက်သာ ဖြစ်တတ်၍ စဉ်းစားခြင်း၊ စိစစ်ဝေဖန်ခြင်းစသော

အသိဉာဏ်နှင့်ဆိုင်သော အရည်အသွေးများ အားနည်းနေတတ်သည်။ အသိတရားဖြင့် ကိုးကွယ်ထားသော ဘာသာတရားရှိသူများမှာ အသိဉာဏ်ကို အခြေခံထား၍ စဉ်းစားဆင်ခြင်ခြင်း၊ ဝေဖန်သုံးသပ်ခြင်း၊ ဝေဖန်သုံးသပ်ရဲသည့် သတ္တိရှိခြင်းစသည့် အရည်အသွေးများ ပါဝင်နေတတ်သည်။

မြန်မာနိုင်ငံ၌ နတ်ကိုးကွယ်နေသူအများစုသည် အကြောက် တရားများ အားကြီးနေတတ်ကြပြီး၊ နတ်ဆိုသည့်အသံကို ကြားရလျှင် ကြောက်ချေးပါနေတတ်ကြသည်။ ကောင်းကံနှင့်တွေ့လျှင် နတ်ပေးလို့၊ ဆိုးကံ တို့နှင့်တွေ့ရလျှင်တော့ ကံဆိုးလို့ဆိုပြီး ကိုယ့်ကိုယ်ကို နှစ်သိမ့်နေတတ်သည်။ လောက၌ ဘဝ၏ အထွတ်အထိပ်သို့ ရောက်သွားကြသော ပုဂ္ဂိုလ်တို့သည် ကံတရားတစ်ခုတည်းကြောင့်မဟုတ်ပါ။ ကြီးကျယ်မြင့်မြတ်သော စိတ်ဓာတ်တွေ၊ လုံ့လဝီရိယတွေ၊ ဘဝအတွက်ခံယူချက်တွေ ဒါတွေအားလုံးကို စုစုစည်းစည်း ပြုနိုင်ပါမှ ရောက်နိုင်ကြသည်။ လူတိုင်းသည် ဘဝ၏အထွတ်အထိပ် ပန်းတိုင်များဆီသို့ ရောက်လိုကြသော်လည်း ရောက်နိုင်သော စိတ်ဓာတ်တွေ၊ ရောက်လိုသော ဆန္ဒတွေ၊ မရောက်ရောက်အောင် အားထုတ်လိုသော လုံ့လဝီရိယတွေကို တိုးမြှင့်မပေးနိုင်ကြသည့်အတွက်ကြောင့်၊ ခံယူချက်တွေကို စွန့်စွန့်စားစား မထားနိုင်ခဲ့ကြသည့်အတွက်ကြောင့် ဘဝ၏ အထွတ်အထိပ်ပန်းတိုင်များဆီသို့ မရောက်နိုင်ကြခြင်းဖြစ်သည်။ လောကကြီး၌ ဤကဲ့သို့သောလူတွေက များနေ၍ အထွတ်အထိပ်ပန်းတိုင်များဆီသို့ ရောက်နိုင်ဖို့ဆိုသည်မှာ ခက်သည့်အရာဟု ထင်နေကြခြင်းဖြစ်သည်။

တကယ်ဆိုလျှင် ပန်းတိုင်ဆိုသည်မှာ လူတိုင်း၏လက်တစ်ကမ်းအကွာမှာ ရှိနေသည်။ ဘာလိုချင်သလဲ၊ ဘာဖြစ်ချင်သလဲဆိုတာကိုသာ တိတိကျကျသာ သိအောင်လုပ်ပါ။ ပန်းတိုင်ဆိုသည်မှာ ထိုသူ့အတွက် အခက်ကြီးမဟုတ်လှပေ။ "ကြိုးစားလျှင် ဘုရားတောင်ဖြစ်နိုင်သည်"ဟု ဆိုထားသော အားပေးစကားတွေသည်လည်း ရှိနေလျက်ပင်။ သို့သော် မခံချင်စိတ်ဖြင့် ပြောတာမျိုးဖြစ်နေလျှင်တော့ အဲဒီပုဂ္ဂိုလ်အတွက် ဘာမျှဖြစ်လာမည်မဟုတ်ပါ။ အဘယ်ကြောင့်ဆိုသော် တကယ့်ခံယူချက်ဖြင့် ပြောတာမျိုး မဟုတ်သောကြောင့်





ဖြစ်သည်။ တစ်နည်းပြောရလျှင်တော့ အဖြစ်ပြောသော စကားမျိုးဖြစ်နေသောကြောင့် ဖြစ်သည်။

ခံယူချက်ရှိဖို့ဆိုသည်မှာ အင်မတန်အရေးကြီးသည်။ ခံယူချက် မရှိလျှင် ဘာမျှမဖြစ်နိုင်။ ကံကောင်း၍ ငွေပုံကြီးပေါ်မှာ ထိုင်ချင်ထိုင်ရမည်။ထိုငွေများကိုတော့ ထိုက်ထိုက်တန်တန် သုံးချင်မှသုံးရပေမည်။ လူအများစုသည် အလုပ်မလုပ်ဘဲနှင့် အချောင်လိုချင်ကြသည်။ ဖြတ်လမ်းကို လျှောက် လှမ်းချင်ကြသည်။ အချောင်လိုချင်သောစိတ်ဓာတ်၊ ဖြတ်လမ်းကသွားချင်သော စိတ်ဓာတ်တို့ကြောင့် အောင်မြင်မှုတွေကိုရဖို့ နှေးကွေးနေကြခြင်းဖြစ်သည်။ မြင့်မြတ်သော စိတ်ဓာတ်တွေကို တိုးမြှင့်ပေးပြီး ကောင်းမြတ်သောစိတ်ဓာတ်တွေကို အားကျအတုယူကြသူတွေအတွက် အကောင်းတွေဆိုတာ ဖြစ်လာစမြဲဖြစ်သည်။ ကောင်းတာလုပ်မှ ကောင်းကျိုးရမည်။ ကောင်းမြတ်သော အလုပ်ကို အားကျတတ်သော သူ၊ အတုယူတတ်သောသူသည် တစ်နေ့မဟုတ်တစ်နေ့ ကြီးပွားတတ်စမြဲဖြစ်သည်။ ပညာတတ်သူကို အားကျလျှင် ပညာတတ်ကြီးဖြစ်နိုင်သကဲ့သို့၊ သူဌေးသူကြွယ်ကြီးများကို အားကျနေလျှင် သူဌေးသူကြွယ်ကြီးများဖြစ်ဖို့ အခွင့်လမ်းများ နီးစပ်လျက်ရှိသည်။

အနော်ရထာမင်းကြီးသည် သာသနာပြုမင်းများကို အားကျနေသူဖြစ်၍ သာသနာပြုမင်းများ၏ စိတ်ဓာတ်ကို အတုယူနိုင်ခဲ့သည်။အနော်ရထာမင်းကြီးသည် သာသနာတော်နှင့်ပတ်သက်လာလျှင် ဘုရားလက်ထက်က မဟာနာမ်မင်းကြီးကို အားကျအတုယူခဲ့သည်။ ဘုရားလက်ထက်တော်အခါက မဟာနာမ်မင်းကြီးသည် ဘုရားနှင့်ပတ်သက်လာလျှင် သို့မဟုတ် ဘုရားအတွက်ဆိုလျှင် ဘုရားဘက်မှာပဲ အမြဲရှိနေခဲ့သည်။ ဘုရားကို သူဘယ်လောက်လေးစားသည်၊ သူဘယ်လောက်ယုံကြည်သည်၊ သူဘယ်လောက် ကြည်ညိုသည်ဆိုတာကို သိစေချင်၍ ဘုရားကို စကားကုန်လျှောက်ထားခဲ့သူဖြစ်သည်။ မဟာနာမ်မင်းကြီး၏ လျှောက်ထားချက်ကို လေ့လာကြည့်စေချင်သည်။

အသျှင်ဘုရား၊ ငြင်းခုံမှုအကြောင်း တစ်စုံတစ်ခုဖြစ်ပေါ်၍ မြတ်စွာဘုရားကတစ်ဖက် ဘိက္ခုသံဃာက တစ်ဖက်ဖြစ်ခဲ့မူ အကျွန်ုပ်သည် မြတ်စွာ

ဘုရားဘက်၌သာ ဖြစ်ပါအံ့။ အသျှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်ကို ဤသို့ကြည်ညိုသူဟု မှတ်တော်မူပါ။ အသျှင်ဘုရား၊ ငြင်းခုံမှုအကြောင်း တစ်စုံတစ်ခုဖြစ်ပေါ်၍ မြတ်စွာဘုရားကတစ်ဖက် ဘိက္ခုသံဃာနှင့် ဘိက္ခုနီသံဃာက တစ်ဖက်ဖြစ်ခဲ့မူ အကျွန်ုပ်သည် မြတ်စွာဘုရားဘက်၌သာ ဖြစ်ပါအံ့။ အသျှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်ကို ဤသို့ကြည်ညိုသူဟု မှတ်တော်မူပါ၊

အသျှင်ဘုရား၊ ငြင်းခုံမှုအကြောင်းတစ်စုံတစ်ခုဖြစ်ပေါ်၍ မြတ်စွာဘုရားကတစ်ဖက် ဘိက္ခုသံဃာ, ဘိက္ခုနီသံဃာနှင့် ဥပါသကာတို့ကတစ်ဖက် ဖြစ်ကြလျှင် အကျွန်ုပ်သည် မြတ်စွာဘုရားဘက်၌သာ ဖြစ်ပါအံ့၊ အသျှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်ကို ဤသို့ကြည်ညိုသူဟု မှတ်တော်မူပါ။ အသျှင်ဘုရား၊ ငြင်းခုံမှုအကြောင်းတစုံတခုဖြစ်ပေါ်၍ မြတ်စွာဘုရားကတစ်ဖက် ဘိက္ခုသံဃာ, ဘိက္ခုနီသံဃာ, ဥပါသကာနှင့် ဥပါသိကာမတို့ကတစ်ဖက် ဖြစ်ကြလျှင် အကျွန်ုပ်သည် မြတ်စွာဘုရားဘက်၌သာ ဖြစ်ပါအံ့။ အသျှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်ကို ဤသို့ကြည်ညိုသူဟု မှတ်တော်မူပါ။

အသျှင်ဘုရား၊ ငြင်းခုံမှုအကြောင်း တစ်စုံတစ်ခုဖြစ်ပေါ်၍ မြတ်စွာဘုရားကတစ်ဖက် ဘိက္ခုသံဃာ, ဘိက္ခုနီသံဃာ, ဥပါသကာ, ဥပါသိကာမတို့နှင့် နတ်၊ မာရ်နတ်၊ ဗြဟ္မာနှင့်တကွသော နတ်လောကနှင့် သမဏ ဗြာဟ္မဏမင်းများ၊ လူများနှင့်တကွ လူ့လောကကတစ်ဖက် ဖြစ်ကြလျှင် အကျွန်ုပ်သည် မြတ်စွာဘုရားဘက်၌သာ ဖြစ်ပါအံ့။ အသျှင်ဘုရား၊ မြတ်စွာဘုရားသည် အကျွန်ုပ်ကို ဤသို့ ကြည်ညိုသူဟု မှတ်တော်မူပါ။ [၅၃]

မဟာနာမ်မင်းကြီး၏ စိတ်ထားမျိုးသည် အတုယူစရာကောင်းလှ၏။ လောက၌ ခံယူချက်မရှိသူသည် စိတ်အပြောင်းအလွဲမြန်တတ်သည်။ အဘယ်ကြောင့်ဤသို့ဖြစ်ကြရသလဲဆိုလျှင် သူတို့၏ ယုံကြည်ချက်တွေသည် မခိုင်မာသောကြောင့်ဖြစ်သည်။ ဘုရားအပေါ်၌ သဒ္ဓါတရားနှင့် ယုံကြည်ထားပြီး၊ ဉာဏ်နှင့်ယှဉ်သော စိတ်စေတနာ၊ တရားနှင့်ယှဉ်သော ဓမ္မအသိဉာဏ်တို့နှင့်

၅၃။ အမျိုးသားပညာဝန်ဦးဖိုးကျား။ ၃၇ မင်း။ နှာ ၃၅။





နှလုံးသားမှာ ခိုင်မြဲနေပြီဖြစ်သော မဟာနာမ်မင်းကြီး၏ နှလုံးသားသည် ကျောက်သားပြင်ပေါ်တွင် ထွင်းထုပြီးစိုက်ထားသော ကျောက်သားတိုင်ကြီးကဲ့သို့ ဖြစ်နေသည်။ ဘယ်အကြောင်းကြောင့်မှ မပျက်စီးနိုင်သော သဒ္ဓါတရားမျိုးကို သူပိုင်ဆိုင်ထားခဲ့သည်။ ဤကဲ့သို့သော ပုဂ္ဂိုလ်မျိုးတွေကို ကျမ်းဂန်များ၌ အဝေစ္စပသန္န–ဘုရား၊ တရား၊ သံဃာဆိုသော ရတနာမြတ်သုံးပါးအပေါ်၌ မတုန်မလှုပ် သက်ဝင်ယုံကြည်ထားသော ပုဂ္ဂိုလ်များဟု ဖော်ပြထားကြသည်။

ဘုရားလက်ထက်က မဟာနာမ်မင်းကြီး၏ စိတ်ဓာတ်ကို အနော်ရထာမင်းကြီး အားကျအတုယူနေသည်ကို ပုဂံပြည်သူ၊ ပြည်သားတို့သိချင်မှ သိကြပေလိမ့်မည်၊ ပြည်သူတွေ၊ ပြည်သားတွေ သိအောင်လည်း အနော်ရထာမင်းကြီးသည် ဘယ်တုန်းကမှ ပြောမပြထားပါ။ အနော်ရထာမင်းကြီး၏ ခံယူချက်မှာ ပြောပြီးမလိုက်နာနိုင်တာမျိုးထက် မပြောဘဲနှင့်လိုက်နာနိုင်အောင် ကြိုးစားနေတာမျိုးကို သူကလိုချင်သည်။ အနော်ရထာမင်းကြီးသည် ဘုရားသာသနာတော်နှင့် ပတ်သက်လာလျှင် စကားကို များများမပြောဘဲ အလုပ်ကိုပဲ များများလုပ်နေသော ရှင်ဘုရင်ကြီးတစ်ပါးဖြစ်သည်။

ဗုဒ္ဓသာသနာတော်အပေါ်မှာ သံယောဇဉ်ကြီးသလို ပုဂံပြည်သူ ပြည်သားအပေါ်မှာလည်း သံယောဇဉ်ကြီးလွန်းလှသည်။ ဤအကြောင်းများကြောင့် သူ့စိတ်ကူး၊ သူ့ဆန္ဒတို့ကို ပုံဖော်ဖို့ အချိန်ယူပြီး ကြိုးစားနေခြင်းဖြစ်သည်။ သာသနာတော်၏ ဂုဏ်ရောင်ကို စင်ကြယ်သောအရောင်ထွက်စေချင်သည်။ တစ်ချိန်တည်းမှာပင် ပြည်သူတို့၏ ဘဝတွေကိုလည်း မြှင့်တင်ပေးချင်နေသည်။ ဆည်တွေတူး၊ လမ်းတွေဖောက်၊ ကျောင်းတွေဆောက်ဆိုသည့် အလုပ်မျိုးတွေသည် တိုင်းပြည်တစ်ပြည်၏ ရုပ်ဝတ္ထုကြွယ်ဝခြင်း၏ သင်္ကေတသဘောမျိုးဖြစ်သော်လည်း ပြည်သူ၊ ပြည်သားတို့၏ စား, ဝတ်, နေ, ရေး, မချောင်လည်သေးဘူးဆိုလျှင် ထိုတိုင်းပြည်၏ ချမ်းသာကြွယ်ဝမှုမျိုးသည် ရေရှည်မခိုင်မြဲနိုင်သည်ဖြစ်၍ ပြည်သူ၊ ပြည်သားတို့၏ စား, ဝတ်, နေ, ရေး, ပြေလည်ရေးသည် သူ့အရေးပင်ဖြစ်နေကြောင်း အနော်ရထာမင်းကြီး သဘောပေါက်ထားသည်။ ပြည်သူ၊ ပြည်သားတို့၏ စား, ဝတ်, နေ, ရေး,

ပြေလည်ရေးသည်လည်း ချထားသောလမ်းစဉ်တို့ကလည်း မှန်ကန်ပါမှ၊ ကိုးကွယ်ထားသော ဘာသာတရားကလည်း စင်ကြယ်ပါမှ တိုင်းပြည်အေးချမ်းသာယာမည်။ တိုင်းပြည်အေးချမ်းသာယာပါမှ ပြည်သူ၊ ပြည်သားတို့၏ စား၊ ဝတ်၊ နေ၊ ရေးသည် ပြေလည်မည်။ ဤကဲ့သို့ သိမ်မွေ့လှသော အရှုပ်အထွေးမျိုးကို အနော်ရထာမင်းကြီးသည် သတိထား၍ မကိုင်တွယ်နိုင်လျှင် တိုင်းပြည်၏ အနာဂတ်ကံကြမ္မာသည် ဆိုးသည်ထက်ဆိုးသွားနိုင်ပေသည်။ ထို့ပြင်ရုပ်ဝတ္ထုတွေ၏ ချမ်းသာကြွယ်ဝမှုမျိုးသည် တစ်ဘဝစာပဲ ခံစားနိုင်သည်မို့ ဤဖြစ်စဉ်၏ သဘောမှန်ကို ကြည့်တတ်မြင်တတ်သော အနော်ရထာမင်းကြီးသည် ရုပ်ဝတ္ထုကြွယ်ဝမှုအပေါ်လောက်သာ အာရုံရောက်နေသော ပုဂံပြည်သူတို့အတွက် ရင်မအေးနိုင်အောင်ပဲ ဖြစ်နေခဲ့သည်။

အကျိုး၊ အပြစ်ကို မမြင်နိုင်၍ ''မီးရောင်ကို ရွှေတောင်လို့'' ထင်မှတ်မှားနေသော သားလှသည်းချာကို မီးပုံထဲမှ ဖွတ်အတင်းဆွဲထုတ်ခဲ့ရသည့် ဖခင်တစ်ယောက်၏ အကြင်နာမျိုးနှင့် သံသရာဆင်းရဲတွင်းထဲသို့ ကိုယ်တိုင်လည်း မဆင်းလို၊ ပုဂံပြည်သူပြည်သားတွေကိုလည်း မဆင်းစေချင်သော အနော်ရထာမင်းကြီး၏ ကရုဏာနှလုံးသားမျိုးသည် မြန်မာ့သမိုင်းမှာ ရှိကောင်းရှိနိုင်ပါသည်။ သို့သော် ရှားမှရှားလို့သာ ဆိုရပေမည်။ ဘုရားကို ''အရှင်''၊ သံဃာကို ''သခင်'' အရာမှာထားပြီး အရှင်ဟောသမျှကို နာခံ၊ သခင်ညွှန်ကြားသမျှကို လိုက်နာခဲ့သော အနော်ရထာမင်းကြီး၏ကျိုးနွံသည့် စိတ်ထား၊ ဖြူစင်မွန်မြတ်သည့် စိတ်စေတနာတို့သည် မြန်မာနိုင်ငံကြီးတည်နေသရွေ့ တည်ရှိနေပေလိမ့်မည်။

အနော်ရထာမင်းကြီး၏ စိတ်ဓာတ်ကို တကယ်ပင်အားကျမိပါသည်။ သို့ရာတွင် သာမန်လူသားတစ်ယောက်အတွက် အတုယူနိုင်သော အရာတွေရှိနေသလို၊ အတုမယူနိုင်သောအရာတွေကလည်း ရှိနေပြန်သည်။ အကြောင်းမှာမူ အနော်ရထာမင်းကြီးသည် ရေမြေ့ရှင် ရှင်ဘုရင်ကြီးတစ်ပါးပေမို့ ရှင်ဘုရင်များသာ လုပ်နိုင်သောအရာများကို ရှင်ဘုရင်တစ်ပါးအနေနှင့် တိုင်းပြည်အတွက်၊ သာသနာအတွက် ထိုက်ထိုက်တန်တန် လုပ်ပြနိုင်သည်။





သို့သော် ရှင်ဘုရင်မဟုတ်၍ ရှင်ဘုရင်တွေသာ လုပ်ပြနိုင်သော အရာတွေကို စာရေးသူတို့မလုပ်နိုင်၍ စိတ်ဓာတ်ကျစရာတော့ မရှိပါ။ အဘယ်ကြောင့်ဆိုသော် လောကမှာ ရှင်ဘုရင်များသာ လုပ်နိုင်သော အရာများရှိသလို၊ ပြည်သူပြည်သားများသာ လုပ်နိုင်သောအရာမျိုးတွေလည်း ရှိနေပါသေးသည်။ အမှန်တကယ်မှု တိုင်းရေး၊ ပြည်ရေး၊ သာသနာရေးကိစ္စများသည် မင်းနှင့်ပြည်သူ ကြည်ကြည်ဖြူဖြူဖြင့် ပူးပေါင်းဆောင်ရွက်မှသာ ဖြစ်နိုင်သောအရာများ ဖြစ်ပါသည်။ တစ်ဦးတစ်ယောက်ကောင်းနှင့် ပြုနိုင်သောအရာမျိုးဆိုသည်မှာ လောကမှာ မရှိသလောက် ဆိုရလောက်အောင် ရှားလှပါသည်။

သို့ရာတွင် အနော်ရထာမင်းကြီးကဲ့သို့ စာရေးသူတို့ သန္တာန်မှာဖြစ်နိုင်သော အနေအထားတစ်ခုတော့ ရှိပါသည်။ ထိုအရာမှာ တခြားမဟုတ်ပါ။ အနော်ရထာမင်းကြီးကဲ့သို့ ဘာသာသွေး၊ ဘာသာစိတ်ဓာတ်၊ သာသနာသွေး၊ သာသနာ့စိတ်ဓာတ်မျိုးကို မွေးမြူရန်ဖြစ်သည်။ ကိုယ့်ပြည်၊ ကိုယ့်မြေ၊ ကိုယ့်ဘာသာ၊ ကိုယ့်သာသနာဆိုသည်မှာ ဗုဒ္ဓဘာသာဝင် လူမျိုးတိုင်း၏ အမွေပစ္စည်း၊ အမွေဥစ္စာတွေဖြစ်သည်။ သို့သော် မလိုချင်သောသူတွေအတွက် ဤအမွေတွေကို မရနိုင်ပါ။ တန်ဖိုးမဖြတ်နိုင်သော အမွေတွေကို ကိုယ့်လက်ထဲမှာ ရှိနေစဉ်အခါမှာ တန်ဖိုးမထားနိုင်ကြ၊ တန်ဖိုးကို နားမလည်နိုင်ကြဘူးဆိုလျှင် ဆုံးရှုံးသွားပြီးသောအခါ ပြန်ရဖို့ဆိုသည်မှာ မဖြစ်နိုင်တော့သည့် အခြေအနေမျိုးမှာ ရှိနေတော့သည်။ ပစ္စည်းတစ်ခု၏တန်ဖိုးကို ကိုယ့်လက်ထဲမှာ ရှိနေစဉ် ထိုပစ္စည်း၏ တန်ဖိုးကို သိသောသူသည် လူလိမ္မာ၊ လူပညာရှိ၊ ရဟန်းလိမ္မာ၊ ရဟန်းပညာရှိများလို့သာ အမွှန်းတင်၍ဆိုနိုင်ပေသည်။

စာဖတ်သူတို့သည် ရှင်ဘုရင်များမဟုတ်ကြ၍ ရှင်ဘုရင်များသာ လုပ်နိုင်သော အလုပ်တွေကို မလုပ်နိုင်ကြသော်လည်း သာသနာတော်အတွက် ကိုယ်နှင့်အသက်ကို မငဲ့ကွက်သော စိတ်ဓာတ်မျိုးတော့ ကိုယ်စီကိုယ်စီရှိသင့်သည်။ ''နှမ်းတစ်လုံးတည်းနှင့် ဆီမဖြစ်နိုင်'' သော်လည်း ဗုဒ္ဓဘာသာဝင်တို့၏ အင်အားတွေ သာသနာတော်အတွက် ရှိနေသမျှကာလပတ်လုံး မြန်မာပြည်၌ သာသနာတော်၏ အရောင်သည် ထွန်းလင်းမြဲ ထွန်းလင်းနေဦးမည်သာ။

ထို့ကြောင့် မြန်မာပြည်သူ၊ ပြည်သားတို့သည် ရှိသမျှအင်အားတွေကို စုစည်း၍ ထားနိုင်ကြမည်ဆိုလျှင် သာသနာအတွက် အားတွေဆိုသည်မှာ ရှိနေသေး၍ မြန်မာပြည်နှင့်သာသနာသည် ရေနှင့်ကြာပမာအလား ရှိနေပေလိမ့်မည်။ ဤကဲ့သို့သော အားမျိုးတွေကို စုပေါင်းရယူနိုင်ဖို့အတွက် ဘာသာသွေး ဘာသာစိတ်ဓာတ်မျိုးတော့ ရှိဖို့လိုသည်။ သာသနာ၏ အသက်သည် အကျင့်တရားဖြစ်သည်။ ဆိုလိုသည်မှာ အကျင့်တရားသည်သာ သာသနာ၏ အသရေကို ဆောင်နိုင်သည်။ ဥပမာ၊ ဗုဒ္ဓဘာသာဝင်များထဲမှ အရက်သေစာသောက်တတ်သူသည် အရက်သေစာကို သီလအကျင့်သဘောအရ ဖြတ်တောက်နိုင်ခြင်းသည် သာသနာတော်အတွက် အင်အားတွေ ဖြစ်လာနိုင်သည်။ဗုဒ္ဓဘာသာဝင်များဖြစ်ကြသော သူ့မိသားစုအတွက်လည်း အင်အားတွေ ဖြစ်လာနိုင်သည်။ ထိုနည်းတူစွာပင် ခိုးကစားသူ၊ လောင်းကစားသူ၊ မကောင်းမှုစရိုက်တွေကို ပြုကျင့်နေသူတို့သည် မိမိတို့၏ မကောင်းမှုဒုစရိုက်လုပ်ငန်းများကို ရှောင်ကြဉ်လိုက်ခြင်းသည်ပင် သာသနာတော်အတွက်သော်လည်းကောင်း၊ မိသားစုအတွက်သော်လည်းကောင်း အင်အားတွေကို ဖြစ်စေနိုင်သည်။ သို့သော် ဘယ်အရာမျိုးကိုမဆို ခံယူချက်ရှိမှ၊ စွန့်စွန့်စားစားလုပ်မှ ဖြစ်သင့်တာတွေ ဖြစ်လာနိုင်ကြောင်း သတိမူသင့်ပါသည်။

တိုင်းပြည်နှင့် လူမျိုး၊ ဘာသာနှင့် သာသနာအတွက် ခံယူချက်တွေ ရှိလာပြီဆိုလျှင် အနော်ရထာမင်းကြီး၏ စိတ်ဓာတ်မျိုးတွေ၊ သာသနာတော်အပေါ်မှာ သစ္စာထားခြင်းဆိုသည့် ပေးဆပ်ခြင်းမျိုးတွေ၊ တိုင်းပြည်နဲ့လူမျိုး၊ ဘာသာနဲ့သာသနာအတွက် ထားနိုင်သည့် သတ္တိ၊ ဗျတ္တိမျိုးတွေ၊ အင်အားမျိုးတွေ ဤအခြေအနေမျိုးတွေကို ကျွန်ုပ်တို့တစ်တွေ လက်ဆင့်ကမ်းသယ်ယူကြရပေလိမ့်မည်။ ဤကဲ့သို့မြင့်မြတ်သောစိတ်ထား၊ ထက်သန်သောစိတ်ဓာတ်တို့နှင့် လက်ဆင့်ကမ်းသယ်ယူနိုင်ကြမည်ဆိုလျှင် တိုင်းပြည်သည် တို့တိုင်းပြည်၊ သာသနာသည် တို့သာသနာအနေနှင့် ဆက်လက်တည်ရှိပေလိမ့်မည်။

နတ်ကိုးကွယ်မှုသည် ဘာသာ, သာသနာအတွက် အန္တရာယ်ရှိလှသည် မဆိုသာသော်လည်း ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့အတွက်တော့





အန္တရာယ်ရှိနေသည်ဟု ယူဆမိသည်။ အဘယ့်ကြောင့်ဆိုသော် နတ်များကို ဆက်လက်၍ ကိုးကွယ်ပူဇော်ပသနေခြင်းသည် နတ်ကိုဗန်းပြ၍ ကိုယ်ကျိုးစီးပွားရှာနေကြသော ပုဂ္ဂိုလ်တို့အား အားပေးအားမြှောက်ပြုနေသည့် အနေအထားမျိုးသို့ ရောက်နေ၍ ဗုဒ္ဓဘာသာဝင်ကောင်းတစ်ယောက် ဖြစ်လိုသူတို့အတွက် ဘုရားသာသနာတော်ဘက်က ရပ်တည်ရဲသောအနေအထားမျိုးသည် အားပျော့နေသည်ဟု ဆိုရပေတော့မည်၊ အကယ်၍သာ စာရှုသူသည် ဘာသာ, သာသနာအတွက် ယုံကြည်ချက်တွေ၊ ခံယူချက်တွေ တကယ်ရှိနေသူတစ်ယောက် ဖြစ်နေခဲ့ပြီဆိုလျှင် ဘယ်အကြောင်းကြောင့်ပင်ဖြစ်ဖြစ်၊ ဘယ်အခြေအနေကြောင့်ပင်ဖြစ်ဖြစ် ဘုရားသာသနာတော်ဘက်က ရပ်တည်ရဲသော သတ္တိမျိုးတွေသည် ရှိနေရမည်သာဖြစ်၏။

အကယ်၍များ စာရှုသူသည် နတ်နှင့် ဗုဒ္ဓကိုးကွယ်မှု နှစ်ခုအကြားမှာ အားပြိုင်မှု ရှိလာပြီဆိုလျှင် သင်၏ အနေအထားသည် အဘယ်သို့ရှိမည်နည်း။ ပြောရမည်ဆိုလျှင် – အကယ်၍များ လောကနေ နတ်ဝါဒီ, နတ်ဝါဒများ၏ အယူဝါဒကတစ်ဖက်၊ ဘုရားရှင်၏ အဆုံးအမဖြစ်သော သာသနာတော်က တစ်ဖက် ဖြစ်နေခဲ့လျှင် သာသနာတော်ဘက်ကပဲ ကောင်းစွာရပ်တည်ကြရမည် ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်တို့သည် သာသနာတော်အရေးကို ဉာဏ်ဖြင့် စဉ်းစားသက်ဝင်နိုင်ကြပါစေ။



## အခန်း(၉)

### သိလည်းသိပါစေ၊ ကျင့်လည်းကျင့်ပါလေ

ကိုးကွယ်မှုဘာသာတရားနှင့် ပတ်သက်၍ ''ပေးကမ်းစွန့်ကြဲ လှူဒါန်းခြင်းသည် လူနတ်ချမ်းသာကို ဖြစ်စေ၏'' ဟူသော အဆိုအမိန့်ကို သဒ္ဓါစစ်, သဒ္ဓါမှန်ဖြင့် ဗုဒ္ဓဘာသာတရားကို ယုံကြည်ထားသူတစ်ယောက်သည် လေးလေးစားစား မြတ်မြတ်နိုးနိုးဖြင့် ရတနာသုံးပါးအား ဂုဏ်မဖက်စေဘဲ ရိုးသားစွာဖြင့် အလှူဒါနတို့ကို ပြုသင့်၏။ အတ္တမဖက်စေဘဲ လေးစားစွာဖြင့် သံဃာတော်တို့ထံသို့ ချဉ်းကပ်သင့်၏။ သို့သော် သာသနာတော်အတွင်း၌ ဂုဏ်မဖက်, အတ္တမဖက်ဘဲ သံဃာတော်တို့ကို ရိုရိုသေသေဖြင့် ချဉ်းကပ်တတ်သူတို့မှာ အလွန်ပင်နည်းပါးလာပြီ၊ ရတနာသုံးပါးမှတစ်ပါး ကိုးကွယ်ရာမရှိသင့်သော ဗုဒ္ဓဘာသာဝင်တစ်ယောက်အနေနှင့် နတ်တို့ကို အလေးထား၍ ကိုးကွယ်နေခြင်းသည် အနာဂတ်သာသနာအတွက် အင်အားချည့်နဲ့စရာ အကြောင်းတစ်ရပ်ဖြစ်နေသည်။ ''ပေးကမ်းစွန့်ကြဲ လှူဒါန်းခြင်းသည် လူနတ်ချမ်းသာကို ဖြစ်စေ၏'' ဟုဆိုရာ၌ မိမိပေးကမ်းစွန့်ကြဲလိုက်ခြင်းကြောင့် ''လူနပ်တွေ'' ချမ်းသာစေသည့်အဖြစ်မျိုးတော့ မဖြစ်သင့်ပြီ။

**အပ္ပမာဒတဝဉ်**

လူနပ်, လူလည်တို့သည် နတ်တွေကို ဇန်းပြလျက် လူအ, လူနများကို ကောင်းကောင်းလှည့်စားနိုင်ကြသည်ဖြစ်၍ နတ်ကနားပေး၍ လျှုဒါန်းသူများ သည်လည်းကောင်း၊ နတ်အုန်းသီး၊ နတ်ငှက်ပျောသီးတို့ဖြင့် နတ်တို့အား ပူဇော်ပသသူတို့သည်လည်းကောင်း ကိုးကွယ်ရာ မမှန်ကြ၍ အကျိုးရသင့် သလောက် မရကြတော့ဘဲ နောက်ဆုံးမှာတော့ "လူနပ်တွေသာ ချမ်းသာ" ခြင်းသို့ ရောက်ကုန်ကြတော့သည်။ သတိတရားဖြင့် ဆင်ခြင်နိုင်ကြပါစေ။

နတ်ကိုးကွယ်မှုများတွင် မိရိုးဖလာဓလေ့ထုံးစံအနေအထားဖြင့် အမြစ်တွယ်နေပြီဖြစ်သော ဗုဒ္ဓဘာသာဝင်မြန်မာလူမျိုးတို့သည် နတ်ဆိုသည့် အသံကို ကြားရလျှင် ကျောချမ်းချင်နေကြသည်။ ဤသို့ဖြစ်ရခြင်းမှာလည်း အဆန်းတော့မဟုတ်ပါ၊ ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့သည် များသောအားဖြင့် စဉ်းစားတွေးခေါ်ခြင်း အတတ်ပညာကို စာသင်ကျောင်းများမှာလည်း မသင် ကြားရ။ ဘုန်းကြီးကျောင်းများမှာလည်း မသင်ကြားကြရ။ ရပ်ထဲ၊ ရွာထဲ၊ မြို့ထဲမှာလည်း ဆွေးနွေးခြင်း, ဟောပြော, ပြသခြင်း အလေ့အထများ မရှိကြ၍ ယုံဆိုလျှင် ဘာကြောင့်ယုံမှန်းမသိ ယုံလိုက်ကြခြင်းဖြစ်သည်။မြန်မာလူမျိုးများ ဉာဏ်ရည်ဉာဏ်သွေးများ ပိုမိုရှိလာပြီး စဉ်းစားတွေးခေါ် မြော်မြင်တတ်လာ အောင် စကားပြောခြင်းအတတ်ပညာများ၊ စကားရည်လုပွဲများ၊ အပြန်အလှန် စကားပြောခြင်းအတတ်ပညာများ၊ စာရေးခြင်းအတတ်ပညာများ၊ အကြောင်း အရာတစ်ခုကို မူတည်ထား၍ အတူတကွ အဖြေရှာနိုင်ရန် ဆွေးနွေးတတ်ခြင်း အတတ်ပညာများကို စွမ်းနိုင်သောပုဂ္ဂိုလ်များမှ သင်ကြားပေးသင့်ပါသည်။ ထိုသို့ပြုလုပ်ပေးကြမည်ဆိုလျှင် ကိုယ်ပိုင်ဉာဏ်ဖြင့် စဉ်းစားတတ်၊ တွေးခေါ် တတ်၊ မြော်မြင်တတ်လာပြီး၊ မည်းမည်းမြင်တိုင်း၊ ဝါဝါမြင်တိုင်း၊ စိမ်းစိမ်း မြင်တိုင်း ကြောက်တတ်ကြတော့မည် မဟုတ်ပါ။ ဤသည်မှာ စဉ်စားဉာဏ်ရှိသူ တို့၏ သဘောဓမ္မတာပင်ဖြစ်သည်။

အမှန်မှာ ဗုဒ္ဓဘာသာထွန်းကားသော မြန်မာနိုင်ငံလိုနိုင်ငံမျိုး၌ ဘာမှန်းမသိ ညာမှန်းမသိ ယုံကြည်ရသည့် အဖြစ်မျိုးတွေ မရှိသင့်ပါ။ ဗုဒ္ဓ တရားတော်များသည် "ဝိဘဇ္ဇဝါဒ –ဝေဖန်စဉ်းစားပြီးမှ ယုံကြည်လက်ခံသော





ဝါဒ"ကို အခြေခံထားပြီး မျက်ကန်းယုံ ယုံကြည်ခြင်းမျိုး၊ ဉာဏ်ဖြင့် မစူး စမ်းမဆင်ခြင်ဘဲ ယုံကြည်ခြင်းမျိုးကို အားမပေးသောဝါဒဖြစ်သည်။ အရာ ဝတ္ထုတစ်ခု သို့မဟုတ် အကြောင်းအရာတစ်ခုကို ယုံကြည်နေပြီဆိုလျှင် "ဘာကို ယုံသနည်း"၊ "ဘယ်လိုယုံသနည်း"၊ "ဘာကြောင့်ယုံသနည်း"၊ "ဘယ်အတွက် ယုံသနည်း" စသည်ဖြင့် ဝေဖန်စဉ်းစားပြီးမှ ယုံကြည်ရသည့် ဝါဒမျိုးဖြစ်သည်။

ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့သည် နတ်များကို ပူဇော်ပသ ကိုးကွယ် နေကြရသော်လည်း "နတ်" ဆိုတာဘာလဲ။ နတ်တွေအစွမ်းက ဘယ်ရွေ့ ဘယ်မျှလောက်ထိ ရှိသလဲ။ နတ်များ၏လုပ်ပိုင်ခွင့်က ဘယ်လောက်ထိ ရှိသလဲ စသည်ဖြင့် နတ်တွေအကြောင်းကို မသိသူတွေသာ များသည်။ မြန်မာပြည်၌ ဘာသာရေး အခြေခံအားနည်းနေသူတွေ ပေါ်နေ၍ "လူနပ်"တွေ ချမ်းသာနေ ကြ၏။

ဗုဒ္ဓစာပေကျမ်းဂန်များ၌ နတ်၊ ဗြဟ္မာတွေ ရှိကြောင်းကို ဘုရား၊ ရဟန္တာ ပုဂ္ဂိုလ်ထူးများသည် အဘိညာဉ်၊ တန်ခိုးတို့ဖြင့် တွေ့မြင်နိုင်ကြောင်းကို အတိအလင်းဖော်ပြထားပါသည်။ တရားတော်များကို ဉာဏ်ဖြင့်ကောင်းစွာ မသက်ဝင်နိုင်ကြသေးသော မြန်မာပြည်သူ၊ ပြည်သားတို့သည် မမြင်နိုင်သော သတ္တဝါတစ်ယောက်ကို တစ္ဆေမှန်းမသိ၊ သရဲမှန်းမသိ၊ ဘီလူးမှန်းမသိ၊ နတ်မှန်း မသိကြတော့ဘဲ၊ အမှောင်ထဲမှာ မည်းမည်းမြင်လျှင် ဒါဟာ "နတ်ကြီး"ပဲဟု ထင်ပြီး အထင်နဲ့သာ ကိုးကွယ်နေကြသည်။ နတ်တွေကို ကိုးကွယ်ပူဇော်ပသ လျှင် ကြီးပွားမည်အထင်နှင့် နတ်ကတော်၊ နတ်ထိန်းတော်တို့အား ရက်ရောစွာ စွန့်ကြခဲ့ကြ၍ နောက်ဆုံးမှာတော့ အမွဲကြီးမွဲခဲ့ရပေတော့၏။ ဤကဲ့သို့သော ပုဂ္ဂိုလ်များသည် သူများကယ်၍ မရနိုင်ပါ။ နတ်များကယ်၍လည်း မရနိုင်ပါ။ အမှန်ကတော့ သူတို့ကိုယ် သူတို့သာ အသိဉာဏ်နှင့် ကယ်ကြရန်သာ ဖြစ်သည်။ "ကြောက်တတ်လျှင် ဘေးဖြစ်"၊ "ဥပါဒါန်ကြောင့် ဥပဒ်ရောက်" ဆိုသည့် အဖြစ်မျိုးတွေကို ဗုဒ္ဓဘာသာဝင်များ ဉာဏ်ဖြင့် စဉ်းစားဆင်ခြင်သင့်လှ၏။

ပုထုဇဉ်မှန်လျှင် ကြောက်တတ်သည်မှန်သော်လည်း ဘာမသိ ညာမသိနှင့် ကြောက်နေရသည့် အဖြစ်မျိုးကတော့ မဖြစ်သင့်ပါ။ ဉာဏ်နှင့်

ကြောင်းကျိုးဆင်ခြင်ပြီးမှ ကြောက်ရတာမျိုးသာ ဖြစ်သင့်ပါသည်။ ဥပမာ–ပင်လယ်ကြီးကိုပင် တစ်ခါမျှ မမြင်ဖူးသော လူက ဘာမသိ၊ ညာမသိနှင့် "ဦးရှင်ကြီးနတ်"ကို ကြောက်ကြောက်လန့်လန့်နှင့် ကိုးကွယ်နေရသည့်အဖြစ်မျိုး၊ အရက်ကြိုက်သော လင်တော်မောင်က အရက်သောက်ချင်၍ "ကိုကြီးကျော်" ဆိုသော လေထဲက နတ်ကြီးကို ကြက်ကြော်၊ အမဲကြော်အပါအဝင် အရက်မျိုးစုံတို့ဖြင့် အိမ်ရှင်မအား နတ်တင်ခိုင်းနေတာမျိုး။ ဤကဲ့သို့သော ယုတ္တိမတန်သော အမှုကိစ္စမျိုးတွေကို ဉာဏ်နှင့်ယှဉ်ပြီး ပြုသင့်၊ မပြုသင့် စဉ်းစားဆင်ခြင်သင့်ပါသည်။ ဤကဲ့သို့သာ မဆင်ခြင် မစဉ်းစားဘဲ ဆက်လက်ပြုနေကြမည်ဆိုလျှင် လူကောင်းတွေ ဆင်းရဲ၍ "လူနပ်"တွေ ချမ်းသာဖို့ အခွင့်အလမ်းများကို ဖွင့်ပေးရာရောက်ပေတော့မည်။ သတိတရားထား၍ ဉာဏ်ဖြင့် စဉ်းစားဆင်ခြင်နိုင်ကြနိုင်ပါစေ။

ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့သည် ဗုဒ္ဓဓမ္မကို အခြေခံ၍ ဉာဏ်နှင့်ယှဉ်ပြီး မစဉ်းစား မဆင်ခြင်နိုင်သမျှကာလပတ်လုံး နတ်ဝင်သည်၊ နတ်ထိန်းသည်တို့အတွက်မူ "မှတ်ဆိတ်ပျားစွဲ" ကိန်းဆိုက်နေပေမည်။ သူတို့အတွက်တော့ ဤလောကကြီး၌ ကြောက်တတ်သူများ ရှိနေသမျှကာလပတ်လုံး အိမ်တွင်းနတ်ကြီးဖြင့်သော်လည်းကောင်း၊ မင်းကြီး၊ မင်းလေးတို့ဖြင့်သော်လည်းကောင်း ကြောက်တတ်သူတို့အား ခြောက်ပြနေကြပေဦးမည်။ အလိမ်ခံ၊ အညာခံချင်သော သူတို့အတွက် ကိုကြီးကျော်က ဆက်လက်၍ ကူညီပေးနေရပေဦးမည်။ ကိုကြီးကျော်မှာ အပြစ်မရှိဘူးဟု ဆိုရမှာပါ။ ကိုကြီးကျော် အမည်ခံနတ်ဆိုတာလည်း တကယ်မရှိလို့ပါ။ ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးအများစုတို့သည် များသောအားဖြင့် ဘဝတိုးတက်ရေးအတွက် ခံယူချက်ကလည်း အားနည်း၊ အသိဉာဏ်ကလည်း အားပျော့၊ စဉ်းစားဆင်ခြင်ခြင်းအလေ့အထကလည်း မရှိ "ပျော်ပျော်နေ သေခဲ" ဆိုသည့် အမူးသမား၊ အရူးသမားတို့၏ လမ်းညွှန်မှုသြဝါဒကိုလည်း ခံယူထားလေတော့ ပျော်နေခြင်း၊ မူးနေခြင်းဖြင့်သာ အချိန်တွေကို ကုန်လွန်စေခဲ့ကြသည်။ ခံယူချက်အပြည့်ဖြင့် သာသနာ့ကိစ္စအဝဝကိုလည်းကောင်း၊ တိုင်းရေး၊ ပြည်ရေးကိစ္စအဝဝတို့ကိုလည်းကောင်း၊





လူမှုရေးကိစ္စအဝဝတို့ကိုလည်းကောင်း အားအင်ရှိသမျှ ကြိုးစား၍ ဆောင်ရွက်သွားရာသော အနော်ရထာမင်းကြီး၏ ဖြူစင်သော စေတနာ၊ ကိုယ်ကျိုးမဖက် ပုဂံပြည်သူ၊ ပြည်သားတို့အတွက် အနစ်နာခံနိုင်သော နှလုံးသားမျိုးကတော့ တကယ်ပင် လွမ်းလောက်စရာပါ။ အနော်ရထာမင်းကြီး၏ နွေးထွေးသော၊ ရဲရင့်သော၊ ဖြူစင်သော ကရုဏာနှလုံးသားဖြင့် တည်ဆောက်ခဲ့သော ဗုဒ္ဓဘာသာနိုင်ငံတော်ကြီးအတွက် အနော်ရထာမင်းကြီး၏ ရည်မှန်းချက်တို့သည် "သဲထဲရေသွန်ပမာ" ဖြစ်သွားမှာကိုတော့ စိုးရိမ်နေမိတာ အမှန်ပါ။

ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတစ်ယောက်အနေနှင့် နိစ္စဓူဝနေ့စဉ် အလေ့အကျင့်မျိုးအဖြစ် ပြုလုပ်သင့်သည်မှာ အိမ်မှာ အနေများသော ပုဂ္ဂိုလ်မျိုးဆိုလျှင် တရားစာအုပ်များကို ဖတ်ခြင်း၊ ဘုရားရှိခိုးခြင်း၊ ဂုဏ်တော်ပွား၍ ပုတီးစိပ်ခြင်း၊ တရားထိုင်ခြင်း စသည်ဖြင့် တစ်ခုခုကို ပြုနေသင့်ပါသည်။ ဗုဒ္ဓဘာသာဝင်ဆိုသော ပုဂ္ဂိုလ်တစ်ယောက်သည် တကယ်အကျိုးရနိုင်သော အလုပ်မျိုးကို အားမထုတ်ပါဘဲ၊ နတ်အုန်းသီးဆွဲဖို့လောက်၊ အိမ်တွင်းနတ်ကို ပူဇော်ပသဖို့လောက်၊ ရွာထိပ်မှာရှိသော ရွှေညောင်ပင်၊ ကုက္ကိုပင်စသော သစ်ပင်စောင့်နတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ် စသည်တို့ကို ပူဇော်ပသကြဖို့လောက်သာ စိတ်များက ရောက်နေကြမည်ဆိုလျှင် အနာဂတ်သာသနာတော်အတွက် ရင်လေးစရာများပင် ဖြစ်နိုင်သည်။ ပိုက်ဆံလေးစုမိလျှင် မင်းမဟာဂီရိ (ပုပ္ပါး) နတ်ပွဲ၊ တောင်ပြုံးနတ်ပွဲနှင့် ရတနာဂူနတ်ပွဲတွေကို သွားပြီး ဘယ်လိုပူဇော်ပသမည်၊ ဘယ်လိုပျော်ကြမည်လောက်သာ စိတ်ဆန္ဒတွေ ဖြစ်နေကြမည်ဆိုလျှင် ဗုဒ္ဓဘာသာဝင်တစ်ယောက်၏တန်ဖိုး၊ ဗုဒ္ဓဘာသာဝင်တစ်ယောက်၏ ဂုဏ်သိက္ခာဆိုသည်မှာ အဘယ်မှာလျှင် ရှိနိုင်ပါတော့အံ့နည်း။

ဤနည်းဖြင့်သာ အချိန်ရှိသရွေ့ နတ်တွေကို ပူဇော်ဖို့လောက်၊ ပသဖို့လောက်၊ ပျော်ဖို့လောက်သာ စိတ်တွေရောက်နေကြမည်ဆိုလျှင် အမျိုးသားပညာဝန်ဦးဖိုးကျား ရေးသားပြောဆိုခဲ့သော "သာသနာသည်

နတ်ကိုးကွယ်မှုကို လုံးဝမနှိမ်နိုင်'' ဆိုသည့် စကားသည် မှန်ရာရောက်ပေတော့မည်။

ပညာဝန်ဦးဖိုးကျား၏ စကားကို မကန့်ကွက်လိုသော်လည်း မထောက်ခံလိုပါ။ အဘယ်ကြောင့်ဆိုသော် သာသနာသည် နတ်များကိုနှိမ်နင်းရန် မကြိုးစားပါ။ သို့သော် မရှိဘဲနှင့် အရှိလုပ်ထားသော အရာမျိုး၊ ယုံကြည်လွယ်သူ၊ ကြောက်တတ်သူတို့အား အယူမှားများဆီသို့ တိမ်းပါးအောင် ခြောက်၍တစ်ဖုံ၊ မြှောက်၍တစ်ခင်း သိမ်းသွင်းခြင်းအမှုများကို ပြုနေသော ပူဇော်ပသမှုမျိုးများနှင့် ပစ္စုပ္ပန် အကျိုးစီးပွား၊ သံသရာအကျိုးစီးပွားများကို လုံးဝမဖြစ်စေဘဲ (၃၇)မင်းနတ်ရုပ်များကို ဗန်းပြပြီး ကိုယ့်ကျိုးစီးပွားရှာနေကြသော ပုဂ္ဂိုလ်များကိုသာ ဖယ်ရှားနိုင်ရန် အသိဉာဏ်များ ပေးဝေနေခြင်းဖြစ်သည်။ သာသနာ့ဝန်ထမ်း ရဟန်းတော်များသည်လည်း ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့အား မေတ္တာနှလုံးသားဖြင့် အသိဉာဏ်ကိုပေး၍ ကရုဏာနှလုံးသားဖြင့် နည်းမှန်၊ လမ်းမှန်သို့ရောက်အောင် ဆောင်ရွက်ပေးနေခြင်းသာ ဖြစ်သည်။

ထို့ပြင်တစ်ဝ သာသနာ့ဝန်ထမ်း ရဟန်းတော်များသည် ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်နေသူ ဗုဒ္ဓဘာသာဝင်တို့အား တရားနှင့်အညီ ကျင့်တတ်၊ နေထိုင်တတ်အောင် သွန်သင်၊ ဆုံးမ၊ ဟောကြားပြသခြင်း။ ဗုဒ္ဓဓမ္မကို သိလည်းသိစေ၍ ဗုဒ္ဓဓမ္မနှင့်အညီကျင့်တတ်၊ နေထိုင်တတ်ပြီးလျှင် ကိုယ်ပိုင်ဉာဏ်ဖြင့် ကိုးကွယ်သင့်သောအရာ၊ မကိုးကွယ်သင့်သောအရာတို့ကို ''အဖြူအမည်း'' သဲကွဲအောင်ပြပေးခြင်း၊ ''ကိုးကွယ်ထိုက်သောအရာ၊ မကိုးကွယ်ထိုက်သောအရာ''တို့ကို ကွဲပြားခြားနားစွာ သိနိုင်အောင်၊ ဉာဏ်သဘော သက်ရောက်စေအောင် ကြိုးစားပေးနေကြခြင်းဖြစ်သည်။ ဓမ္မဝိနယနှင့်အညီ ''မှန်သောအယူ၊ မှားသောအယူ''တို့ကို ဓမ္မမှတ်ကျောက်ပေါ်မှာ ကိုယ်တိုင်တင်ကြည့်ပြီး မှန်သည်ကိုလက်ခံ၊ မှားသည်ကိုပယ်ရှားနိုင်ဖို့ သာသနာ့ဝန်ထမ်း ရဟန်းတော်များသည် ဓမ္မအလင်းကို ထွန်းညှိပေးနေခြင်းဖြစ်သည်။





ထိုထိုအခြေအနေတို့ကို ဉာဏ်ဖြင့် ကောင်းစွာသက်ရောက်ထားပြီးဖြစ်ကြသော ရဟန်းရှင် လူ၊ ပြည်သူ၊ ပြည်သားတို့သည် သာသနာတော်၏ ''အုတ်အရောရော ကျောက်အရောရော''ဖြစ်နေသော အလေ့အကျင့်များနှင့် ကိုးကွယ်ပူဇော်ပသခြင်းများကို ကြိုးစား၍ ဖယ်ရှားပေးကြပြီး၊ ဓမ္မအသိဉာဏ်များ အားနည်း၍နေကြသေးသော ပြည်သူ၊ ပြည်သားတို့အား တရားအသိဉာဏ်များ တိုးပွားအောင် ဟောပြောခြင်း၊ ရေးသားခြင်း၊ ဆွေးနွေးခြင်းကူညီပေးခြင်းတို့ကို ပြုလုပ်ပေးခြင်းဖြင့် ဓမ္မအလင်းတန်းများကို ပြည်သူ၊ ပြည်သားတို့၏ နှလုံးသားအိမ်အတွင်းသို့ အဆက်မပြတ် ဝင်ရောက်နိုင်အောင် ဓမ္မမီးအိမ်ကို ကြိုးစား၍ ထွန်းညှိပေးကြစေလိုပါသည်။

အထူးမေတ္တာရပ်ခံလိုသည်မှာ ကျက်သရေမင်္ဂလာများနှင့် ပြည့်ဖြိုးဝေဆာနေသော မြတ်ဗုဒ္ဓသာသနာတော်ကြီးကို ''ယုန်ထင် ကြောင်ထင်'' ဖြစ်စေနိုင်သော ဘုရားစေတီ ပုထိုးများ၌ ဂြိုဟ်ကြီး(၈)လုံးထားပြီး ကိုးကွယ်နေခြင်းများ၊ ရွှေတိဂုံစေတီ၊ ဆူးလေစေတီ၊ ကျိုက္ကဆံစေတီစသော တန်ခိုးကြီးဘုရားများ၏ ပရိဝုဏ်များအတွင်း၌ နတ်ရုပ်၊ နတ်နန်းများထား၍ ဘုရားကိုမှီ၍ ကပ်စားနေရသောနတ်များက (နတ်ကတော်များ၊ နတ်ထိန်းများစသည်များက) ဘုရားကို သူတို့ကပဲ ပြန်ပြီးစောင့်ရှောက်နေကြသယောင်ယောင် လူတို့အား အထင်မှားတို့ကို ဖြစ်စေလျက် ထေရဝါဒသာသနာတော်ကြီး၏ ကျက်သရေမင်္ဂလာတို့ကို ဆုတ်ယုတ်စေပါသည်။ လေးလေးနက်နက် စဉ်းစားဆင်ခြင်၍ ဖယ်ရှားသင့်ကလည်း အမြန်ဖယ်ရှားပေးသင့်ပါသည်။ သို့မှသာလျှင် သီလ, သမာဓိ, ပညာ သိက္ခာသုံးရပ်တို့ဖြင့် တည်ထောင်ထားခဲ့သော ထေရဝါဒဗုဒ္ဓသာသနာ၏ ကောင်းမြတ်ဖြူစင်သော တရားဓမ္မများကို နည်းမှန်လမ်းမှန်ဖြင့် အမှန်တကယ်ကျင့်သုံးလိုကြသော ဗုဒ္ဓဘာသာဝင်တို့အား ပစ္စုပ္ပန်၊ သံသရာနှစ်ဖြာသော ကောင်းကျိုးများကို ရရှိနိုင်ကြပေလိမ့်မည်။

နိဂုံးချုပ်အားဖြင့် '၃၇'မင်းဆိုင်ရာ နတ်များသည် တစ်ချိန်တစ်ခါက သတ္တဝါတစ်မျိုးမျိုးအနေနှင့် ရှိကောင်းရှိပေလိမ့်မည်။ ရှိသည်ဆိုရာမှာလည်း ဘယ်ပုံဘယ်နည်းဖြင့် ရှိနိုင်ခဲ့သည်ဆိုတာကိုမူ ဉာဏ်ဖြင့်မြော်မြင်၍ သိသင့်ပါ

သည်။ နတ်စိမ်းအဖြစ်နှင့် ရှိခဲ့ဖူးသလား သို့မဟုတ် နတ်ယောင်ဆောင်ထားကြသော တစ္ဆေသရဲမျိုးအဖြစ်နှင့် ရှိခဲ့ကြသလားဆိုတာကိုမူ ခွဲခြားနားလည်သင့်လှသည်။နတ်ဖြစ်သွားသည်ဆိုသည့်သူတို့၏ လူ့ဘဝသမိုင်းကြောင်းများကို ပြန်၍သုံးသပ်ဆင်ခြင်ကြည့်မည်ဆိုလျှင် ဖြစ်ဖို့များနေသည်မှာ တစ္ဆေ၊ သရဲအခြေအနေမျိုးလောက်သာ ဖြစ်ဖို့အခွင့်လမ်းက ပို၍များနေပါသည်။ အဘယ့်ကြောင့်ဆိုသော် နတ်ဖြစ်သွားကြသည်ဟု ယူဆခံထားရသောပုဂ္ဂိုလ်တွေသည် အစိမ်းသေ သေခဲ့ကြရသူတွေချည်းသာ ဖြစ်နေသောကြောင့် ဖြစ်သည်။ အကယ်၍များ ထိုပုဂ္ဂိုလ်များသည် တစ္ဆေသရဲအဖြစ်မျိုးနှင့် တစ်ချိန်တစ်ခါက တကယ်ပဲ ရှိသွားခဲ့ကြသည်ဆိုလျှင် သံသရာသဘောတရားအရ ယခုလောက်ဆို ရှိချင်မှရှိတော့မည်။

ဤစာတမ်းကို ရေးသားနေစဉ်အတွင်း ပရိတ်တရားတော်များကို အထူးရွတ်ဖတ်သရဇ္ဈာယ်ခြင်းကိုပြု၍ '၃၇'မင်း အပါအဝင်ဖြစ်သော နတ်များကို အမျှပေးဝေခြင်း၊ မေတ္တာပို့ခြင်းများကို ပြုလုပ်ခဲ့သည်။ ထို့နောက် နတ်တို့အား ဖိတ်မန်ခဲ့သည်။ အကယ်၍များ အသင်နတ်မင်းများသည် အမှန်တကယ်ပင် သက်ရှိထင်ရှားရှိနေကြသေးလျှင် အကျွန်ုပ်ရွတ်ဖတ်၊ သရဇ္ဈာယ်အပ်သော၊ တရားမင်းတို့၏ အရှင်ဖြစ်သော၊ ဘုရားဟောကြားတော်မူခဲ့သော ပရိတ်တရားတော်များကို လာရောက်နာယူကြပါကုန်။ ပရိတ်တရားတော်များကို ရွတ်ဖတ်သရဇ္ဈာယ်နေသူ၊ ကြားနာနေသူ ရဟန်း, ရှင်, လူ, ပြည်သူ၊ ပြည်သားတို့အားလည်း တရားနှင့်လျော်ညီသော အစောင့်အရှောက်များကို ပေးကြပါကုန်ဟု မေတ္တာများပို့၍လည်းကောင်း၊ အဓိဋ္ဌာန်ပြု၍လည်းကောင်း တိုက်တွန်းနိုးဆော်ခဲ့ပါသည်။ အကယ်၍များ နတ်ဘဝနှင့် ထင်ရှားရှိနေကြသေးလျှင် အိပ်မက်၌သော်လည်းကောင်း၊ စာရေးသူ၏ စိတ်အာရုံ၌သော်လည်းကောင်း၊ ထူးခြားသောအရိပ်အယောင်တို့ဖြင့် အရိပ်အမြွက်မျှဖြင့်သော်လည်းကောင်း ပြသကြရန် တိုက်တွန်းခဲ့ပါသည်။ သို့သော် နတ်နှင့်စပ်သော အရိပ်အယောင်ဟူ၍ ဘာအရိပ်အယောင်မျှ မတွေ့ခဲ့ရပါ။





ထိုမှတစ်ပါး ဤသုတေသနစာတမ်းကို ရေးသားပြုစုနေစဉ်အတွင်းမှာလည်း မင်းမဟာဂီရိနတ်နန်းတည်ရှိရာ ပုပ္ပားတောင်၊ ပုပ္ပားမယ်တော်နန်းတည်ရှိရာ ပုပ္ပားတောင် ၊ '၃၇'မင်းဆိုင်ရာ နတ်များတည်ရှိရာ ညောင်ဦးဒေသရှိ ရွှေစည်းခုံစေတီကြီး၊ အမရပူရမြို့ ရတနာဂူဘုရား၊ မင်းကြီး၊မင်းလေးတို့တည်ရှိရာ တောင်ပြုံးဒေသသို့ သွားရောက်၍ နတ်များအား မေတ္တာပို့ခြင်း၊ အမျှပေးဝေခြင်းများကိုပြု၍၊ အကယ်၍များ နတ်ဘဝနှင့် အသက်ထင်ရှားရှိနေကြသေးလျှင် အိပ်မက်၌သော်လည်းကောင်း၊ ကျွန်ုပ်မြင်နိုင်သော အရပ်၌သော်လည်းကောင်း ကိုယ်ထင်ရှားပြ၍ သက်သေပြုကြပါရန် မေတ္တာရပ်ခံခဲ့ပါသည်၊ သို့သော် ကိုယ်ထင်ရှားပြခြင်း၊ နတ်နှင့်ဆိုင်သော တစ်စုံတစ်ရာ အိပ်မက်မက်ခြင်းများ မရှိသည်ကိုထောက်၍ သံသရာသဘောတရားအရ အထက်နတ်ဘုံများသို့ဖြစ်စေ၊ သို့မဟုတ် သူတို့၏ ကံစီမံရာ ဘဝများဆီသို့ဖြစ်စေ ပြောင်းရွှေ့သွားကြပြီဟုသာ စာရေးသူအနေနှင့် ထင်မြင်ယူဆလိုက်သည်။

မှားယွင်းသော ယုံကြည်စွဲလမ်းမှုမျိုးဆိုသည်မှာ နှစ်ရှည် လများစွာ လက်ခံထားသူအား အမှားတွေများသည်ထက် များလာနိုင်သည်။ ထို့ ကြောင့် အမှားတစ်ခုကို အကြောင်းပြု၍ သို့မဟုတ် မှားယွင်းစွာ ကိုးကွယ်နေရသော အယူမှားတစ်ခုကို အကြောင်းပြု၍ မိမိကိုယ်ကိုလည်းကောင်း၊ သူတစ်ပါးကိုလည်းကောင်း ပစ္စုပ္ပန်သံသရာ၌ နစ်နာစေနိုင်သော အဖြစ်မျိုးနှင့် ပစ္စုပ္ပန်အကျိုးစီးပွား၊ သံသရာအကျိုးစီးပွားတို့ကို ဆုတ်ယုတ်စေနိုင်သော အဖြစ်မျိုးတို့ကို ဗုဒ္ဓဘာသာဝင်တို့အား မဖြစ်စေသင့်ဟု ယုံကြည်ယူဆထားမိသောကြောင့် ဤစာတမ်းကို ကြိုးစား၍ ရေးသားခဲ့ပါသည်။

ဤစာတမ်း၏ ရည်ရွယ်ချက်မှာ မှားယွင်းသော နတ်ကိုးကွယ်မှုတို့ကို ဗုဒ္ဓဓမ္မနှင့်အညီ ကိုယ်ပိုင်ဉာဏ်ဖြင့် ဖယ်ရှားနိုင်ရန်နှင့် ဗုဒ္ဓတရားတော်များကို ကိုယ်တိုင်လည်းသိ၊ သိသည့်အတိုင်းလည်း ရှိရှိသသေ၊ လေးလေးစားစားဖြင့် ကျင့်သုံးနိုင်ရန် ရည်ရွယ်၍ စေတနာဖြင့် မကျဉ်းမကျယ်ရေးသား ပြုစုခြင်းဖြစ်သည်။ မကျဉ်းမကျယ် ရေးသားပြုစုထားသော ဤသုတေသန စာတမ်းမှဖြင့် နတ်ကိုးကွယ်မှုဆိုင်ရာ သိသင့်သိထိုက်သည်များကို ပြည့်ပြည့်စုံစုံ ရေးသားထား

ပြီးပြီဟူ၍လည်းကောင်း၊ ဤစာတမ်းကို ရေးသားပြုစုရခြင်း ကုသိုလ်စေတနာမှုလောက်ဖြင့် သာသနာ့ကျေးဇူးများကို ပြည့်ပြည့်စုံစုံပေးဆပ်နိုင်ပြီဟူ၍လည်းကောင်း ရေးသားပြောဆိုရန် မဝံ့ရဲသေးပါဟူ၍ . . . ။

ဒေါက်တာအရှင်ဓမ္မပိယ(ပါမောက္ခ)

အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြုတက္ကသိုလ်။





## ကျမ်းကိုးစာရင်း


၁။ မဟာဝဂ္ဂပါဠိ၊ ဒီဃနိကာယ်၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၃။

၂။ မဟာဝဂ္ဂအဋ္ဌကထာ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၃။

၃။ မဟာဝဂ္ဂပါဠိတော် မြန်မာပြန်၊ သာသနာရေးဦးစီးဌာန ပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၇။

၄။ မဟာဝဂ္ဂ သံယုတ္တပါဠိ၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၃။

၅။ သံယုတ်ပါဠိတော် မြန်မာပြန် (တတိယတွဲ)၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၂ ။

၆။ ပရိတ်ကြီးပါဠိတော်၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ကမ္ဘာအေး၊ ရန်ကုန်၊ ၁၉၉၅။

၇။ ဆရာတော်အရှင်ဝါသေဋ္ဌာဘိဝံသ၊ ပရိတ်ကြီးနိဿယသစ်၊ စိုးမိုးမိတ်ဆက် ပုံနှိပ်တိုက်၊ ရန်ကုန်၊ ၁၉၉၂၊ သတ္တမအကြိမ်။

၈။ မြန်မာ့စွယ်စုံကျမ်း၊ စာပေဗိမာန်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ပထမအကြိမ်၊ ၁၉၆၂။

၉။ မြန်မာအဘိဓာန်၊ ဥက္ကာကျော်ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ပထမအကြိမ်၊ ၁၉၉၉။

၁၀။ ကုလား၊ ဦး။ မဟာရာဇဝင်ကြီး(ပထမအုပ်)၊ ရန်ကုန်မြို့။ ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက်၊ ၁၉၆၀။

၁၁။ မှန်နန်းမဟာရာဇဝင်တော်ကြီး၊ ရန်ကုန်မြို့၊ ပြန်ကြားရေးဝန်ကြီး ဌာန၊ ၂၀၀၃။
၁၂။ ဦးဖိုးကျား၊ (၃၇) မင်း၊ ဒေါ်ခင်ခင်ဝင်းပုံနှိပ်တိုက်၊ သုဝဏ္ဏမြို့၊ ရန်ကုန်၊ ၁၉၉၉၊ ဒုတိယအကြိမ်။
၁၃။ ဦးထွေးဟန် (ဘာသာပြန်)၊ ဦးဘဟန် (စုဆောင်းရှာဖွေ တင်ပြသူ)၊ မြန်မာ့မိရိုးဖလာခလေ့နတ်သမိုင်း၊ ရွှေဥဒေါင်း ပုံနှိပ်တိုက်။ ရန်ကုန်မြို့၊ ၁၉၉၁၊ ဒုတိယအကြိမ်။
၁၄။ ဦးခင်မောင်သန်း (စိတ်ပညာ)၊ ရိုးရာနတ်ယုံကြည်မှုနှင့် ဓလေ့ ထုံးစံများ၊ Wizard ကွန်ပျူတာနှင့် အော့ဖ်ဆက်၊ ရန်ကုန်မြို့၊ ၂၀၀၁၊ ဒုတိယအကြိမ်။
၁၅။ Maung Htin Aung, Folk Element in Burmese Buddhism. The Religious Affairs Dept. Press. Rangoon, Burma, 1959.
၁၆။ လူထုဒေါ်အမာ၊ အမေ့သတိရတဲ့ပွဲတောင်ပြီ၊ ရွှေမြန်မာမဂ္ဂဇင်း၊ အမှတ်၄၊ စက်တင်ဘာနိုင်ငံ၊ ၂၀၀၃။
၁၇။ အရှင်မဟာသီလဝံသ၊ သံဝေဂခန်းပျို့၊ ဟံသာဝတီပုံနှိပ်တိုက်၊ ရန်ကုန်မြို့။ ၁၉၅၈။
၁၈။ အရှင်မဟာရဋ္ဌသာရ၊ ဘူရိဒတ်ဇာတ်ပေါင်းပျို့၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ပုံနှိပ်တိုက်၊ ရန်ကုန်မြို့၊ ၁၉၅၉။



# ဗုဒ္ဓဘာသာဝင်များနှင့် နတ်ကိုးကွယ်မှု ရှင်းတမ်း

(ဘာသာရေးဆိုင်ရာ သုတေသနစာတမ်း)

ဒေါက်တာ အရှင်ဓမ္မပိယ(ပါဠေဟာက္ခ)

အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်၊ ရန်ကုန်။